# MAHĀJANAKA JÂTAKA VATTHU.

# မဟာဇနက
# ဇာတ်တော်ကြီးဝတ္ထု။

မြန်မာသက္ကရာဇ် ၁၂၇၈ ခု၊ တပို့တွဲလ။

ခရစ်ယာန်သက္ကရာဇ် ၁၉၁၇ ခု၊ ဇန်နဝါရီလ။

PUBLISHED UNDER THE AUTHORITY OF THE

TEXT BOOK COMMITTEE.



RANGOON:

PRINTED AT THE AMERICAN BAPTIST MISSION PRESS,

J. L. SNYDER, SUPT.

1917.

Price 8 Annas. အဘိုး [illegible]

# MAHĀJANAKA JÂTAKA VATTHU.

# မဟာဇနက ဇာတ်တော်ကြီးဝတ္ထု။

မြန်မာသက္ကရာဇ် ၁၂၇၁ ခု၊ တပို့တွဲလ။

ခရစ်ယာန်သက္ကရာဇ် ၁၉၁၇ ခု၊ ဇန္နဝါရီလ။

PUBLISHED UNDER THE AUTHORITY OF THE

TEXT BOOK COMMITTEE.



RANGOON:

PRINTED AT THE AMERICAN BAPTIST MISSION PRESS,

J. L. SNYDER, SUPT.

1917.

ပဌာမ။

နမောတဿဘဂဝတောအရဟတောသမ္မာသမ္ဗုဒ္ဓဿ။

ဇနေသုအဂ္ဂေါဝမဟာနုဘာဝေါ။ဝိဒေါသရံသျှိဟိသုရံသျှိသံသော။ သုခေတ္တပတ္တေ သုခေတ္တော သုခလ္လိ။နမတ္ထု တေ [illegible]ဂု ဏ်သာသရောမေ။ ။ဥပေန္ဒဝဇိရာဂါထာ။

ဇနေသု။ လူတို့၌။ အဂ္ဂေါ။ နေမင်းသည်။ ဝိဒေါသရံသျှိဟိ။ အပြစ်ကင်းသောရောင်ခြည်တို့ဖြင့်။ သုခေတ္တပတ္တေ။ ဝိဝဋ္ဋာ ရိအသင်္ချေယျကပ်သို့ရောက်သည်ရှိသော်။ သုခေတ္တော။ နိုင်ခံ့သော မြေအတိုက်ကိုဖြစ်စေလျက်။ မဟာနုဘာဝေါ။ မဟာအနုဘာ ကာရံဝိဒမေဝတ္တောဝိယ။ ကြီးစွာသောအမိုက်တိုက်ကို ဖျောက်သကဲ့သို့။ သရံသျှိဟိ။ ရူပ ကာ ယ တော်မှ ထွက် လတ် သော ရောင်ခြည်တော်။ နာမကာယတော်မှ ထွက်လတ်သော မရေ တွက်နိုင်သော တရားရောင်ခြည်တော်တို့ဖြင့်။ ဇနေ သု။ဘုံသုံး ပါး ၌ ရှိ ကုန် သော ဝေ နေ ယျ တို့ ၏ သဏ္ဍာန် တို့ ၌။ မ ဟာနု ဟာဝေါ။ ကြီးစွာသောအဝိဇ္ဇာတည်းဟူသော အမိုက်တိုက်ကို ဖျက် ဆီး တော် မူတတ် ထသော။ သု ရံသျှိ သံသော။ ကောင်း သော ရောင်ခြည် တော် ချီးမွမ်း အပ်သော တရား နှင့် ပြည့် စုံ တော်မူထသော။ ယော ဝိဒေါ စ။ အကြင်လောကသုံးပါးကိုသိ တော်မူတတ်သောမြတ်စွာဘုရားသည်လည်းကောင်း။ အတ္ထိ။ ရှိတော်မူ၏။ဂုဏ်သာသရော။ ဂုဏ်သတ္တိအပေါင်းတို့ကို အစိုးရ တော်မူထသော။သု ရံသျှိ။ မတုန်မလှုပ်သောရောင်ခြည်လည်း ဖြစ်ထသော။ ယော သံသော စ။ အကြင်သူတော်ကောင်းတို့၏ ဥစ္စာ ဖြစ်သော ဆယ်ပါးသော တရားတော် မြတ် သည်လည်း ကောင်း။ အတ္ထိ။ ရှိတော်မူ၏။ သုခလ္လိ။ မဂ်ဖိုလ် နိဗ္ဗာန် ချမ်းသာ

လျှင် အာရုံ ရှိထသော။ သုခေတ္တုပဌ္ဌော။ ဇုဒ္ဓုပ္ပါဒကာလဟု ဆို
အပ်သော သာသနာ တော် စက်၌။ ယော သုခေတ္တော စ။ အ
ကြင် ကောင်းမှုကို ပြုသော သူတို့၏ ကောင်းမှုတည်း ဟူသော
မျိုးစေ့ စိုက်ပျိုးရာ လယ် မြေ ကောင်း သဘွယ် ဖြစ် သော ပရ
မတ္ထ သမ္မုတိ အရိယာ သင်္ဃာ တော် အ ပေါင်း သည် လည်း
ကောင်း။ အတ္ထိ။ ရှိတော်မူ၏။ သုခလ္လိ။ အကျွန်ုပ်ကို သူကောင်း
ပြုတော် မူပေထသော။ ယော ဂုဏ်သဘ ရော စ။ အကြင် ကျေး
ဇူးသခင် အရှင်မြတ်သည်လည်းကောင်း။ အတ္ထိ။ ရှိတော်မူ၏။
တေသံရတနတ္တယဂုဏံ။ ထိုရတနာသုံးပါး ကျေးဇူးရှင် ဆရာ
မြတ်တို့အား။ မေမမ။ အကျွန်ုပ်၏။ နမော နမကာရော။ ရှိခိုးခြင်း
သည်။ အတ္တုဘဝတု။ ဖြစ်စေသတည်း။

လူတို့၌နေမင်းသည်။ အပြစ်ကင်းသော ရောင်ခြည်တို့ဖြင့်။ ဝိဝဋ္ဋဋ္ဌာယီ အ သင်္ချေယျ ကပ် သို့ ရောက် သည် ရှိ သော်။ ခိုင် ခံ့ သောမြေအတို့ကိုဖြစ်စေလျက်။ ကြီးစွာသောအမိုက်တိုက်ကို ပျောက်သကဲ့သို့။ ရူပကာယတော်မှ ထွက်လတ်သော ရောင်ခြည်တော်။ နာမကာယ တော်မှ ထွက်လတ်သော မရေတွက်နိုင်သော တရား ရောင်ခြည် တော် တို့ဖြင့်။ ဘုံသုံး ပါး၌ ရှိကုန်သော ဝေနေယျ တို့ ၏ သန္တာန် တို့၌။ ကြီး စွာ သော အဝိဇ္ဇာတည်း ဟူ သော အမိုက် တိုက်ကို ဖျက်ဆီး တော် မူတတ် ထသော။ ကောင်းသောရောင်ခြည်တော်တည်းဟူသော ချီးမွမ်းအပ်သော တရားနှင့်ပြည့်စုံတော် မူထသော။ အကြင် လောကသုံးပါးကိုသိတော်မူ တတ်သော မြတ်စွာ ဘုရား သည်လည်းရှိတော်မူ၏။ ဂုဏ်သတ္တိ အပေါင်းတို့ကိုအစိုးရတော်မူထသော။ မတုန်မလှုပ်သောရောင်ခြည်တော်လည်းဖြစ်ထသော။ အကြင်သူတော်ကောင်း တို့၏ ဥစ္စာ ဖြစ်သော ဆတ်ပါးသော တရားတော် မြတ်သည်လည်း ရှိတော်မူ၏။ မဂ်ဖိုလ် နိဗ္ဗာန် ချမ်းသာလျှင်အာရုံရှိထသော။ ဗုဒ္ဓုပ္ပါဒ ကာလဟုဆိုအပ်သော သာသနာတော်စက်၌။ အကြင်ကောင်းမှုကိုပြုသောသူတို့၏ကောင်း

မှုတည်းဟူသော မျိုးစေ့ဗိုက်ပျိုးရာ လယ်မြေကောင်းသဘွယ်ဖြစ်သော ပရမတ္ထ သမ္မုတိ အရိယာ သစ္စာတော် အပေါင်းသည်လည်းရှိတော်မူ၏။ အကျွန်ုပ်ကိုသူကောင်း ပြုတော်မူပေထသောအကြင်ကျေးဇူးသခင်ဆရာအရှင်မြတ်သည်လည်းရှိတော်မူ၏။ ထိုရတနာသုံးပါး ကျေးဇူးရှင်ဆရာမြတ် တို့အား။ အကျွန်ုပ်၏ရှိခိုးခြင်းသည်ဖြစ်စေသတည်း။

ဤဂါထာ၌ထပ်၍အနက်ပေးသည်ကား။ ဝါကျသိလေသနည်းတည်း။ ။ပရမတ္ထ သမ္မုတိ အရိယာ သစ္စာတော် ဟုအနက်ပေးရာ၌။ ပရမတ္ထသစ္စာသာလျှင်အရိယာမဟုတ်။ မဂ်ဖိုလ် မရ သော သမ္မုတိ သစ္စာ သည်လည်း အရိယာ မည်၏ဟု စကားရောက် ခဲ့သည်။ အသို့လျှင် အရိယာ မည်နိုင် ပါအံ့နည်းဟူငြားအံ့။ ။သောပနအရိယောစတုဗ္ဗိဓောဟောတိ အာစာရ အရိယော ဒဿန အရိယော လိင်္ဂ အရိယော ပဋိ ဝေဓ အရိယောတိ။ တတ္ထ မနုဿော ဝါ ဟောတု တိရစ္ဆာနော ဝါ အရိယာ စာရေ ဌိတော အာစာရအရိယော နာမ။ ပ။ ရူပေန ပန ဣရိယာ ပထ ပါသာ ဒိကေန ဒဿနီ ယေန သမန္နာ ဂတော ဒဿနအရိယောနာမ။ နိဝါသနပါရုပနလိင်္ဂဂဟဏေန ပနသမဏသဒိသော ဟုတွာဝိစရန္တော ဒုဿီလောဟုတွာပိလိင်္ဂအရိယောနာမ။ ဗုဒ္ဓါဒယော ပန ပဋိဝေဓ အရိယောနာမ။ ။ဟူ၍ တိကနိပါတ် တိလမုဋ္ဌိဇာတ်တွင်လာသည်။ ။ဤသို့ကျမ်းလာ သောကြောင့်။ အရိယာကား။ အာစာရအရိယာ။ ဒဿနအရိယာ။ လိင်္ဂ အရိယာ။ ပဋိဝေဓ အရိယာ ဟူ၍ လေး ပါး ပြား၏။ ထို လေးပါး တို့တွင်။ လူ။ တိရစ္ဆာန် တို့ပင် ဖြစ်သော်လည်း။ မြတ်သော အကျင့်ကို ကျင့်လျှင်။ အာစာရ အရိယာ မည်၏။ ထိုလူ။ တိရစ္ဆာန် တို့ပင်လျှင်လည်း။ မြတ်သောအကျင့်ကို ကျင့်သည် ဖြစ်စေ။ မကျင့်သည် ဖြစ်စေ။ အထင် အမြင်အားဖြင့်။ သွားခြင်း နေခြင်း ကြည့်ခြင်း စသည့်ကြည်ညိုဘွယ်ရှိလျှင် ဒဿန အရိယာ မည်၏။ ဝင်း ဣရိယာပုထ်၌ ကြည်ညို

ဘွယ် မရှိသည်ပင်ဖြစ်စေ။ ဝတ်ခြင်းရုံခြင်းဖြင့် ရဟန်းတို့နှင့်
အသွင်တူလျှင်။ ဒုဿီလစင်စစ်ဖြစ်သော်လည်း ထိုက်အရိယာ
မည်၏။ ဘုရားအစရှိသော ပရမတ္ထပုဂ္ဂိုလ်တို့သည်။ မဂ်ဖိုလ်
နှင့် ပြည့်စုံ ခြင်းကြောင့်။ ပဋိဝေဓအရိယာမည်၏။ ယင်းသို့တိ
ရစ္ဆာန်၊ လူတို့ပင်လည်း။ မိမိတို့အား ထိုက်ရာအကျင့်ကို ကျင့်
ကာမျှ။ အာစာရ အရိယာ မည် တုံ သေး၏။ သမ္မုတိ သင်္ဃာ
တော်တို့မှာ။ မြတ်စွာဘုရားသည် ပေးတော်မူအပ်သော ဝတ်
ခြင်းရုံခြင်း စသော ရဟန်းတို့အသွင်။ သွားခြင်းနေခြင်း ကြည့်
ခြင်းစသော ဣရိယာပုတ်တို့၏ ကြည်ညိုဘွယ်။ အဘိသီလအာ
စာရ ဂေါစရ ဟုဆို အပ် သော မြတ် သော အကျင့် သီ လ ကို
ကျင့်ဆောင် တော်မူ သည် ဖြစ် လျက်။ အဘယ် ကြောင့် အရိ
ယာ မဖြစ်ထိုက်ရှိအံ့နည်း။ အလွန် အရိယာဟု ဆိုထိုက် လှ၏။
မဂ်ဖိုလ်ကို မျက်မှောက် ပြုသူ မဟုတ် သောကြောင့် သာ။ ပရ
မတ္ထသင်္ဃာတော်ဟုမချမဆိုရ။ ဥပစာရအားဖြင့်ကား။ သမ္မု
တိသင်္ဃာတို့ ကျင့်သော စတုပါရိသုဒ္ဓိ သီလကိုပင်လျှင်။ ပရ
မတ္ထ သင်္ဃာလည်း ကျင့်တော် မူသောကြောင့်။ အကျင့် သီလ
တူသည် ဖြစ်၍။ သဒိသူပစာရ အားဖြင့်။ သမ္မုတိ သင်္ဃာ တို့
ကျင့် အပ်သော သီလသည် မဂ်ဖိုလ်ရခြင်း၏ အကြောင်း ဖြစ်
သောကြောင့်လည်း။ ဖလူပစာရအားဖြင့်။ ပရမတ္ထသင်္ဃာဟူ
၍ပင် ဆိုအပ် ပါသေး၏။ ဤ အကြောင်းကို။ ။သီလဝန္တာ ပု
ထုဇ္ဇနော သောတာပန္နေယေဝ သင်္ဂဟိတော။ ။ဟု အဋ္ဌက
ထာဆရာမိန့်၍ ရှိလေပြီ။ ပရမတ္ထသမ္မုတိ အရိယာ ဟူသော စ
ကား၌။ ပရမတ္ထ အရိယာ သင်္ဃာ။ သမ္မုတိ အရိယာ သင်္ဃာဟု
အရိယ သဒ္ဒါကို နှစ်ပုဒ် လုံး၌ စပ်၍ ယူပါ။ ပရ မတ္ထ နှင့် ယှဉ်
သော အရိယ သဒ္ဒါဖြင့်။ ဆိုခဲ့ပြီးသော အရိယာ လေး ပါး လုံး
ကိုပင်ယူ။ သမ္မုတိနှင့်ယှဉ်သောအရိယာသဒ္ဒါဖြင့်။ အာစာရ။
ဒဿန။လိင်္ဂ။ဤသုံးပါးနှင့်ပြည့်စုံသောအရိယာကိုယူ။ဤသို့ယူ
ခြင်းကား။သက္ကရကာထလိကာဋ္ဌိမဏ္ဍာဂုမ္ဗဋ္ဌိစရဏ္ဍ၊ဋ္ဌိတိဋ္ဌသဋ္ဌိပသာ

တိဟာ။ ရေထဲ၌ ကျောက်စစ်၊ ဒိုးခြမ်း၊ ငါး၊ လိပ်အပေါင်းတို့ သွားသည်တည်သည်ကိုမြင်၏ဟူ၍။ ကျောက်စစ်မသွားတတ် ဘဲလျက်။ တဝါကျတည်းဆိုသော်လည်း။ သက္ခရကထလိကမ္ပိ ကိုတိဋ္ဌန္တမ္ပိနှင့် တွဲစပ်၍။ မစ္ဆဂုမ္ဗမ္ပိကို စရန္တမ္ပိ တိဋ္ဌန္တမ္ပိ နှစ်ပုဒ် လုံးနှင့် တွဲစပ်၍ ယူသကဲ့သို့။ ဤ၌ လည်း ယထာ လာဘနည်း အားဖြင့် တွဲစပ်၍။ ရသင့်ရာအရိယာကို ယူပါဆိုလိုသည်။ စ ကား ထွက်တိုင်း ဝင့်၍ မျှင်မှု။ အခင်ကြီးသဖြင့်။ ပြီးခဲ့မည် စိုး သောကြောင့်မဆိုပြီ။ ။ဤဇနေသုအစရှိသောဥပေန္ဒဝဇိရာဂါ ထာဖြင့်။ ဂန္ထာရမ္ဘ သုံးပါး တို့တွင်။ အာသိသပုဗ္ဗက ဂန္ထာရမ္ဘ ကိုပြပြီး၍။ တောင်းပန်သောသူ၏ဆန္ဒအားလျော်စွာ။ မဟာဇ နက ဇာတ်တော်၏ အဋ္ဌုပ္ပတ္တိကို ပါဠိတော်လာတိုင်း။ သိသာ နာပျော်ဘွယ်ရှိအောင်။ စကားပြေစီကုံးပေအံ့။

## ပစ္စုပ္ပန်ဝတ္ထုနိဒါန်း။

နေမင်း၏ အဆွေ ဖြစ်တော် မူသော မြတ်စွာ ဘုရား သည်။ ကောသလတိုင်း သာဝတ္ထိ ပြည်ကြီး၏ အနောက်သို့ စည်းငယ်ယွန်းသော တောင်မျက်နှာ။ ကုလလေးတာ ငါးရာခြားသောအရပ်၌။ ဇေတ မင်း၏ ဥယျာဉ်ကို။ ငါးဆယ် လေးကုဋေ သော ဥစ္စာတို့ဖြင့်ဝယ်၍။ အနာထပိဏ်သူဌေးသည် ဆောက်လှူ ကိုးကွယ်အပ်သော ဇေတဝန် ကျောင်းတော်၌ နေတော်မူသောအခါ။တနေ့သ၌ တရားသဘင်ဝယ်။ ပရိသတ်အစည်းအဝေး ဖြစ်ကြ လတ်သော်။ ရဟန်းတို့သည်။ ဤသို့နိက္ခမ ပါရမီ တော်ကို ချီးမွမ်းကြကုန်၏။

အရှင်တို့။ လူ သုံးဦး တို့ဆရာ ဖြစ် တော် မူသော မြတ် စွာ ဘုရားသည်။ မဟာသမတ မင်းမှ ဆင်းသက်၍ ဩလက်ထက်တော်တိုင်။ ထီးရိုး နန်းစည်မင်းဆက် မပြတ် သားမြေးအစည်အတိုင်း စိုးစံ ကြသော အသမ္ဘိန္န ခတ္တိယ အနွယ် အမျိုး တော်၌ ဖြစ်သော ဤအတုမရှိသော စည်းစိမ်တော်တွင်။ မင်းဆက်တကာတို့မစံရဘူးသော ရွှေအိုးကြီး လေးလုံးနှင့်တကွ။ ကာလရတုဥတုရာသီနှင့်လျော်စွာ အချမ်းအပူကို မှုစေတတ်သော နန်းသုံးဆောင်တို့ဝယ်။အလှယ်လှယ်အပြောင်းပြောင်း။အသောင်းမကသောမင်းသွီးတို့၏အကြီးဖြစ်သောမျောက်သားတော်မင်းသွီးနှင့် အတူတကွစိုးစံတော်မူ၍။ အလွန်ကာမဂုဏ် ချမ်းသာဖြင့်သိမ်မွေ့ နူးညံ့သော ကိုယ်တော် နှလုံးတော် ရှိသူဖြစ်လျက်။ နိမိတ်လေးပါးကို မြင်ကာမျှဖြင့်။ ကာမဂုဏ် အနှောင်အဖွဲ့ကို ဖြတ်တော်မူ၍။ အလွန်ကြင်နာလှစွာသော မျောက်သား တော် မင်းသွီးကိုမျှမသိစေဘဲ။ဆန္နအမတ်တယောက်ကိုသာအဖော်ပြုတော်မူလျက်။သဗ္ဗညုတဉာဏ်အလို့ငှာ။ မြင်းတော်နှင့်တော

သို့ထွက်ကြွတော်မူ၍။ ရဟန်းပြုတော်မူနိုင်လေသည်ကား။ အ
လွန်အံ့ဩဘွယ်ရှိစွဟု နိက္ခမပါရမီတော်ကို ချီးမွမ်း၍နေကြ
ကုန်၏။ မြတ်စွာဘုရားသည်။ ဂန္ဓကုဋိဘုရား နေရာတော်၌ နေ
တော်မူလျက်။ တရားသဘင်၌နိက္ခမပါရမီကို ချီးမွမ်းလျက်ရ
ဟန်းတို့ နေသောအကြောင်းကိုသိတော်မူလျှင်။ ဤအကြောင်း
ကို မှီ၍။ ဤအဋ္ဌုပ္ပတ်ကို ဟောရသဖြင့်။ ဤမျှ လောက် သော
သတ္တဝါ တို့သည်။ အကျွတ် တရားကို ရလတံ့ သည်ဟု မြင်
တော်မူသည်နှင့်လျော်စွာ။ ရဟန်းပရိသတ်ရှိရာ တရားသဘင်
သို့ ကြွတော်မူ၍။ ခင်း အပ်သော ဘုရားနေရာ၌ နေတော် မူပြီး
သော်။ သံသရာဘေးကိုရှုလေ့ရှိသော ငါ၏ တပည့် သားတော်
အပေါင်းတို့။ ယခု ငါမရောက်မှီတွင် သင်တို့ အဘယ် စကား
ကိုပြော၍ နေကြ သနည်းဟု မေးတော် မူ၏။ ရဟန်းတို့ သည်
လည်း။ ဘုန်းတော်ကြီးလှသောအရှင်ဘုရား။ ယခုကိုယ်တော်
၏ နိက္ခမပါရမီတော်ကို အံ့ဩချီးမွမ်း၍ နေကြ ပါသည်ဟု
လျှောက်လျှင်။ မြတ်စွာ ဘုရားသည်။ ငါ၏ တပည့် သားတော်
အပေါင်းတို့။ အဆက်ဆက်သောပါရမီ အထွဋ်အထိပ်ဖြစ်၍။
သဗ္ဗညုတဉာဏ်သည် လက်သို့ရောက်လုနီးသော ယခုဘဝ၌။
ငါ ဘုရား၏ မဟာဘိနိက္ခမဂုဏ်ကို မအံ့ဩ လောက်သေး။
ရှေးပါရမီနုစဉ်ကပင်။ ယခုကဲ့သို့သောမင်းစည်းစိမ်၌။ ရာဟု
လာမိခင်ကဲ့သို့ အလွန်မြတ်သော မင်းသ္မီးနှင့် ထီးနန်း စံလျက်
လည်း။ ယခုမြင်သော နိမိတ်လေးပါး ကဲ့သို့မျှ သံဝေဂ မထင်
ရှား လောက်သေးသော နိမိတ်ကို မြင်သဖြင့်။ မင်း စည်းစိမ် ၌
ငြီးငွေ့၍။ နန်းတော်၌တရုံတယောက်ကိုမျှမသိစေရဘဲ ရဟန်း
အသွင်ကို ယူလျက်။ ယခု ကဲ့သို့မျှ အဘော်မပါ တ ယောက်
တည်း သာလျှင်။ ဟိမဝန္တာသို့ ရှေ့ရှု သွားစည်။ ယခုကဲ့သို့ မျှ
လွတ်လွတ်မသွားရ။ စည်းစိမ်ဘက် မင်းသ္မီး ကြွားသိသဖြင့်။
ငါ့နောက်သို့ အစည်တစိုက် ဟိမဝန္တာ တောဝနားတိုင်အောင်
လိုက်လျက်။ နန်းသို့ ပြန်မည် အကြောင်းကို အသွယ်သွယ် အ

ပြားပြား များစွာသော ပရိယာယ်ဖြင့်။ ခုံခုံမင်မင် ဘက်လဲတကင်း ပြားယောင်း တောင်းပန်လျက်လည်း။ ထို အလုံးစုံသော ကာမဂုဏ် ချမ်းသာကို ခံတွင်းနှင့်ကင်းလေပြီးသော တံတွေးကဲ့သို့ငဲ့ကွက်ခြင်းမရှိ။ သဗ္ဗညုတ ဉာဏ်တည်းဟူသောစည်းစိမ် တော်ကိုသာ တောင့်တ ခြင်းဖြင့်။ တောထွက်တော် မူဘူးလေပြီဟု အရှည်ဆက်လို၍ အမြွက် မိန့်တော် မူပြီးလျှင်။ အရဟတ္တဖိုလ်စည်းစိမ်ကိုခံစား၍နေတော်မူလေ၏။

ထိုအခါ ရဟန်းတို့သည်။ ဘုန်းတော် ကြီးလှသော တရားမင်းဘုရား။ ရှေး၌တောထွက်တော်မူဘူးကြောင်းကို အကျယ်ဟောတော် မူပါမှ။ တပည့် သားတော် အပေါင်းတို့ သိမှတ် ရပါမည်ဟု လျှောက်ထား တောင်းပန် ကြလတ်သော်။ မြတ်စွာဘုရားသည်။ တောင်းပန် ခြင်းနှင့် လျော်စွာ။ မဟာဇနကမင်းကြီး ဖြစ်၍ မိဖုရား ကြီး နှင့် စိုးစံ ခဲ့ပြီးမှ။ တော ထွက် တော် မူကြောင်းတွင်ရှေ့သော ဟောတော် မမူဘဲ။ မဟာ သမုဒ္ဒရာ၌နစ်မွန်းလျက်။ ယောက်ျား တို့၏ လုံ့လကို မလျှော့ ခြင်း ကြောင့်။ အကျိုး ထူးကို ရဘူးကြောင်းနှင့် တကွ အရင်း အမြစ်က စ၍ ဟောရလျှင်။ အလွန်အံ့ဩဖွယ်ရှိသဖြင့်။ကျွတ်ထိုက်သော ဝေနေယျတို့လည်း။ ထိုကိုမှီ၍ အကျွတ်တရား ရခြင်း ပရိသတ် အပေါင်းတို့ မှတ်နာရသဖြင့်လည်း။ အလွန်ကျေးဇူး များခြင်း အကျိုးသည် ရှိ၏ဟု သိမြင်တော်မူသည်ဖြစ်၍။ ဝေနေယျတို့၏ အလိုအား လျော်စွာ။ အမြစ်အရင်း မကြွင်းစေ့ရုံစွာ။ ကောယံ မဇ္ဈေသမုဒ္ဒသ္မိံ။ အစရှိသော ဂါထာတို့ဖြင့် တန်ဆာ ဆင်အပ်သော ဤမဟာဇနကဇာတ်တော်ကိုဟောတော်မူ၏။ ။ဤစကား၌။ မဟာဘိနိက္ခမနံဝဏ္ဏယန္တာ နိသိန္နာ"သုဟု တရားသဘင်၌ တောထွက်တော် မူခြင်းကို ရဟန်းတို့ ချီးမွမ်း၍ နေကြ ကုန်သည်သာ သာမည ဆိုသည်။ မည်သို့ ချီးမွမ်းသည်ဟူ၍ မဆိုဖြစ်လျက်။ ထိုသို့ချီးမွမ်း ကြောင်းကို ဆိုလို သည်ကား။ ဝန်းသော အချက်ကို မြင်သဖြင့်။ ထိုအချက်၏ အစေ့ သည်လည်း

ဝန်းရာ၏ဟု ဆိုနိုင်ရာ သကဲ့သို့။ မြတ်စွာ ဘုရားတို့ မည်သည်
လည်း။ အကြောင်းနှင့် လျော်စွာသော အကျိုးကို ဟောတော် မူ
သော ကြောင့်။ အကျိုး ဒေသနာ တော်ဖြစ်သော မဟာ ဇနက
ဝတ္ထုကိုထောက်သဖြင့်။ ထိုဒေသနာတော်၏ ဟောကြောင်းနိ
ဒါန်း ဖြစ်သော ရဟန်း တို့၏ အချီးအမွမ်း စကား ကို လည်း။
ဝတ္ထုနှင့် လျော်စွာ။ ဤသို့ ချီးမွမ်းသည် ဖြစ်ရာ၏ဟု ဆိုလျော်
သင့်မြတ်။ လျောက်ပတ်တင့်တယ်အောင်။ စကားကိုတန်ဆာ
ဆင်လိုက်သည်။

မြတ်စွာ ဘုရား သည်။ ရဟန်း တို့ ချီးမွမ်း ကြသည်ကို သိ
တော်မူလျက်။ မကြားမသိယောင်ကဲ့သို့ မေးတော် မူလေသည်
ကား။ ။ဇာနန္တာပိတထာဂတာပုစ္ဆန္တိ။ ဇာနန္တာပိနပုစ္ဆန္တိ။ ။
ဟူသော ပါဠိတော်နှင့်အညီ။ သိလျက်ပင်မေးတော်မူခြင်း။ သိ
လျက်ပင် မသိယောင်ကဲ့သို့မမေးနေတော်မူခြင်းသည်။ ဘုရား
တို့ ဓမ္မတာဖြစ်၍ သိလျက်ပင် မေးတော်မူသတည်း။ အဘယ်
ကို ဆင်ခြင်တော်မူ၍ သိလျက်ပင် မေးတော်မူခြင်း။ မမေးနေ
တော်မူခြင်းကို ပြုလေသနည်း ဟူမူကား။ ။ကာလံ ဝိဒိတွာ
ပုစ္ဆန္တိ။ ကာလံ ဝိဒိတွာ န ပုစ္ဆန္တိ။ ။ဟူသောပါဠိနှင့်အညီ။ သိ
တော်မူသော်လည်း။ မေး၍အကျိုးစီးပွားများသည်အခါ။ မေး
၍ အကျိုးစီးပွား မရှိသည်အခါကို မြော်တော်မူသဖြင့်။ အကျိုး
စီးပွား များမည်အခါဖြစ်လျှင် မေးတော်မူ၏။ အကျိုးစီးပွား မ
ရှိမည်အခါဖြစ်လျှင် မေးတော်မမူ။ ။မြတ်စွာဘုရားတို့ မေး
တော်မူခြင်း အကြောင်းကား။ ။တထာဂတာနံ ဒွိဟိ ကာရ
ဏေဟိ ဗုဒ္ဓါ ဘဂဝန္တော ဘိက္ခူ ပဋိပုစ္ဆန္တိ။ ဓမ္မံဝါ ဒေသိဿာ
မ သာဝကာနံဝါ သိက္ခာပဒံ ပညပေဿာမာတိ။ ။ဟူသော
ပါဠိ တော်နှင့် အညီ။ ဇာတ် ဝတ္ထုစသော အဋ္ဌုပ္ပတ္တိကို ဟော
တော်မူလိုသောကြောင့်လည်းကောင်း။ ရဟန်းတို့အားသိက္ခာ
ပုဒ်ကို ပညတ်တော် မူလိုသော ကြောင့်လည်း ကောင်း။ ဤအ
ကြောင်း နှစ်ပါးတို့တွင်။ တရရသော အကြောင်းပေါ်ရှိ၍ မေး

အပ်သောအခါကြွမ်လျှင်။ အခါကို သိသည့်နှင့် လျှော်စွာ မေးတော်မူ၏။ အကြောင်းပင်ရှိသော်လည်း။ အခါမဟုတ်လျှင်မေးတော် မမူ။ ဤဓာတ် တော်ကို ဟောတော်မူသော အခါ ကား။ မေးအပ်သော အကြောင်း။ မေးအပ်သော ကာလ ကြွမ်သည်ဖြစ်၍။ သိတော် မူလျှက်ပင် မေးတော် မူလေ သတည်း။ ထိုတရား သဘင်၌၊ ဘုရား ကြွတော် မူလာမှ နေ ရာ ခင်း ရ လေ သလောဟူမူကား။ ဘုရားကြွတော်မူလာမှခင်းသည်မဟုတ်။မည်သည့်အရပ်မှာ မဆို။ ရဟန်းတို့သည် အစည်းအဝေး ပြုသည်ဖြစ်စေ။ တယောက်တည်းပင်နေသည်ဖြစ်စေ။အကြောင်းပေါ်ရှိ၍ လျှောက် ပတ်သောအခါ ဖြစ်လျှင်။ ထို ရဟန်းတို့ ရှိရာ သို့ရှောင်းတခင် ကြွလာတော်မူတတ် သောကြောင့်။ နေရာတော်ခင်း၍အစည်ပင် ထားကြရသည်ဟုမှတ်အပ်၏။ ။ဤကားစကားချပ်တည်း။



## မဟာဇနက ဇာတ်တော်ကြီး ဝတ္ထု။

လွန်လေ ပြီးသောအခါ။ ဝိဒေဟရာဇ်တိုင်း မိထိလာ ပြည်၌။ မဟာဇနက အမည်ရှိသောမင်းသည်မင်းပြု၏။ ထိုမင်း၌အရိဋ္ဌဇနကမင်းသား၊ ပေါလဇနကမင်းသားဟူ၍ သားတော်နှစ်ပါး ရှိ၏။ ထိုနှစ်ပါးတွင်။ သားတော်အကြီးဖြစ်သော အရိဋ္ဌဇနက မင်းသားအား အိမ်ရှေ့အရာကို ပေး၏။ သားတော် အငယ်ဖြစ်သော ပေါလဇနက မင်းသားအား စစ်ဘုရင်သေနာပတိ အရာကို ပေး၏။ မဟာဇနက မင်းကြီး သည်။ ကာလ ရှည်လျားစွာ မင်းပြု၍။ ဘုန်းကံ အာနု ဘော် ကုန်သော အခါ။ ဘဝ တပါး ပြောင်းလဲလေ၏။ အိမ်ရှေ့မင်းဖြစ်သောအရိဋ္ဌဇနက မင်းသား သည်။ ခမည်းတော်လွန်လျှင်။ ခမည်းတော်အား ဖုတ်ကြည်း သင်္ဂြိုဟ်ခြင်းကိုပြုပြီးသော်။ မြို့ကိုဆေးသန့်သုတ်သင်တန်ဆာ ဆင်၍။ အဘအရိပ်အရာဖြစ်သောထီးနန်းကိုသိမ်းမြန်းလေ၏။ အရိဋ္ဌဇနကမင်းသားသည်။ မင်းဖြစ်သောအခါ။ ညီတော်ပေါ လဇနက မင်းသားအား အိမ်ရှေ့ အရာကို ပေးလေ၏။ ထိုအခါ အိမ်ရှေ့မင်း၏ အတွင်း ကျွန်ယုံ ဖြစ်သော အမတ် တယောက် သည်။ တရံ တခါသော အခွင့်၌ ကိုယ့် အလို အတိုင်း မပြည့် လျှင်။ မိမိအရှင်ဖြစ်သော အိမ်ရှေ့မင်းကို စိတ်တွင်အငြိုးထား ၍။အရိဋ္ဌဇနကမင်းကြီးထံနန်းတော်သို့ဝင်ပြီးသော်။ အရှင်မင်း ကြီး။ အရှင်မင်းကြီး ညီတော် အိမ်ရှေ့မင်းသည်။ ကိုယ်တော် ၏ အသက်အန္တရာယ်။ စည်းစိမ်တော်၏ အန္တရာယ်ကို ပြုမည် ကြံဆောင် ခဲ့သည်။ မပြတ် သတိထားတော် မူပါ။ အကျွန်ုပ်မှူ

ကား။ ကိုယ် မြိုမြိုသည့် အရှင် ဖြစ်၍။ အိမ်ရှေ့မင်း ၏ အတိုင်းထက်အလွန်တင့်တယ်ခြင်းကိုအလိုရှိငြားသော်လည်း။ အရှင်မင်းကြီး၏ ရာဇဝတ် တော်ကို စောင့် ထိန်းလျက် နေရသူ ဖြစ်သည်နှင့်အညီ။ ကျေးဇူး သစ္စာတော် ရှိတိုင်း။ အရှင်ရန်သူစင်စစ်မှန်လျှင်အမှုကိုမထိမ်ဝှက်သာ။ အလိုပါ အလိုတူမပြုသင့်ဖြစ်၍သာ။ လျှောက်ထားရခြင်း ဖြစ်ပါသည်ဟု ချောစားလေ၏။ အမတ် စကားကိုကြားလျှင်။ အရိဋ္ဌဇနက မင်းကြီးသည်။ မည်သို့ မဆို။ ငါ့ညီ ငါ့ကို မကောင်း ကြံသည် သူ မဟုတ် ဟု နှလုံး မှုကာသာ နေလိုက်၏။ ထိုအမတ် လည်း အခွင့် မသာ၍ နေပြန် ပြီးလျှင်။ တဖန် အခွင့်သာသော ကာလ၌။ ရှေးနည်း အတူလျှောက်ပြန်လေ၏။ မင်းကြီးလည်းမည်သို့မဆို နှလုံးမှုကာသာ နေ လိုက်၏။ ဤ သို့ သော နည်းဖြင့် ထို အမတ် သည် အကြောင်းသင့်တိုင်း။ ထိုစကားကို လျှောက်ဖန်များလတ်သော်။ အရိဋ္ဌ ဇနက မင်းကြီးသည်။ ဤအမတ်ကား ဤ စကားကို တကြိမ်သာမဟုတ်။ အကြိမ်အဖန်များစွာ ငါ့အားလျှောက်ထား၏။ အမတ် လျှောက်တိုင်းပင် ငါ့ညီသည် ငါ့ကို မကောင်းကြံသည် ဖြစ်ရာ၏ဟု အယူ ရှိသဖြင့်။ ညီတော်အား ချစ် ခြင်း ကို ဖြတ်၍။ ဤပေါလ ဇနက မင်းသားသည် မိမိကျေးဇူး ငါ့တွင် တစုံတခုမျှမရှိဘဲလျက်။ ညီ၏ချစ်ခြင်းဖြင့်။ ငါချစ်၍ သူကောင်းပြုတော်မူသည်။ ကျေးဇူးကိုမျှ မသိ ပြုရမည်လောဟုရာဇမာန်ဖြင့် အမျက် ဝင် လေ သော်။ ကောဓေ အဋ္ဌံ န ဇာနာတိ။ ဟူသည်နှင့် အညီ။ မင်းတို့ဆင်ခြင် ရှုစမ်း ရာသည့် အကြောင်းရှိပါလျက်။ ဆင်ခြင်ရှုစမ်းတတ်သောနိသမ္မဥာဏ်ကိုထန်စွာသောဒေါသ ဆီးကာသဖြင့်။ မဆင်ခြင်မရှုစမ်း။ မေးမြန်းစစ်ဆေးခြင်းကို မပြုဘဲ။ တဘက် စကားနှင့်သာ ယခုပင် ပေါလဇနက မင်းကိုဘမ်း။ အိမ်ရှေ့စည်းစိမ်မှ ရုတ်ချ၍။ သံခြေချင်း အနှောင်အဖွဲ့နှင့် အစောင့်အရှောက်လုံခြုံစွာ အိမ်ဆိုးတခုခုမှာ ထားဟု မြို့ဝန် မြို့ကွပ်တို့ ဆီသို့ မင်းမိန့် ထုတ် ပြန် လိုက်၏။ မြို့

ဝန်မြို့ကွပ်တို့လည်း မင်းမိန့်ရှိတိုင်းအိမ်ရှေ့မင်းကို ဘမ်းယူ၍။ နန်းတော်မှ မနီးမဝေးဖြစ်သော အိမ်ဆိုး တခု၌ သံခြေချင်း အနှောင်အဖွဲ့နှင့်အစောင့်အရှောက်လုံခြုံစွာထားလေ၏။

အိမ်ရှေ့ မင်းသည် အနှောင် အဖွဲ့နှင့် နေရ လေ သော်။ ငါကား ခမည်းတော် မရှိသည် နောက်။ နောင်တော် ထီးနန်းကို သိမ်း မြန်း ၍။ ငါ့ကို အိမ်ရှေ့ အရာ၌ ထား သည့်မှ ယခု တိုင်။ နောင်တော်ကို ရန်သူ့နှလုံးထားဖြင့် ဖြစ်မှားမိသော အရာမည်သည်ဆံဖျားခြမ်းမျှငါ၌မရှိ။ ထိုသို့လျက်။ ယခုငါ့ကိုအကျည်းအမြောင်ထား သည်မှာ။ ငါ့အား အခြား ကိုးကွယ်ရာ မရှိပြီ။ သစ္စာသာလျှင် ကိုးကွယ်ရာ ဖြစ်တော့သည်ဟု ကြံပြီးလျှင်။ ငါသည် နောင်တော်၏ ရန်သူ စင်စစ် မှန်လျှင်။ ဤအိမ်တံခါး အနှောင် အဖွဲ့ သံ ခြေချင်း တို့ သည် လည်း မပွင့် မလွတ် စေ သတည်း။ နောင်တော်၏ ရန်သူစင်စစ်မဟုတ်လျှင်။ ဤအိမ်တံခါး အနှောင်အဖွဲ့ သံခြေချင်းတို့သည်။ ယခုခဏခြင်း ပွင့်စေလွတ်စေသတည်းဟုသစ္စာပြု၏။ ထိုအခါထက်ဝှစွာသောသန်လျက်ဖြင့်ဖြတ်၍မျှ တခဏခြင်းပြတ်ခြင်းငှာ မစွမ်းနိုင်ကောင်းသော သံခြေချင်းတို့သည်လည်း။ သစ္စာ၏အာနုဘော်ဖြင့်။ ခဏခြင်း အပိုင်းအပိုင်း ပြတ်လေကုန်၏။ အိမ်တံခါးသည်လည်း ပွင့်လေ၏။ ထိုအခါပေါလဇနကမင်းသားသည်။ အနှောင်အဖွဲ့မှလွတ်သော ဆင်ပြောင် မုန်ယစ်သကဲ့သို့။ မင်းဖြစ်ထိုက်သော ဘုန်းလက္ခဏာ ရှိသည်တကြောင်း။ တော်ဖြောင့်သော နှလုံးရှိသည်တ ကြောင်း ဖြစ်၍။ အစောင့် အ ရှောက် ပြုသူ မှစ ၍ တစုံ တယောက်မျှမဘမ်းမဆီးဝံ့ဘဲ။မြို့မှထွက်သွားသဖြင့်။ တခုသော ရပ် စွန် ရွာ ငယ်၌ နေ လေ ၏။ ပစ္စန္တရစ် ရွာ သူ ရွာ သား တို့လည်း။ အိမ်ရှေ့မင်းမှန်းကိုသိလျှင်။ ခစားကျိုးနွံကြ လေကုန်၏။ အရိဋ္ဌဇနကမင်းလည်း အိမ်ရှေ့မင်းကိုဘမ်းယူခြင်းငှာမတတ်နိုင်ဖြစ်လေ၏။

ပေါလ ဇနက မင်းသား သည်လည်း အစည် သဖြင့် ပစ္စန္တ ရစ်ရွာငယ်များကို သိမ်းရုံး၍ လက်နက်ပြုပြီးသော်။ ငါအထက် က မှုကား နောင်တော် ၏ ရန်သူ မဟုတ်။ ယခု မှုကား ရန်သူ လုပ်ရ တော့မည်ဟု ကြံလျက်၊ များစွာသော အလုံးအရင်းနှင့် မိမိလာပြည်သို့ချီလာလတ်၍။ မြို့ပြင်မနီးမဝေး၌ သစ်တပ်တည် ကာ နေလေ၏။ ပေါလ ဇနက မင်းထံ ခစား ထမ်း ရွက် ဘူး သူ အမှုထမ်း အမတ် သူရဲ တို့သည် လည်း ကောင်း။ ထိုမှ တပါး ပေါလ ဇနက မင်းကို မြတ်နိုး ကုန်သော အမတ် သူရဲတို့ သည် လည်းကောင်း။ အိမ်ရှေ့မင်း ချီလာ ကြောင်းကို ကြားလျှင်ပင်။ မိမိတို့၌ရှိသော ဆင်မြင်းစသည် လက်နက်နှင့်တကွ မြို့မှထွက် လာလတ်၍။ ပေါလဇနကမင်းထံ ဝင်စားလာကြကုန်၏။ ထိုမှ မှူး မတ်သူရဲတို့ကိုအမှီပြု၍ အချို့သော ပြည်သူပြည်သားတို့သည် လည်း ဝင်စား လာကြ ကုန်၏။ ပေါလ ဇနက မင်းသား သည်။ များစွာသော အလုံးအရင်းရှိပြီးသော်။ ထိုသစ်တပ်၌ နေလျက် နောင်တော် အရိဋ္ဌဇနက မင်းကြီးဆီသို့။ ဤသို့စာနှင့် စေလွှတ် လိုက်၏။ နောင်တော်အရိဋ္ဌမင်း။ အကျွန်ုပ်သည်နောင်တော်ထံ အိမ်ရှေ့စည်းစိမ်နှင့် နေသည်ကာလ။ နောင်တော်အား သုံးပါး သောကံဖြင့် ရန်သူနှလုံးထား ဖြစ်မှားမိသော အရာ မရှိ စဘူး။ ယခုမှုကား ကျွန်ုပ်သည် ရန်သူမလုပ်လိုဘဲလျက်။ နောင်တော် ကလုပ်စေလိုသောကြောင့်။ ရန်သူပင်လုပ်ရတော့မည်။ ရွှေထီး ရွှေနန်းကို သော်လည်း ပေးအပ် မည်လော။ စစ်ပွဲသော် လည်း ပြိုင်ဆိုင်မည်လော။ အချက်ကျကျသိရအောင် အမိန့်ရှိတော်မူ လိုက်။ အကြာအရှည်နေ၍ ကျွန်တော်မျိုး များသာ ပင်ပန်း ကြ တော့မည်ဟု စာနှင့် ရဲရင့်သော သူတို့ကိုစေလိုက်၏။

ထို စကားကို ကြားလျှင်။ အရိဋ္ဌ ဇနက မင်းသည်။ ငါ သို့ သောမင်းကို စည်လျက်။ ဤစကားကိုဆိုရမည် လောဟု မင်း မာန်ပေါက်၍။ ပေါလဇနက သည် ထီးနန်းနှင့် သင်း ထိုက်တန်

သလော။ ယာဉ်ပေါင်းများစွာသော အလုံးအရင်းနှင့် ထွက်၍၊ သင့်ဦးခေါင်းကိုယူတော်မူမည်ဟုပြန်ဆိုလိုက်၏။

ထို အခါ၌ကား ထို အရိဋ္ဌဇနက မင်း၏ မိဖုရား ကြီး ဝမ်းတွင်၊ ဘုရားလောင်း ပဋိသန္ဓေယူ၍၊ ကိုယ်ဝန် အရင့် အမာရှိသတည်း။ အရိဋ္ဌ ဇနက မင်း သည် ထို စကားကို ဆိုလိုက်ပြီးလျှင်၊ မိဖုရားကြီးကိုခေါ်၍၊ အဘယ်၊ စစ်ထိုးခြင်းမည်သည်ကား ရှုံးအံ့သည် နိုင်အံ့ သည်ကို မသိ နိုင်ချေ ဖြစ် သည်၊ ယာဉ်ငါစစ်ထိုး ထွက်ချီတော် မူရမည် ဖြစ်သောကြောင့်၊ အခွင့်ကိုနားထောင်၍၊ ကိုယ်ဝန်ကို ကောင်းစွာ စောင့်ရှောက် လေ ဟုမှာထားပြီးသော်၊ စစ်အခင်းအကျင်းအလုံးရုံကို ခန့်ထားရုံးစေ၍၊ လက်နက်စွဲ၊ သူရဲ၊ သူခက်၊ စစ်မှူး၊ စစ်ကြပ်၊ ဆင်မြင်း၊ ရထားစသော များစွာသော အလုံးအရင်းနှင့်တကွ ထွက်ချီလေ၏။ ပေါလဇနကမင်းလည်း၊ များစွာသောအလုံးအရင်းနှင့် အခိုင်အခံ့ခံ၍ ကျင်းပနှင့်လေ၏။ ထိုမင်း ညီနောင်တို့ စစ်မျက်နှာပြိုင်၍ ထိုးကြလေသော်၊ ပေါလ ဇနကမင်း စစ်သည်များ လက်နက် တွင်၊ အရိဋ္ဌ ဇနကမင်း အသက် ကုန်လေ၏။ ထိုအခါ အရိဋ္ဌဇနကမင်းကြီး ဆုံးလေလျှင်၊ စစ်မှူးစစ်ကြပ်နှင့်တကွလက်နက်စွဲ သူရဲအပေါင်းတို့ကို၊ ပေါလဇနကမင်း သိမ်းယူလေ၏။ မိထိလာပြည်အလုံးလည်း၊ မင်းကြီးဆုံးခဲ့ပြီဟုအုတ်အုတ်ကျက်ကျက်ဖြစ်လေ၏။

အရိဋ္ဌဇနကမင်း၏ မိဖုရားကြီးသည်လည်း၊ ထိုအကြောင်းကိုကြားသိလျှင်၊ အမှုမငြိမ်မဝပ် ဆူလောင်ဆဲတွင်၊ အလျင်အမြန် ရွှေတိုက်၌ ရွှေစင် ရွှေကောင်း ပတ္တမြား စသော ကျောက်မျက်ကောင်း တို့ကိုယူ၍၊ ခိုင်ခံ့သောပုဆိုးဖြင့် အထပ်ထပ်ရစ်ထုပ်ပြီးလျှင်၊ တောင်းဆိုးတရန်၌ထည့်ပြီးမှ၊ အပေါ်၌ ပုဆိုးနွမ်းခင်း၍၊ အတန်ငယ် ဆန်စေ့များကို ဖုံး လောက်ရုံ ကြဲဖြန့်ကာ၊ မိမိမှာလည်း နန်းသုံး နန်းဝတ်ကိုစွန့်၍၊ ညစ်နွမ်းသော အဝတ်

ထွေးရှပ်သော ဆံဦးဖြင့်။ ဆင်းရဲသူအသွင်ကို ယူလျက်။ ထိုတောင်းကို ရွက်ပြီးသော်။ စစ်မျက်နှာ လွတ်ရာ မြောက်တံခါးဖြင့် ထွက်သွားလေ၏။ တပုံတယောက်သော မြို့သူ မြို့သားမှလည်း အသွင်ခြားသည်ဖြစ်၍။ မိဖုရားကြီးဟုမသိကြလေကုန်။ ပေါလ ဇနကမင်းသည်လည်း။ အလုံးရုံ ပြုဘွယ် ကိစ္စတို့ကို ပြု၍။မြို့ကိုသိမ်းယူပြီးလျှင်။မိမိလာပြည့်၌ထီးနန်းစိုးစံလေ၏။

ဤအရာ၌။ အရိဋ္ဌဇနက မင်းသည် သူကြီးပြုသူတို့ ဂုဏ်ခြောက်ပါးတွင် ဆင်ခြင်ရာသည့် အခွင့်ရှိပေလျက်။ ဆင်ခြင်ရှုးစမ်းခြင်းကို မပြုဘဲ။ ဆုကြွနဂုဏ် ချိုတဲ့၍ ဒေါသာ ဂတိသို့လိုက်မှားသဖြင့်။ မပြစ်မှားအပ်သောသူ့ကို ပြစ်မှားမိချေသောကြောင့်။ ။ယောဒုဋ္ဌေနအဒုဋ္ဌဿ။အပဒုဋ္ဌဿဒုဿတိ။ ဒသန္နမညတရံ ဌာနံ။ ခိပ္ပမေဝ နိဂစ္ဆတိ။ ။ဟုဟောတော်မူသော ဓမ္မပဒ ပါဠိတော်နှင့်အညီ။ အပြစ်ဒဏ် မထိုက်သူ မပြစ်မှားအပ်သူတို့၌။ ဒဏ်ဖြင့် ပြစ်မှားကုန်သော သူတို့အား။ ဝေဒနံ ဖရုသံ ဟု ဆိုအပ်သော ကြမ်းတမ်းစွာ ဦးခေါင်းနာ စသည်ရောက်ခြင်း။ ဟာနိ ဟု ဆိုအပ် သော ဥစ္စာ စည်းစိမ် စသည်ဆုတ်ယုတ် ဆုံးပါးခြင်း။ သရီရဿစ ဘေဒနံ ဟုဆိုအပ်သောလက်ပြတ်ခြင်း စသည် ကိုယ်အင်္ဂါ ပျက်ခြင်း။ ဂရုကံဝါပိ အာဗာဓံ ဟုဆိုအပ်သော ကုဋ္ဌနာ အပမာရနာ စသော ဆေး မကုနိုင်ရာ လေးစွာ အနာ ရောက်ခြင်း။ စိတ္တ ဝိက္ခေ ပဉ္စ ဟုဆိုအပ်သော ရူးသွပ်ခြင်း။ ရာဇတောဝါ ဥပသဂ္ဂံ ဟုဆိုအပ်သော မင်းဘေး မင်းဒဏ်သင့်ခြင်း။ အဗ္ဘက္ခာနဉ္စ ဒါရုဏံ ဟုဆိုအပ်သောရန်ကြမ်း လှ စွာသော သူတပါးတို့ အစွပ် အစွဲကို ခံရ ခြင်း။ ပရိက္ခယဉ္စဉာတိနံ ဟုဆိုအပ်သောအဆွေအမျိုး ပြုန်းတီးခြင်း။ ဘောဂါနဉ္စ ပဘင်္ဂုနံ ဟု ဆိုအပ်သော စည်းစိမ် အခြွေ အရံပျက်စီးခြင်း။ အဂါရာနိ အဂ္ဂိ ဒယှတိ ဟု ဆိုအပ်သော အိမ်ကိုမီးသင့်ခြင်း။ ဤဆယ်ပါး သော အပြစ် တို့တွင်။ တခုခု သည်လျင်စွာရောက်၍ သေသည်၏ အခြားမဲ့၌။ ငရဲသို့သာ ရောက်ရ

လေ၏ဟု ဟောတော်မူသည်နှင့် လျှော်စွာ။ ပေါလဇနက မင်းကိုပြုသော ဒဏ်သည်။ မိမိသို့ ပြန်လာ သဖြင့်။ စည်းစိမ်လည်းပြုန်း။ အသက်လည်းဆုံးရှိချေသည်။ ဤကိုထောက်၍။ ယခုအခါ သူကြီးပြုသမျှသောသူ အပေါင်းတို့သည်။ မီးမပွားလောက်သည့်အမှုတို့၌ ပမာဏ မပြုဘဲ။ သည်းခံခြင်းဟု ဆိုအပ်သော ခမာဂုဏ်။ သွားခြင်း။ နေခြင်း။ အိပ်ခြင်း။ ဝတ်ခြင်း။ စားခြင်းတို့၌ သတိပညာ ထက်ကြပ် ပါခြင်း တည်း ဟူသော ဇာဂရိယဂုဏ်။ ခပ်သိမ်းသောအခွင့်တို့၌ ငယ်သူငယ်သားတို့ထက် နှစ်ဆတက် သုံးဆတက် လုံ့လရှိခြင်းတည်းဟူသော ဥဋ္ဌာနဂုဏ်။ အထိုက် အလိုက်ကို ချင့်၍ ဝေဖန် ထုံးဖွဲ့ ခြင်းတည်း ဟူသော သံဝိဘာဂဂုဏ်။ ငယ်သူငယ်သားတို့အား မိမိကိုယ်ကဲ့သို့ သနားချစ်ခင် ကြင်နာခြင်းဟု ဆိုအပ်သော ဒယာဂုဏ်။ အလုံးစုံသောအခွင့်အရေးတို့ကို တွေးမြော်ခြင်းဟုဆိုအပ်သော ဣက္ခနဂုဏ်။ ဤနာယကဂုဏ် ခြောက်ပါး နှင့် ပြည့်စုံစေကြောင်း ကောင်းစွာ နှလုံး ထားရာ၏။ ခပ်သိမ်း သော သူ အပေါင်း တို့သည်လည်း။ မပြစ်မှားအပ်သော သူတို့အား နှလုံးဖြင့်မျှ မပြစ်မှားအပ်ချေဟုမှတ်ကုန်ရာ၏။ ။ဤကားစကားချပ်တည်း။

အရိဋ္ဌဇနက မင်း၏ မိဖုရားကြီး သည်။ ထိုမြောက် တံခါးဖြင့်ထွက်လေသော်။ မိမိသည် အရပ်တပါး မသွားဘူးသူ ဖြစ်၍။ ခရီးလမ်းကိုလည်း မသိ။ အရပ် အစွဲအမှတ်လည်းမရှိ ဖြစ်သဖြင့်။ မြို့မှထွက်၍ ဝေးစွာ မသွားဝံ့ဘဲ။ တဆောင်သော စရပ်တွင် ဝင်နား လျက်။ ဤပြည်မှ အကွာ ယူဇနာ ခြောက်ဆယ်ထက်၌။ ကာလစမ္ပာနဂိုရ်ပြည် ရှိ၏ဟု ရှေးက ကြားဘူး သည်နှင့်သာ ထိုပြည်ကို အစွဲ အမှတ် ပြု၍။ ကာလစမ္ပာနဂိုရ် ပြည်သို့သွားသူတို့ကို ခရီးသွားကြိမ်တိုင်း မေးမြန်းကာ နေလေ၏။ ထိုအခါ မိဖုရားကြီး ဝမ်း၌။ ဘုန်းသမ္ဘာရင့် ဖြစ်သော ဘုရားလောင်း၏အာနုဘော်ဖြင့်။ တာဝတိံသာနတ်ပြည် ပင်လယ်ကသစ်ပင် ရင်း၌ ခင်းအပ်သော အလျား ယူဇနာ ခြောက်ဆယ်။

အနံယူဇနာ ငါးဆယ်။ ထုတဆယ့် ငါးယူဇနာ ပမာဏ ထယ်
ခေါင်ရန်းပွင့် ကဲ့သို့ နီမြန်းသော အဆင်း။ သိကြားမင်း ထိုင်
လျှင် ခါး တိုင်အောင် နစ်သော အနူး အညံ့နှင့် ပြည့်ရုံ စွာသော
ပဏ္ဍု ကမ္ဗလာ ကျောက်ဖျာ သည်လည်း။ စည်မျက်နှာ ကဲ့သို့
တင်းမာ ခြင်းဖြင့်။ သိကြားမင်း နှလုံး ညှိုးနွမ်း ပူပန် အုံ့သော
အခြင်း အရာကို ပြလေ၏။ သိကြားမင်း လည်း။ ငါတည်း ဤ
စည်းစိမ်မှ ရွေ့လျောလိုသလော။ အဘယ်အကြောင်းကြောင့်။
ဤသို့သော အခြင်း အရာ ဖြစ်လေ သနည်းဟု ဆင်ခြင် လေ
သော်။ တပါး အကြောင်းကြောင့် မဟုတ်။ အရိဋ္ဌ မင်း၏ မိဖု
ရားကြီးသည်။ ယခု မိမိတို့ ထီးနန်း စည်းစိမ် တိမ်းယိမ်း သ
ဖြင့်။ ဆင်းရဲစွာ သွားရာ လမ်း မပေါက်ရှိ၍။ မိမိ ဝမ်း၌ သန္ဓေ
စွဲသူသည် ဘုန်းသမ္ဘာရင့် ဖြစ်ခြင်းကြောင့်။ ထိုသူငယ်၏ အာ
နုဘော်ဖြင့်။ ဤအခြင်းအရာ ဖြစ်ချေသည်ဟု သိပြီးသော်။ မင်း
ဖြစ် ထိုက် သော ဘုန်းရှိ ယောက်ျား ဖြစ်ပေ လျက် မပျက်စီး
သင့် လေ ကောင်း။ ဤသူငယ် အသက် ရှည် သဖြင့်။ ပြည် သူ
ပြည်သားတို့အားလည်း များစွာ စီးပွား ဖြစ်လတံ့။ ထိုသို့သော
ယောက်ျားမြတ်ကို အန္တရာယ်မဖြစ်စေခြင်းငှာ။ ငါသွား၍ မစ
ထိုက်လှပေသည်ဟုကြံပြီးလျှင်။ ရထားပေါင်းချုပ်ဖန်ဆင်း၍။
ထိုရထားပေါ်၌ ညောင်စောင်းနေရာခင်းပြီးသော်။ ယောက်ျား
အို၏ အသွင် ဖန်ဆင်း လျက်။ ရထားကို နှင်၍ မိဖုရား နေရာစ
ရပ်သို့ရှေ့ရှုလာသဖြင့်။ စရပ်နားသို့ရောက်လျှင် ရထားကိုတန့်
လျက်။ ဤအရပ်တွင် ကာလစမ္ပာနဂိုရ်ပြည်သို့ သွားလို သည့်
သူ ခရီးသွား ရှိသလောဟု အမှတ် မထင် မေးလေ၏။ မိဖုရား
ကြီးသည် ထိုစကားကိုကြားလျှင်။ ဘိုးအေ။ အကျွန်ုပ်သွားလို
ပါသည်ဟုဆို၏။ သိကြားမင်း သူအိုလည်း။ ချစ်ဘွား။ ယင်းသို့
တပြီးကား ရထားထက်သို့ တက်လှည့်။ ယခုပင် သွားကြကုန်
အံ့ဟုဆို၏။ မိဖုရားကြီး လည်း။ ဘိုးအေ။ အကျွန်ုပ်ကား ကိုယ်
ဝန်အရင့်အမာနှင့်ဖြစ်ခဲ့သည်။ ရထားစီးခြင်းငှာ မဝံ့ပါ။ ဤအ

ကျွန်ုပ်၏ တောင်းကိုသာ ရထား၌ တင်ပါရစေတော့။ ရထားနောက်က အစကျွန်ုပ်လိုက်ပါမည်ဟုဆို၏။ သိကြားမင်း သူအိုလည်း။ချစ်သ္မီး။ အသို့ဆိုရသနည်း။ တပါးသူကဲ့သို့ ဘိုးအေကို မှတ်ထင်သလော။ရထားနှင်ခြင်း၌ ဘိုးအေနှင့်တူ၍တတ်သော သူမရှိ။ မကြောက်နှင့် တက်သာ တက်ဟု ဆို၏။ မိဖုရားကြီးလည်း သိကြားမင်းသူအိုစကားဖြင့်။ ရထားထက်သို့ တက်အံ့ဟုရှေ့ရှုလာ၏။ ထိုအခါသိကြားမင်း၏ အာနုဘော်ကြောင့်။ ရထားသို့ မိဖုရားကြီး တက်ရာ ဖြစ်သော မြေအရပ်သည်။ လေဖြင့် ဖြည့်သော သားရေနယ်အိတ် ကဲ့သို့။ ပွံ့ပွံ့ ကြွ၍ ရ ထားနောက် မြိတ် ကို ထိ လျက် တည် လေ ၏။ မိ ဖု ရား ကြီး သည်လည်း ပြ က တေ့ ဖွမ်း မြ သော မြေ ဖြင့် ရ ထား ထက် သို့ တက်၍။ ညှောင် စောင်း အဖြင်ဝယ် ခင်း အပ် သော အိပ်ရာ၌ လျှောင်းမှီကာလျှင်။ ဤအဘိုးကား လူမဟုတ် နတ်စင်စစ် မှန်ရာ သည်ဟု သိလျက်။ နတ်၏ အတွေ့ကို တွေ့ရ ခြင်း ကြောင့်။ အိပ်ပျော် ခြင်းသို့ ရောက် လေ၏။ သိကြား မင်း လည်း ရ ထား နှင့် မိဖုရားကို ဆောင်ယူ၍ နှင် လေသော်။ ခဏ ခြင်းဖြင့် မိမိလာပြည်မှ ယူဇနာ သုံးဆယ် ကွာသော အရပ်တချ၌ မြစ် နားသို့ရောက်သောအခါ။ ရထားကိုတန့်နား၍။ မိဖုရားကြီးကို နှိုးပြီးလျှင်။ ချစ်သ္မီး။ ဤမြစ်နား၌ရေချိုးချေလော့။ ရေချိုးပြီးလျှင်။ သင့် အိပ်ရာ ဦး ခေါင်း ရင်း၌ ထား သော ထို အဝတ် ရံ တို့ ကို ဝတ် ဆင် လျက်။ ရထား တွင်း၌ ထားအပ်သော ထမင်း ထုပ်မှ ထမင်း ဘောဇဉ် တို့ကို ယူ၍ သုံး ဆောင် လေ လော့ဟု ဆို၏။ မိဖုရားကြီး လည်း အိပ်ရာမှထ၍။ သိကြားမင်း ဆိုတိုင်း။ ရေချိုးခြင်း။ ဝတ်စား ခြင်းတို့ကို ပြုပြီးသော်။ တဖန်ထိုအိပ်ရာ၌ပင် လျောင်းကာ မှုဖြင့်။ အိပ်ပျော်ခြင်းသို့ ရောက်ပြန် လေ၏။ သိကြားမင်း သူအိုလည်း ရထားကို အဖြည်းအသာနှင်၍။ ညချမ်းသောအခါ။ ကာလ စမ္ပာနဂိုရ်ပြည်၏ တောင် တံခါး အနီးသို့ ရောက်လေသော်။ မိဖုရားကြီးကို နှိုး၏။ မိဖုရားကြီးလည်း

နိုး၍ရှုကြည့် လတ်လျှင်။ မြို့ပြ တန်ဆောင်း။ပစ္စင်။ရင်တား။ တံခါးမုတ်တို့ကိုမြင်သဖြင့်။ ဘိုးအေ။ ဤရွှေက မြို့ကား။ အဘယ်မြို့နည်းဟုမေး၏။သိကြားမင်း သူ့အိုလည်း။ချစ်သွီး။ကာလစမ္ပာနဂိုရ်ဆိုသည် ဤမြို့ မဟုတ်လောဟုဆို၏။ မိဖုရားကြီး လည်း။ ဘိုးအေ။အသို့ဆိုရသနည်း။ ကျွန်ုပ်တို့ကြားဘူးသည်မှာ။ကျွန်ုပ်တို့ ပြည်မှ ကာလ စမ္ပာနဂိုရ်ပြည်သည် ယူဇနာ ခြောက်ဆယ်ကွာ၏ တကား။ နေ့ခြင်းဖြင့် အသို့လျှင် ရောက်နိုင်ပါ အံ့နည်းဟု ဆို၏။ သိကြားမင်းလည်း။ ချစ်သွီး ကြားဘူးတိုင်းပင် ယူဇနာခြောက်ဆယ်ကွာသည်မှန်၏။ ဘိုးအေမှာမူကား။ ဤအရပ်၌ ကျွမ်းကျင်သူဖြစ်၍။ ခရီးဖြောင့်ကိုသိသောကြောင့်။ ယခုနေ့ချင်း ဤပြည်သို့ ရောက်နိုင်လေသည်ဟု ဆို၏။ ဤသို့ပြောဆိုပြီးလျှင်။သိကြားမင်းသည်။ ချစ်သွီး။ သင်မူကား ယခုလိုရာရောက်ပြီ။ ဘိုးအေမှာမူကား။ သွားရာခရီး ဝေးသေးသည်ဖြစ်၍။သွားရ ဦးမည်။ ဤအရပ်၌ ဆင်း၍ သင်ချစ်သွီးမြို့ တွင်းသို့ ဝင်လေလော့ဟု ဆိုပြီး သော်။ မိဖုရား ကြီးကို ထိုအရပ်၌ ချထားခဲ့၍။ ရထားဖြင့် မိဖုရားကြီး မျက်စိ ဆုံးလောက်ရုံ တိုင်အောင် သွားဟန်မူ၍။တာဝတိံသာသို့တက်လေ၏။

မိဖုရားကြီး လည်း။ ကာလ စမ္ပာနဂိုရ်ပြည် တောင် တံခါးဖြင် မနီး မဝေးတွင်။ တဆောင် သော စရပ်၌ ဝင်နားကာ နေလေ၏။ ထို အခါ ထိုပြည်၌။ ဗေဒင် စ သော အတတ် တို့ ကို ဆောင်ရွက်၍။ အရပ်မျက်နှာတို့၏ဆရာအကြီးပြုလျက်။ ဗြဟ္မဏမဟာသာလဖြစ်၍လည်းကောင်း။ ကျော်စောထင်ရှားခြင်းကြောင့် ဥဒိစ္စ ပုဏ္ဏား ဟု ခေါ်ဝေါ်အပ်သော ဒိသာပါမောက္ခဆရာကြီးသည် တပည့် ငါးရာအခြံအရံနှင့်တကွ။ ထိုညချမ်းသော အခါ၌။ ရေချိုး အံ့ဟု တောင်တံခါးဖြင့် ထွက်လာလတ်၍။ အဝေးကပင်လျှင်။ စရပ်ပေါ်၌ အရွယ်အဆင်း တင့်တယ်ခြင်းနှင့် ပြည့်စုံစွာသော မိဖုရား ကြီးကို မြင်လေသော်။ မိဖုရားကြီး ဝမ်း၌ ပိုက်လျက် ပါသော ဘုရား လောင်း ၏ ဘုန်း အာနု

ဘောင် အစွမ်းဖြင့်။ မြင်သည် နှင့် တပြိုင်နက် ပင် လျှင်။ ကာလ လျှားစွာ ကွေကွင်းလေပြီးသော တမိတဘတည်းပေါက်ဘွား သော နှမ ငယ်ကို ယခုမှ တွေ့ ကြိမ် ရ သကဲ့သို့။ အပြစ် ကင်း သော နှမ၏ ချစ်ခြင်းဖြင့်။ ဖြဟ္မပိုရမေတ္တာ သက်ပြီးသော်။ မိမိ အခြေ အရံဖြစ်သော ပုဏ္ဏားလုလင် ပျို တို့ကို လွတ်ရာ ပယ်ခွါ စေပြီးလျှင်။ တယောက် တည်းချင်း စရပ်သို့ ဝင်၍။ နှမထွေး။ သင် အဘယ် အရပ်သူပါ နည်းဟု မေး၏။ မိဖုရား ကြီးလည်း မောင်ကြီး။ အကျွန်ုပ်ကား မိထိလာပြည်ကို အစိုးရသောအရိဋ္ဌ ဇနကမင်း၏ မိဖုရားကြီး ဖြစ်သတည်းဟုဆို၏။ ပါမောက္ခဆ ရာလည်း။ အဘယ်။ ထိုသို့ မိဖုရားစည်လျက်။ ဤဝေးစွာသော အရပ်သို့ အဘယ် အကြောင်းကြောင့်။ တယောက်တည်းလာ ခဲ့သနည်းဟုဆို၏။ မိဖုရား လည်း မောင်ကြီး။ ဤအရပ်သို့ အ ကျွန်ုပ် လာရသည်ကား။ ပေါလဇနက အမည်ရှိသော အိမ်ရှေ့ မင်း သည် ဤ မည်သော အကြောင်းဖြင့် ထောင် ထား ၍။ အ ကျွန်ုပ် ကျေး ဇူးရှင် ဆုံးချေ သောကြောင့်။ ကိုးကွယ်ရာမဲ့ ဖြစ် ၍။ ပဋိသန္ဓေကို စောင့်ရှောက်ခြင်းငှာ။ တယောက်တည်းချင်း ထွက်လာခဲ့လျှင်။ ခရီးလမ်း အကြား၌။ ဘိုးမင်း တယောက် ရ ထားနှင့် လာသည်ကို တွေ့ကြိမ် ပေ သောကြောင့်။ ထို ရထား ရှင်ကိုပင် အမှီပြု၍။ ဤပြည်သို့ အကျွန်ုပ်ရောက်နိုင်ပါသည်ဟု ဆို၏။ ပါ မောက္ခ ဆရာ လည်း အ ဘယ်။ ဤ ပြည် ၌ သင် နှင့် တော်စပ်သူ အဆွေအမျိုးတပုံတယောက်ရှိပါ၏ လောဟု မေး ၏။ ဘအေ။ ဤပြည်၌အဆွေအမျိုးသိကျွမ်းသူ ဘပုံတယောက် မျှအကျွန်ုပ်မှာမရှိပါဟုဆို၏။ ပါမောက္ခ ဆရာလည်း အဘယ်၊ ယင်းသို့တပြီးကား။ မစိုးရိမ်လင့်။ ကျွန်ုပ်သည်၊ ဤပြည်၌ ဗြဟ္မ ဏမဟာသာလဖြစ်၍ လည်းကောင်း။ အလုံးရုံသော အတတ် မျိုးတို့ကို တတ်သဖြင့်။ အရပ်မျက်နှာ တို့၌ နေကုန်သော မင်း သား။ ပုဏ္ဏားသား။ သူဌေးသူကြွယ်သား။ အမျိုးလေးပါး တို့၏ အတတ် သင်ရာဆရာဖြစ်၍လည်းကောင်း။ ဒိသာပါမောက္ခဆ

ရာဟူ၍ ကျော်စောထင်ရှားသော ပုဏ္ဏားသူကြွယ်ပင်တည်း။ အဝတ်အစား အသုံးအဆောင်ညှိုးငြိုးဆင်းရဲမည်ဟူ၍မစိုးရိမ်နှင့်။ နှမရင်း ကဲ့သို့ မှတ်၍ ကျွန်ုပ် ကျွေးမွေး ပြုရပါမည်။ သင်ကလည်း ကျွန်ုပ်ကို မောင်ကြီးကဲ့သို့မှတ်၍။ ယခု ကျွန်ုပ်ခြေကို ဘက်လျက် ကာလ ရှည်စွာ ကွဲပြီးမှ မောင်ကို မသေမပျောက် တွေ့ရ ပေသည်ဟု မြည်တမ်း ငိုကြွေး လေ့ဟု ဆို၏။ မိဖုရားလည်း ပါမောက္ခ ဆရာ ဆိုတိုင်း။ ခြေကိုဘက်၍ သည်းစွာ ငိုကြွေးလေ၏။ ပါမောက္ခ ဆရာလည်း။ ငါ့နှမကို ယခုမှ မသေမ ပျောက် တွေ့ရ တော့ သည် ဟု ငိုကြွေး လေ၏။ နှစ်ဦး သောသူတို့၏ငိုကြွေးသံကို ကြားလျှင်။ တပည့်ပုဏ္ဏား လုလင်ပျိုတို့သည် စရပ်သို့ စည်းဝေးလာကြ၍။ ဆရာ။ အဘယ်ကြောင့် ငိုကြွေး ဘိသနည်းဟု မေးကြကုန်၏။ ပါမောက္ခ ပုဏ္ဏားလည်း။ အမောင်တို့။ နှစ်လ ရှည်စွာ ကွဲလေ ပြီးသော ဤ ငါ့နှမကို ယခုမှ မသေမပျောက် တွေ့ရပြန် သောကြောင့်။ နှလုံး ကြည်နူး ခြင်းဖြစ်၍ ငိုရ တော့သည်ဟု ဆိုလျှင်။ တပည့်လုလင်ပျို တို့လည်း။ ဆရာ။ ကွဲလေပြီးသော ပေါက်ဘော် ဆွေမျိုးကို တွေ့မြင်ရ ပေသည် ကား အလွန် ကောင်း ၏။ ဆောင်ရွက်ရန် ရှိသည်ကို အကျွန်ုပ်တို့ ဆောင်ရွက်ပါအံ့။ စိုးရိမ်တော်မမူလင့်ဟု ဆိုကြကုန်၏။ ပါမောက္ခပုဏ္ဏားလည်း အမောင်တို့။ ငါ့နှမစီးရန်။အိမ်မှာသွား၍ ရထားပေါင်းချုပ်ကို ယူချေဟု စေလွှတ်လိုက် သဖြင့်။ ယူစေပြီးလျှင်။ ရထား ပေါင်းချုပ် ထက်၌ မိဖုရားကို နေစေပြီးသော်။ ပုဏ္ဏေးမအား ငါ့နှမအဖြစ်ကို ပြော၍။ ပြုရာ ဆောင်ရာသည့် ဝတ်တို့ကိုပြုလျက် ကောင်းစွာ ငါ့ နှမကို သိမ်း ပိုက် နှင့်ဘိဟု။ ငါမှာလိုက်ကြောင်းကို ဆိုလေဟုမှာထားပြီးလျှင်။ မိဖုရားကို မိမိအိမ်သို့ပို့စေ၏။ ပုဏ္ဏေးမလည်း။ မိမိအိမ်သို့ မိဖုရားရောက်လာသဖြင့်။ ပါမောက္ခဆရာ မှာလိုက်ကြောင်း အလုံးရုံကိုကြားလျှင်။ ငါ့ယောက်မကို တွေ့ရပေသည်ဟု ဝမ်းမြောက်ဝမ်းသာ ကြိုဆို၍။ နံ့သာရေဖြင့် ချိုးစေလျက်။ ကောင်း မြတ်

သော အိပ်ရာ နေရာ တို့ဖြင့် ချပေး ပြုရ သိမ်း မိုက် ကာ ထား နှင့် လေ၏။ ပါမောက္ခဆရာလည်း ရေချိုး ပြီးသော် တပည့်လုလင် ပျို အပေါင်းခြံရံလျက် မိမိအိမ်သို့ပြန်လာလတ်၏။ ထမင်းစား သော အခါ၌လည်း။ ငါ့နှမနှင့် အတူစားအံ့ ခေါ်လိုက်ပါဟု ဆို ၍ မိဖုရားနှင့် အတူ စား၏။ ပါမောက္ခ ဆရာလည်း နှမရင်း ကဲ့ သို့သော ချစ်ခြင်းဖြင့် အိမ်တွင်း၌သာ နေစေလျက်။ မိဖုရားကို ကောင်းစွာမွေးကျွေးပြုရလေ၏။

ထိုအခါ၊ ပါမောက္ခ ဆရာအိမ်သို့ ရောက်၍ ကာလ မမြင့်မှီ ပင်။ မိဖုရားကြီး သည် ရွှေအဆင်းကဲ့သို့ ရှုချင်ဘွယ် အဆင်း နှင့် ပြည့်စုံသော ဘုရားလောင်းကို ဘွားမြင် လေ၏။ ထို သတို့ သား အား အ မည် မှည့် အံ့ သော နေ့ ၌။ မိဖုရား သည် တ ပါး သော အမည်ကို မမှည့်မူ၍။ ဘိုးတော် မင်းကြီး၏ အမည်ဖြင့် ပင် လျှင်။ မဟာ ဇ န က သတို့သား ဟူသော အမည် ကို မှည့် လေ၏။

ဤမဟာဇနက ဟူသော အမည်သည်။ ရုဠှီအမည် အန္ဝတ္ထ အမည်နှစ်ပါးတို့တွင်။ တိဿ ဒတ္တ အမည် တို့ကဲ့သို့ ဝိဂြိုဟ် မ ပြု ကောင်းသော အမည်မဟုတ်။ ဝိဂြိုဟ်ပြုကောင်းသည် ဖြစ် သောကြောင့်။ အန္ဝတ္ထအမည်တည်း။ ဝိဂြိုဟ်ပြုသော်ကား။ ။
မဟာဇနေဟိ ကနိတဗ္ဗော နန္ဒိတဗ္ဗောတိ မဟာဇနကော။ ။
ယောရာဇ ကုမာရော။ အကြင်မင်းသားကို။ မဟာဇနေဟိ။ လူ အပေါင်းတို့သည်။ ကနိတဗ္ဗော နန္ဒိတဗ္ဗော။ ချစ်နှစ် လိုအပ်၏။ ဣတိတသ္မာ။ ထိုသို့တိုင်းသားပြည်သူ လူအပေါင်းတို့ချစ်နှစ်လို အပ်သော သတ္တိကြောင့်။ သော ရာဇ ကုမာရော။ ထို မင်းသား သည်။ မဟာဇနကော။ မဟာဇနကမည်၏။ ။ကိတန္တသ မာသ်ဝိဂြိုဟ်။ ။မဟာဇနသဒ္ဒူပပဒကနိဓာတ်။ကွိပစ္စည်း။ ။ ကနိဓာတ်၏ အရ ကတ္တဗ္ဗ ကြိယာ ကား။ မိဘ ဆွေ မျိုး အစ ရှိသော တိုင်းသားပြည်သူ လူအပေါင်းတို့၏ ချစ်နှစ်လိုခြင်းဟု ဆိုအပ်သော အကျိုး ပစ္စယုပ္ပန် ဖြစ်သော ဝိတ္တိသဟာဂုတ် ဇော

စိတ္တုပ္ပါဒ်သည် မုချအားဖြင့် ရ၏။ ကမ္မဋ္ဌကြံယာကား။ ထိုဇော စိတ္တုပ္ပါဒ်၏ အကြောင်းအာရမ္မဏပစ္စည်း ဖြစ်သော မင်းသား၏ အဆင်းသဏ္ဌာန် ဘုန်းကြွန် လက္ခဏာ ဇာတိမဟာဗ္ဗစသောဂုဏ်သည် ဖလူပစာရဝုတ္တအားဖြင့် ရ၏။ ကွိပစ္စည်း၏အရကား။ ထိုမုချဖလူပစာရဝုတ္တတို့ဖြင့်မှတ်အပ်သောဂုဏ်အမည် သတ္တိ တို့၏ တည်ရာ ဂုဏအာဓာရ သတ္တိမန် ဖြစ်သော နန်း ညွန့် နန်းလျာ ဘုန်းပညာ လက္ခဏာ ကောင်းရှင် ဖြစ်သော မင်းသားရ၏။ ။ဤကားစကားချပ်တည်း။

ထို မဟာဇနက မင်းသား သည် လိမ္မာ လောက်သော အရွယ်သို့ ရောက်လတ်သော်။ တပါးသောသူငယ်တို့နှင့် ကစားကြသောအခါ။ သူငယ်တို့သည်။ မိမိတို့အလိုနှင့်မဆိုင်မိလျှင်။ သူငယ်တို့ ဓလေ့ အားဖြင့်။ ဘုရား လောင်းကို မနာ လိုအောင် ချုတ်ချယ်ကြကုန်၏။ ဘုရားလောင်း မင်းသားလည်း ဘေးဘိုးမှဆင်းသက်၍မပျက်သောဇာတိနန်းရှင်သား။ မြေး။ မြစ်ဖြစ်ခြင်းဇာတိဂုဏ်။ တပါးသော သူငယ်တို့ထက် သာ၍ ခွန်အား ကြီးခြင်းကာယဗလဂုဏ်။ ဤအကြောင်းနှစ်ပါးပေါင်းရုက်၍။ မာန်ခက်ထန်ခြင်းရှိသဖြင့်။ သူတပါးရမ်းကားသည်ကို သည်းမခံနိုင်ဘဲ။ ထိုချုတ်ချယ်သည့် သူငယ်တို့ကို ပြန်၍ လက်စားမချေဝံ့အောင်။ နာကျင်စွာ တွန်းထိုး ပုတ်ခတ် လိုက်၏။ ထိုသူငယ်တို့လည်း နှုတ်ဖြင့်မျှဆဲဆိုခြင်းကိုမပြုဝံ့ဘဲ။ ငိုကာသာနေရကြကုန်၏။ သူငယ်မိဘတို့သည် သား ငိုသည်ကို ကြားမြင်သဖြင့် လာ၍။ အဘယ်သူသတ်သနည်းဟုမေးလျှင်။ သူငယ်တို့သည် မိဘကိုအမှီရမှ။ ဤမုတ်ဆိုးမသား ငါ့ကို သတ်သည်ဟု ပြောကြကုန်၏။ မုတ်ဆိုးမသား ဟူသောစကားကိုကြားလျှင်။ မင်းသား သည် ဤ သူငယ် တို့ကား ငါ့ကို မုတ်ဆိုးမ သား ဟု နှိပ်စက်၍ဆိုဘိ၏။ အကယ်ပင်ငါသည် မုတ်ဆိုးမသားဟုတ်လေသလော။ ငါ့အမိကိုငါမေးဦးအံ့ဟု ကြံလျက် တနေ့သ၌။ မယ်တော်ကို မိခင်။ အကျွန်ုပ်အဘကား အသူနည်းဟုမေး၏။ မယ်

တော်လည်း သား နှလုံး မသာ ရှိအံ့ပိုး၍။ မှန်တိုင်း မပြော ဘဲ။ ချစ်သား။ ဤ ပါမောက္ခ ဆရာသည် မောင့်ဘ ပင်တည်းဟုဆို၏။ ဘုရားလောင်းမင်းသားလည်း။ အမိစကားကိုယုံကြည်၏။ နောက်တဖန် သူငယ်တို့နှင့် ခိုက်ရန် ဖြစ်ပြန် သဖြင့်။ ရှေး နည်း အတူ မုတ်ဆိုးမ သားတည်းဟု သူငယ်တို့ ဆိုသောအခါ။ အဘယ်ကြောင့် သင်တို့ ငါ့ကို မုတ်ဆိုးမသားဟု ဆိုကြသနည်း။ ဤ ပုဏ္ဏား သူကြွယ်သည် ငါ့အဘ မဟုတ် လောဟု ဆို၏။ သူငယ်တို့လည်း သင်တို့ သားအမိကား တပြည် တရပ်က လွင့်ပါး၍။ ဤငါတို့ပြည်သို့ ရောက် လာသူ တကား။ ဤပုဏ္ဏား သူကြွယ်နှင့် သင်အဘယ် တော်စပ်သနည်းဟု ဆိုကြကုန်၏။ ထိုစကားကိုကြားလျှင်။ ဘုရားလောင်း သည် ဤသူငယ် တို့ကား ယခုငါ့ကို ဤသို့သော စကားဖြင့် ဆို၏။ ထို သူငယ်တို့စကား ပင် ဟုတ်ရာမည်မသိ။ ငါ့အမိသည် မိမိတို့ မိန်းမမာန်ဖြင့်။ ငါ့အား ဟုတ် မှန် တိုင်း မ ပြော သည် ဖြစ် ရာ ၏။ ငါ သို့ သော ယောက်ျား ကိုစင်လျက်။ ဟုတ်မှန်တိုင်း ငါ့အမိ မပြော နေရမည်လောဟု ကြံလျက်။ မယ်တော်မှာလည်း သား တယောက်တည်းသာ ဖြစ်သည်နှင့်။ ဘုရားလောင်း သည် နို့ရို့ချိန် အရွယ် ဟူ၍မရှိပြီ။ မယ်တော်ရင်ကြား၌သာကြီးရခြင်းကြောင့်။တနေ့သ၌ မယ်တော်၏ သားမြတ်စွန်းကို ကိုက်လျက်။ မိခင်။ ကျွန်ုပ်အဘကို မှန်တိုင်း ပြောလော့။ မှန်တိုင်းမပြောလျှင်။ သားမြတ်စွန်း ကို ပြတ် အောင် ကိုက် မည် ဟု ဆို ၏။ မယ် တော် လည်း လှည့်စား၍မပြောဝံ့သောကြောင့်။ ချစ်သား။ သင်ကားမိထိလာပြည်ကြီးကို အစိုးရသော အရိဋ္ဌ ဇနကမင်းကြီး၏ သားတည်းဟုဆို၍။ အလုံးစုံ ဤပြည်သို့ မိမိ ရောက်သည် တိုင်အောင်။ မကြွင်းမကျန်ဖြစ်ပျက်ခဲ့သမျှကိုပြန်ပြောလေ၏။

ထို အခါ မှ စ၍။ တပါး သော သူငယ် တို့သည် မုတ်ဆိုးမ သားဟူ၍ပင် နှိပ်စက်ချုတ်ချယ်ကြသော်လည်း။ ဝိုးစည်းမျှအမျက်မထွက်ဘဲ။ မှန်လျှင်ဆိုစေတော့ဟု သည်းခံတော်မူ၏။ ဤ

သို့ချမ်းသာစွာကစားလျက်ကြီး၍ပညာစွဲမှတ်ချိန်ရောက်သော အခါ။ ထိုပါမောက္ခ ဆရာ ထံ၌ ပင်လျှင်။ ဗေဒင် ကျမ်း။ ဓမ္မသတ်ကျမ်း။ ဆန်း။ အလင်္ကာ။ သဒ္ဒါ။ နီတိ။ အစရှိသောနှုတ်အတတ်။ လက်အတတ်။ များစွာသော အတတ် တို့ကို သင်ကြားဆောင်ရွက်၍။ တဆယ့်ခြောက်နှစ် အရွယ်ရောက်သော အခါ၌ အတတ် သင် ခြင်း အပြီး သို့ ရောက် လေ၏။ ဘုရား လောင်းသည်။ တဆယ် ခြောက်နှစ် အရွယ်လွန်သဖြင့်။ မြတ်သောအရွယ် အဆင်းကို ဆောင်လျက်။ အစွမ်းအား လျော်စွာ။ ကိုယ်ကို ထူ ထောင် နိုင် သော အရွယ် သို့ ရောက် လတ် သော်။ ငါ့ခမည်း တော် ၏ အ ရိပ် အ ရာ ဖြစ် သော မိ ထိ လာ ပြည် ကို ယောကျ်ားတို့၏ လုံ့လအစွမ်းဖြင့်။ ရအောင် ငါသိမ်းယူအံ့ဟု ကြံပြီးလျှင်။ မယ်တော်ကို မိခင်။ ဥစ္စာ စိုးစည်းမျှ မိခင်မှာ ရှိပါ၏ လော။ ဥစ္စာ မရှိ လျှင် လည်း အ ကျွန်ုပ် ကုန် သွယ် သွား လာ ဘောက်ကားရောင်းဝယ်ခြင်းကိုပြု၍ ဥစ္စာရသောအခါ။ အဘ အရိပ် အရာဖြစ်သော မိထိလာပြည်ကို သိမ်းယူ လိုပါသည် ဟု ဆို၏။ မယ်တော်လည်းချစ်သား။ မိထိလာပြည်မှ မိခင် ဆင်းရဲစွာ ထွက်လာ ခဲ့သော်လည်း။ လက်ချည်း သက်သက် လာသည် မဟုတ်။ ဆောင်လွယ်ယူလွယ် အနည်းငယ်နှင့် အဘိုးများစွာ ထိုက်သော ရတနာတို့ကို ယူ၍ မိခင်လာခဲ့၏။ ယခု မိခင့်လက်တွင် အဘိုးဖြတ်လောက်သော ရွှေကောင်း။ ကျောက်ကောင်းတို့ကို ထားဘိဦး။ မောင့် ခမည်း တော် ဝတ်ဆင်မြဲ ဖြစ် သော ပုလဲရတနာ တလုံး။ မြကောင်း တလုံး။ စိန်ကောင်း တလုံး။ ဤသုံးလုံးသော မျက်မြတ်ရတနာတို့သည်လည်းပါ၏။ ထိုသုံးလုံးသော မျက်မြတ်ရတနာတို့ကို။ တလုံးလျှင် အဘိုးမည်မျှထိုက်၏ဟူ၍ ရာပြတ်တို့မဖြတ်မဆိုနိုင်ကုန်။ ဤရတနာသုံးလုံးသည် မောင့် ခမည်းတော် လက်ထက် တွင်သာ ပေါ်ရောက်လာသည့် ရတနာ မ ဟုတ်။ ဘေး တော် ဘိုး တော် တို့ မှ ဆင်း သက် ၍။ နန်းစည်ထားသော မျက်ကောင်း ရတနာနှစ်ဖြစ်သည်။ ထိုသုံး

ရတွင် တခုခုသော ရတနာ ပင်လည်း တတိုင်း တပြည်မက အဘိုး ထိုက်သောကြောင့်။ တခုခုသော မျက်မြတ်ရတနာကို ယူ၍။ မောင့် ခမည်းတော် အရိုပ်အရာ ဖြစ်သော မိထိလာ ပြည်ကို သိမ်းယူချေလော့။ ရောင်းဝယ်ဘောက်ကား သွားလာခြင်းကို မပြု လင့်ဟု ဆို၏။ မယ် တော် စ ကား ကို ကြား လျှင်။ ဘုရားလောင်းသည် မိခင်။ ယခု မိခင် လက်တွင်ရှိသည့် ဥစ္စာရကို တဝက်ခွဲ၍ အကျွန်ုပ်အားပေးလော့။ ထိုတဝက်သောဥစ္စာကိုပွားများအောင် ပြုလျက်။ သုဝဏ္ဏ ဘုမ္မိ တိုင်းသို့ သွား၍။ များ စွာသော ဥ စ္စာ နှစ် တို့ ကို ဆောင် ယူ ပြီး သော်။ မိထိလာ ပြည် ကို ကျွန်ုပ် သိမ်းရုံး ချေအံ့ဟု ဆို၏။ မယ်တော်လည်း မင်းသား ဆိုတိုင်း။ မိမိတွင် ရှိ သ မျှ ဥစ္စာ ကို တဝက် ခွဲ၍ ပေး လေ ၏။ ဘုရား လောင်း လည်း ထို ဥ စ္စာ ကို လုံ ဖြိုး စွာ ထုပ် ဖွဲ့ ပြီး သော်။ သုဝဏ္ဏ ဘုမ္မိ သို့ လွှင့်အံ့သည့် သင်္ဘောစီး ကုန်သည် တို့ကို ရှာမေး သဖြင့် တွေ့ ၍။ ကျွန်ုပ် တို့နှင့် အတူ ပင် လိုက်ခဲ့ တော့ ဟု သင်္ဘောစီးတို့ကဆိုလျှင်။ ထိုဥစ္စာထုပ်ကို သင်္ဘောဆိပ်သို့ချ၍။ သင်္ဘော၌တင်ထားခဲ့ပြီး၍။ မယ်တော်ဆီသို့တဖန်ပြန်လာလတ်၍။ မယ်တော်ကိုရှိသေစွာရှိခိုးလျက်။ မယ်တော်။ ယခုသုဝဏ္ဏဘုမ္မိသို့ သွား သူ သ င်္ဘော စီး ကုန် သည် များ အ ဘော် ကြုံမ်သောကြောင့်။ ထိုသူတို့နှင့်အတူ သုဝဏ္ဏဘုမ္မိသို့လိုက်၍ ကုန်ပြု ပါချေအံ့။ ကျွန်ုပ် ကို အနူး အညွတ် လွှတ် တော် မူပါဟု ခွင့်တောင်း လေ၏။ မယ်တော် လည်း ချစ်သား။ မဟာ သမုဒ္ဒ ရာမည် သည် ကား အလွန် ဘေး အ န္တ ရာယ် များ သည် ဖြစ် ၍။ မဟာ သမုဒ္ဒရာကို ကျက်စား ကုန်သော သင်္ဘောစီး ကုန်သည်တို့သည် မိမိတို့ လိုအပ် သော အရပ်ကို ရောက် မည်ကား အလွန်ခဲလှ၏။ မဟာသမုဒ္ဒရာသို့ ချစ်သား မလိုက် လေနှင့်။ ဥစ္စာများ သည်ဟူ၍ အဘယ် အကျိုး ရှိအံ့ နည်း။ ယခု မိခင်တွင် ရှိသော ဥစ္စာနှစ်ဖြင့်ပင် သော်လည်း။ မိထိလာ ပြည်ကိုသာ မက။ များစွာသော ပြည်တို့ကိုပင် အလိုရှိလျှင် ရလောက်ပြီ။ ယခုရှိ

သည့် ဥစ္စာနှင့်သာ မိမိလာပြည်သို့သွား၍။ အဘာအရိပ်အရာကို
သိမ်း ယူ ချေ လော့ ဟု ဆို၍။ မဟာ သမုဒ္ဒ ရာသို့ မ လိုက် စိမ့်
သောငှာ မြစ်၏။ ဘုရားလောင်း မင်းသားလည်း မိခင်။ ကျွန်ုပ်
လိုက်မည် ဟူ၍ သင်္ဘော၌ ဥစ္စာထုပ်ကို တင်လျက် အပြီးအစီး
ရှိပြီ။ကျွန်ုပ်ကိုမတားပါလင့်။ လိုက်ပါရစေ။အသာအကြည်ခွင့်
လွှတ်တော် မူပါဟု ဆို၍။ မယ်တော်ကို ရှိခိုး ပူဇော် ခဲ့ပြီးလျှင်။
အိမ်မှ သင်္ဘောဆိပ်သို့ဆင်း၍။ ခုနစ်ရာသော သင်္ဘောသား တို့
နှင့်တကွသင်္ဘောစီးလျက်။သုဝဏ္ဏဘုမ္မိသို့ရွှေရွက်လွှင့်လေ၏။

ထို ဘုရားလောင်း သင်္ဘော လွှင့်သည့် နေ့ပင်လျှင်။ မိမိလာ
ပြည် ၌ ဘ ထွေး တော် ပေါလ ဇ န က မင်း နာ လေ ၏။ ဘု ရား
လောင်း သည် လည်း သင်္ဘော လွှင့် လေ သော်။ ခုနစ်ရက် ဖြင့်
ပင်လျှင် ယူဇနာ ခုနစ်ရာ တိုင်တိုင် ရောက်သဖြင့်။ လေ အဟုန်
ပြင်းခြင်း ကြောင့်။ မခိုင် မခံ့နိုင်သည် ဖြစ်၍။ သင်္ဘော ပျဉ်စပ်
တို့သည်ကွဲပေါက်ခြင်းသို့ရောက်လေကုန်၏။ ထိုကွဲသို့ကွဲပျက်
ရာမှ ရေဝင်လတ်သဖြင့်။ မစောင်းမတိမ်း သမုဒ္ဒရာ အလယ်၌
သင်္ဘော နစ်လေ၏။ ထိုအခါ။ ခုနစ်ရာ သော သင်္ဘော သား တို့
သည်.သေအံ့သော ဘေးမှ ကြောက်လန့် ကုန် သဖြင့်။ ငိုကြွေး
မြည်တမ်း ကြကုန် လျက်။ အချို့ သော သင်္ဘော သား တို့သည်
မိမိတို့ အလိုရှိရာ အသီး အသီး နတ် တို့ကို ကိုးကွယ် ရှိခိုး ကြ
ကုန် ၏။ ဘုရား လောင်း မင်း သား မူ ကား။ ရောက် လာ သော
ဘေးကိုငိုကြွေး၍ လွတ်နိုင်မည်မဟုတ်။ အားထုတ်အပ်သော
ယောက်ျား တို့၏ အစွမ်း သာလျှင် ဘေး လွတ် ကြောင်း ဖြစ်၏
ဟု နှလုံးစွဲယူတော် မူသဖြင့်။ ငိုကြွေးခြင်းကိုမပြု။ ဥပဒ် လွတ်
ကြောင်းမဟုတ်၍ သမုဒ္ဒရာနတ်ကိုလည်းရှိမခိုးဘဲ။ ပျဉ်ကွဲ၍
သင်္ဘော နစ်မှန်း သိလျှင်။ ထောပတ် သစ်ကို သကြား နှင့် နယ်
၍ ဝစွာ စားပြီး သော်။ ခိုင်ခံ့ ညှံ့မွှတ် သော ပုဆိုး နှစ်ထည် ကို
ရေမဝင်စေခြင်းငှာ ဆီဆွတ်ကာမြဲစွာဝတ်၍။ လင်းယည်တိုင်
ကို မှီလျက် ရပ် နေ သဖြင့်။ သင်္ဘော မြုပ် သော အခါ။ လင်း

ယည့်တိုင် ထက်သို့ တက် လေ၏။ သင်္ဘောသား ခုနစ် ရာ တို့
သည် လည်း ယောက်ျား တို့ ၏ လုံ့ လ ကို မပြု ကြ ဘဲ။ ဗိုး ရိပ်
ကြောက် လန့် ခြင်း ပြင်း စွာ နှင့် ပင် ငိုကြွေး မြည် တမ်း လျက်။
ငါး။ လိပ်၊ မကန်းတို့၏အစာဖြစ်လေကုန်၍။ သင်္ဘောထက်ဝန်း
ကျင် တဥ သဘ ခန့်သော မဟာ သမုဒ္ဒရာ ရေ သည် သွေး အ
တိ ဿွမ်း ရှက် သဖြင့်။ ခြင်း ခြင်း နီ မှု ရှိလေ၏။ ဘုရား လောင်း
မင်းသား သည် လင်းယည့်တိုင် ထွဋ်ဖျား၌ ရပ်လျက်။ ဤမည်
သော အရပ်၌ မိထိလာပြည် ရှိရာ၏ ဟု အရပ်ကို မှတ်၍။ လင်း
ယည့် တိုင် ဖျား မှ ခုန် လေ သော်။ ခွန် အား ကြီး တော် မူ ခြင်း
ကြောင့်။ ငါး၊ လိပ် တို့စားရာကိုလွန်၍။ တဥသဘခန့်လောက်
သော အ ရပ် သို့ ကျ လေ ၏။ ထို သ င်္ဘော နစ် သ ည့် နေ့ ပင်
လျှင်။ မိထိလာ ပြည်၌ ဘထွေး တော် ပေါလ ဇနက မင်း သည်
လည်း ဘဝ ပြောင်း လေ၏။ ဘုရား လောင်း သည်။ ထို ကျရာ
သော ရေ အပြင်မှ စ၍။ မြခုံလောက် ကြား၌ ထားသော ရွှေတုံး
ကဲ့သို့။ လှိုင်းလုံး လှိုင်းကြား။ နုထွားလှသော ကိုယ်တော် ဖြင့်။
ပေါ်တုံ ပျောက်တုံ။ တပြောင်း ပြန် ပြန်။ အားအန် ဖြည့် တင်း
လျက်။တနေ့ချင်းကူးခပ်၍ လိုရာကိုရောက်တော့မည့်ကဲ့သို့။ မ
တွန့်တိုဘဲ။ ရဲရင့်တင်းမာခြင်းဂုဏ်။ ခံ့ခံ့မင်မင်လျင်စွာရောက်
ကြောင်း။ ကောင်းမြတ်သော လုံ့လဝန်ဖြင့်။ ခုနစ်ရက်ပတ်လုံး
ကူးတော်မူလေ၏။

ထို ကူးတော် မူရသော ခုနစ်ရက် တွင်း၌။ နေ့တိုင်း မပြတ်
လျှင် အခါကို မြော်ချင့်၍။ နေလွဲ ညစာ ဖြစ်ကောင်းသော စား
ဘွယ် သောက် ဘွယ် တ ရံ တ ခု အ နီး အ စပ် မျော ကပ် လာ
သော်လည်း မသုံး ဆောင်ဘဲ။ ဆားငံ ရေဖြင့် ခံတွင်းကိုဆေး
လျက် ဥပုသ် ဆောက်တည် တော် မူ၏။ ထိုကာလ၌ကား မိဘ
ကိုအရိုအသေ လုပ်ကျွေးခြင်း။ သူတပါးတို့အား ချစ်ခင်သနား
ခြင်း။ အလှူပေးခြင်း။ သီလဆောက်တည်ခြင်းစသည့် ဂုဏ်နှင့်
ပြည့်စုံသောယောက်ျားမြတ်တို့ကို။ မဟာသမုဒ္ဒရာ၌နစ်မွန်း၍မ

သေစေလင့်ဟု။ စတုလောကပါလ နတ်မင်းကြီး လေးယောက်တို့က။ မဏိမေခလာမည်သောနတ်သမီးအား။ ထိုနစ်မွန်းသော သူတို့ကို ဆယ်တင်စိမ့်သောငှာ သမုဒ္ဒရာ၌ အစောင့် ထားသတည်း။ ထို ဘုရားလောင်း နစ်တော်မူသော ခုနစ်ရက် တွင်း၌ကား။ မဏိ မေ ခ လာ နတ် သမီး သည် မိမိ ဘုံ ဗိမာန်၌ နတ် ၏ စည်းစိမ်ကိုစံစားခြင်းဖြင့်မေ့လျော့၍။ သမုဒ္ဒရာမှာမည်သို့ဖြစ်လိမ့်အံ့နည်းဟု မကြည့်မဆင်ခြင်မိဖြစ်၏။ ခုနစ်ရက်မြောက်သောနေ့မှ သတိရ၍။ ငါကားသမုဒ္ဒရာကို မကြည့်မိသည် ယနေ့ ခုနစ် ရက် ရှိပြီ။ အကြောင်း အသို့ နည်း ဟု သမုဒ္ဒရာကို ရှုကြည့်ဆင်ခြင်လေသော်။ ရွှေတုံးကဲ့သို့ တပြောင်းပြန်ပြန် ကူးသော ဘုရားလောင်းကို မြင်လျှင်။ မိမိလာ ပြည့်ရှင် သားဖြစ်သော ဤမဟာဇနကသတို့သားသည်။ အကယ်၍မဟာသမုဒ္ဒရာ၌နစ်မွန်း၍ဆုံးချေအံ့။ ငါသည်နတ်အစည်းအဝေးသဘင်သို့ဝင်ရ တော့မည် မဟုတ်ဟု ကြံလျက်။ တင့်တယ် စွာသော မြခါးရန်းကြိုး။ ပြိုးပြိုး ပြက်တောက် ပသော အဝတ် တန်ဆာ တို့ဖြင့် တန်ဆာဆင်အပ်သော နှုးညံ့ရည်သွေးစွာ ကိုယ်ဖြင့်။ ဘုရားလောင်းရှိရာ မဟာ သမုဒ္ဒရာ အပြင်သို့ သွား၍။ မနီး မဝေးသော ကောင်းကင်က။ ကိုယ် ထင်ပြကာ ရပ်လျက်။ ကောင်းမြတ်သော လုံ့လဖြင့်တည်း ကူးသလော။ ရှုးမှူးသော စိတ်ဖြင့်တည်းကူးသလော။ စုံစမ်းအံ့ဟုကြံပြီးသော်။ ရှေးဦးစွာ။ ကောယံ မဇ္ဈေ သမုဒ္ဒသ္မိံ။ အစ ရှိသော ဂါထာ ဖြင့်။ ဘုရား လောင်းအားစုံစမ်းလေ၏။

အဓိပ္ပာယ်ကား။ အပြော ကျယ် စွာ သော ဤမဟာ သမုဒ္ဒရာ အလယ်၌။ ချင့်ရှုယ် မျှော် လှမ်း၍ ကမ်းကို မမြင် ဘဲ လျက်။ ရဲရဲ ရူးရူး ကူးဘိ သည်ကား အသူ နည်း။ တဘက်ကမ်းသို့ မရောက် နိုင်ရာသော ဤ မဟာ သမုဒ္ဒရာ၌ အပင် အပန်း ကူးသဖြင့်။ အဘယ်အကျိုးထူးကိုရ၍။ ကိုယ်ဆန္ဒပြည့်မည် ထင်မြင်ဘွယ် ရှိသော ကြောင့်တည်း မရပ်မနား ကြိုးစား အားထုတ်

ခြင်းကို ပြုဘိ သလော။ သင်ကူးခြင်း၌ အဘယ် အကျိုး ရှိပါအံ့ နည်း ဟု ဆို၏။ နတ်သမီး စကားကို ကြားလျှင်။ ဘုရား လောင်း သည် ဤသို့ကြံ၏။ ဤသမုဒ္ဒရာ၌ ငါ ကူးရသည်ကား ယနေ့ ခုနစ်ရက်ရှိပြီ။ တစုံ တယောက်သော သူကိုမျှ မမြင်ရစဘူး။ ယနေ့မှသာ ဤသို့သောစကားကို ကြားရ၏။ အဘယ်အသံနည်း ဟု ကောင်းကင် သို့ မျှော်ကြည့် လတ်သော်။ နတ်သမီးကို မြင်၍ စကားတုံ့ပြန်အံ့သောငှာ။ ။နိသမ္မ ဝတ္တံ လောကဿ။ ဝါယာမဿ စ ဒေဝတေ။ တသ္မာ မဇ္ဈေ သမုဒ္ဒသ္မိံ။ အပဿံ တီရမာယုဟေ။ ။ဟူသောဂါထာဖြင့်ဆိုတော်မူ၏။ ။ဒေဝတေ။ နတ်သမီး။ လောကဿ။ လောက၏။ ဝတ္တံ။ ပြုရာကျင့်ရာသည့် ဝတ်ကို။ နိသမ္မ။ ရှုစမ်းဆင်ခြင်၍။ ဝါယာမဿ။ လုံ့လ၏။ အာနိသံသဉ္စ။ အကျိုးဆက်ကိုလည်း။ နိသမ္မ။ ရှုစမ်းဆင်ခြင်၍။ အဟံ။ ငါ သည်။ ယသ္မာ။ အကြင် ကြောင့်။ ဝိဟာရာမိ။ နေလေ့ ရှိ၏။ တသ္မာ။ ထိုကြောင့်။ သမုဒ္ဒသ္မိံ မဇ္ဈေ။ သမုဒ္ဒရာ အလယ်၌။ တီရံ။ ကမ်းကို။ အပဿံ။ မမြင်ဘဲ။ အာယုဟေ။ လုံ့လပြု၏။ ။ဤ ကားအနက်။

အဓိပ္ပာယ်ကား။ နတ်သမီး။ လောက၌ ဤသို့ပြုလျှင် ဤအပြစ် ဖြစ် ၏။ ဤသို့ ပြုလျှင် ဤ အပြစ်မှ လွတ်၏။ ဤ အမှုကို ပြုလျှင် ပစ္စုပ္ပန် တွင်သာ အကျိုး ရှိ၏။ ဤအမှုကို ပြုလျှင် သံသရာ မှာ လည်း အကျိုးရှိ၏ စ သည်ဖြင့်။ လူ တို့၏ ကျင့်ရာ ဆောင် ရာ သည့် ဝတ်တို့ကိုလည်းကောင်း။ ပစ္စုပ္ပန်သံသရာ မျက်မှောက် မျက်ကွယ် အပြစ် လွတ်ကြောင်း ကောင်းစွာ အားထုတ် အပ် သော ယောက်ျားတို့၏ လုံ့လသည် အကျိုးမဲ့ဖြစ်ဘူးသည်မရှိ။ ပစ္စုပ္ပန် သံသရာတွင်။ တခုခု၌ သူခကို မလွတ်စေနိုင်ရာပြီဟူ ၍ လည်းကောင်း။ ရှုစမ်း ဆင်ခြင်၍ နေလေ့ရှိသည်နှင့် အညီ။ ယ ခု အ ပြော ကျ ယ် စွာ သော မ ဟာ သ မု ဒ္ဒ ရာ ၌ လ ည်း။ ယောက်ျားတို့၏လှုံ့လကို မလျှော့သဖြင့်။ တခုခုသော အကျိုး စီးပွားနှင့် လွတ်ကင်းတော့မည်မဟုတ်ဟု အားထုတ်ခြင်း၌အ

ကျိုးကို မြင်သည် စင်စစ်ဖြစ်လျှက်။ ဤသမုဒ္ဒရာ၏ ကမ်းကိုမ မြင်ကာမျှနှင့်။ အဘယ်ကြောင့်ယောကျ်ားတို့၏ လုံ့လကိုလျှော့ ထိုက်အံ့နည်း။ ကမ်းကိုမြင်သည်ဖြစ်စေ။ မမြင်သည်ဖြစ်စေ။ အကျိုးကိုမြင်သဖြင့် ငါ လုံ့လပြုတော်မူသည်ဟုဆို၏။ ဘုရား လောင်း စကားကိုကြားလျှင်။ နတ်သမီးသည် အလွန် နှစ်သက် ခြင်းဖြင့်။တရားကိုနာလိုပြန်သောကြောင့်။ ။ဂမ္ဘီရေအပ္ပမေ ယျာသို့ံ။အစရှိသောဂါထာဖြင့်ဆိုပြန်၏။

အဓိပ္ပါယ် ကား။ လုလင်ပျို။ ယောကျ်ား တို့ ၏ လုံ့ လ ဖြင့် အကျိုး ရှိကြောင်းကို သင် ဆိုသည် မှာ။ တပါး သော အရာ၌ သင် ဆိုတိုင်း မှန်၏။ အစောက် အပြော အားဖြင့် မရေ တွက် နိုင် သော ဤ မဟာသမုဒ္ဒရာ၏ အလယ်၌ ကူးသော သင့်အား မူ ကား။ ကမ်း သို့ မရောက် နိုင်ဘဲ။ အကျိုး မဲ့ ပျက် စီး ခြင်း သို့ ရောက် လတံ့ တ ကား။ ကြီး စွာ အား ထုတ် ပါ သော သင် ၏ လုံ့လသည်လည်း အရာမဟုတ်ခြင်းကြောင့်။ အချည်းနှီးဖြစ်၍။ ကိုယ်ပင်ပန်းကာမျှသာရှိမည်မဟုတ်လောဟုဆို၏။ နတ်သမီးစ ကားကို ကြား လျှင်။ ဘုရား လောင်း သည် နတ်သမီး။ ကမ်း သို့ မ ရောက် ၍ သေရ သော် လည်း။ အပြစ် တင် လွတ်ရစ်အောင် သေမည်ဟုဆိုပြီးမှ။ ။အဏဏောဉာတိနံ့ဟောတိ။ဒေဝါနံ့ပိ တု နဉ္စ သော။ ကရံ ပုရိသကိစ္စာနိ။ နစပစ္ဆာနုတပ္ပတိ။ ဟူ သော ဂါထာဖြင့်ဆို၏။ ။ဒေဝတေ။ နတ်သမီး။ ယောနရော။အကြင်သူ သည်။ ကရံ။ ပြုအပ်သော။ ပုရိသကိစ္စာနိ။ ယောကျ်ားတို့လုံ့လ ကို။ ကရောတိ။ ပြု၏။ သောနရော။ ထိုသူသည်။ ဉာတိနဉ္စ။ အမိ မျိုးတို့၏ လည်းကောင်း။ ပိတုနဉ္စ။အဘမျိုးတို့၏လည်းကောင်း။ ဒေဝါနဉ္စ။ နတ်ဗြဟ္မာ တို့၏လည်းကောင်း။ အဏ္ဏဝေ။ အတွင်း၌။ အဏဏော။ကဲ့ရဲ့ခြင်းတည်းဟူသောမြီမတင်သည်။ဟောတိ။ ဖြစ်၏။ ပစ္ဆာ။ နောက်မှ။ နစအနုတပ္ပတိ။ သို့ပြုမိ ပါတပြီးကား ကောင်းလေ၏ဟုနောင်တမရှိရပြီ။ ။ဤကားအနက်၊

အဓိပ္ပါယ် ကား။ နတ် သမီး။ အကြင် သူ သည် ယောကျ်ား

တို့ လုံ့လကို မလျှော့ဘဲ။ ကောင်းစွာ လုံ့လ ပြုသည် ဖြစ်အံ့။ ထိုသူသည် မိဘ ဆွေမျိုး ချစ်နှစ်လို အပ်သော အဆွေခင်ပွန်းတို့၏ အလယ်၌။ ကဲ့ရဲ့ ပြစ်တင်ခြင်းကို လည်း မခံရ။ နောက်မှ တဖန်ပြန်၍လည်း နောင်တမရှိရ။ ငါတို့သည်လည်း။ ဤ သမုဒ္ဒရာ အလယ်၌ ကမ်းသို့ ရောက်နိုင်ဘွယ် မရှိတကားဟု အကယ်၍ လုံ့လကို လျှော့ချငြားအံ့။ ယောကျ်ားမြတ်ဖြစ်ကျိုး အဘယ်မှာ ရှိတော့အံ့နည်း။ သင် နတ်သမီး မှစ၍ အဆင့်ဆင့် ကြားသဖြင့်။ ငါ့ကို ချစ်နှစ်လို ကုန်သော သူအပေါင်းတို့သည် မဟာဇနက မင်းသားကား။ မိမိပင်ယောကျ်ားအားနှင့်ပြည့်ရုံ့သူ စင်စစ်မှန်လျက်။ အသက် မရှိသော ကျွန်းထင်း ကဲ့သို့ လုံ့လမပြုဘဲ နေလေခြင်းကြောင့်။ မဟာသမုဒ္ဒရာမှာ ပျက်စီးလေသည်ဟု ချစ်ခင်ရုံမက်သောအားဖြင့်။ ထိုက်သမျှအခွင့်ကို ရှာကြံ၍။ ငါ့အား အပြစ် မတင် ရစ်ပြီလော။ ယင်းသို့ ဖြစ်သောကြောင့်။ သေသော်လည်း အပြစ်တင် လွတ်ရစ်အောင်။ ယောကျ်ားတို့လုံ့လကို ငါပြုသည်ဟုဆို၏။ ထိုစကားကိုကြားလျှင်။ နတ်သမီးလည်းလုံ့လအပြုမှား၍။ အပြစ်ထပ်ပွားကြောင်းကိုပြပေလိုပြန်၍။ ။အပါရဏေယျံယံကမ္မံ။ အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပါယ်ကား။ မင်းသား။ အကြင်သူသည်လုံ့လမပြုအပ်သော အရာ၌ လုံ့လပြု မှားချေအံ့။ ထိုသူ၏ လုံ့လ သည် အရာမကျခြင်းကြောင့်။ထိုအပ်သောကိစ္စ။တောင့်တအပ်သောအကျိုးမပြီး။ အသက် ကိုယ်လုံး ဆုံးရှုံး ပျက်စီး ခြင်းသို့ ရောက် သော်လည်း ရောက်ရာ၏။ ကိုယ်စိတ်၏ ပင်ပန်း ကာမျှလည်း ရှိတတ်၏။ ပရိသတ် အလယ်၌ ရှက်ဘွယ် သော်လည်း ရရာ၏။ ယခုမင်းသား မှာလည်း။ ကမ်းကိုမမြင်သော မဟာသမုဒ္ဒရာ၌ ကူးသည်ဟူ၍လုံ့လနေရာကျပါအံ့လောဟုဆို၏။

ထိုစကားကို ကြားလျှင်။ ဘုရားလောင်း သည် စကားတုံ့ပြန်၍။တဖန်နတ်သမီးကမဆိုသာအောင်ချေတော်မူခြင်းငှာ။ ။

အပါရဏေယျမစ္စန္တံ။ ယောဝိဒိတွာနဒေဝတေ။ နရက္ခေအတ္တ နောပါဏံ။ ဇညာသောယဒိဟာပယေ။ ။အဓိပ္ပာယဖလံဧ ကော။အသ္မိံလောကသ္မိံဒေဝတေ။ပယောဇယန္တိကမ္မာနိ။တာနိ ဇာနန္တိဝါနဝါ။ ။သန္နိဋ္ဌိကံကမ္မဖလံ။နနုပဿသိဒေဝတေ။ သန္နာအညေတရာမဟံ။တဉ္စပဿာမိသန္တိကေ။ ။သောဒအ ဟံဝါယ မိဿာမိ။ ယထာသတ္တိ ယထာဗလံ။ ဂစ္ဆံ ပါရံ သ မုဒ္ဒဿ။ကဿံပုရိသကာရိယံ။ ။ဤလေးဂါထာတို့ဖြင့်ဆို၏။

ဒေဝတေ။ နတ်သမီး။ ယောနရော။ အကြင်သူသည်။ အစ္စန္တံ။ စင် စစ် လျှင်။ အပါ ရ ဏေ ယျံ။ လုံ့လ ပြု သ ဖြင့် အပြီး သို့ မ ရောက် နိုင်သောအမှုကို။ ဝိဒိတွာန။ သိလျက်။ အတ္တနော။ မိမိ ၏။ ပါဏံ။ အသက်ကို။ နရက္ခေ။ မစောင့်။ တာဒိသော။ ထိုသို့ သဘောရှိသောအရာတို့၌။ သောနရော။ ထိုသူသည်။ ယဒိဟာ ပယေ။ အကယ်၍မိမိလုံ့လကိုလျှော့အံ့။ တဿ။ ထိုသူ၏။ ကု သီတဘာဝံ။ လူပျင်းလူတန်ဟူသောအဖြစ်ကို။ ဇညာဇာနေယျ။ သိရာ၏။

အသ္မိံ လောကသ္မိံ။ ဤလူ ပြည်၌။ ဧကော။အချို့ကုန်သောသူ တို့သည်။ အဓိပ္ပာယဖလံ။ မိမိအလိုဆန္ဒပြည့်ခြင်း၏ အကျိုးကို။ သံပဿမာနာ။ မြင်ကုန်သည် ဖြစ်၍။ ယာနိကမ္မာနိ။ အကြင် လယ်လုပ်ခြင်း ကုန်သွယ်ခြင်း စသော အမှုတို့သည်။ သန္တိ။ ရှိ ကုန်၏။ တာနိကမ္မာနိ။ ထိုလယ်လုပ်ခြင်းကုန်သွယ်ခြင်းစသော အမှုတို့ကို။ ဇာနန္တိ ဝါ။ အလိုရှိသည်မှုလည်းဖြစ်စေ။ နဇာနန္တိ ဝါ။ အလို မရှိသည် မှုလည်း ဖြစ်စေ။ ပယောဇယန္တိ။ ယှဉ် ကုန်၏။

ဒေဝတေ။ နတ်သမီး။ မမ။ ငါ၏။ သန္နိဋ္ဌိကံ။ မျက်မှောက် ဖြစ် သော။ ကမ္မဖလံ။ လုံ့လ ပြုခြင်း ၏ အကျိုးကို။ တွံ။ သင်သည်။ ပဿသိ နနု။ မြင် ဖြိ မဟုတ် လော။ အညေ။ ငါ မှ တ ပါး ကုန် သော အပေါင်းအဘော် သင်္ဘောသားတို့သည်။ သန္နာ။ သမုဒ္ဒ ရာ၌ နစ်ကြ လေကုန်ပြီ။ အဟံ ဧကော။ ငါ တ ယောက် တည်း

သာ။ တရာမိ။ ယာရကူးလျက်တည်၏။ မမ။ငါ၏။ သန္တိကေ။အ ထံသို့။ အာဂဝါ။ လာသေသာ။ တဋ္ဌ။ သင် သို့သော နတ်သ္မီး ကို လည်း။ပဿာမိ။ငါမြင်၏။

ယော အဟံ။ အကြင် ငါ သည်။ ယထာသတ္တိ။ အစွမ်း ရှိ တိုင်း။ ယထာဗလံ။ အားရှိတိုင်း။ ဝါယမိဿာမိ။ လုံ့လပြုအံ့။ သမုဒ္ဒဿ။ သမုဒ္ဒရာ၏။ ပါရံ။ ကမ်းသို့။ ဂန္တုံ ဂန္တွနွော။ ကူး သော။ သော အဟံ။ ထို ငါ သည်။ ပုရိသကာရိယံ။ ယောက်ျား တို့ ပြု အပ်သောကိစ္စလုံ့လကို။ ကဿံ ကရိဿာမိ။ပြုအံ့။ ။ဤကား အနက်။

အဓိပ္ပာယ်ကား။ နတ်သ္မီး။ ယခု ငါမဟာ သမုဒ္ဒရာကို ကူး သက်ခဲ့သို့။ အကြင် သူတို့၌ ဆောင် ရွက်၍ မပြီး နိုင် သော အမှု ကြီး အမှုကျယ် ရောက် လတ် သော်။ ဤအမှုကို ငါလုံ့လ ပြု ၍ အောင် နိုင်ဘွယ်မရှိရာ။ ကံ ကြမ္မာ စီမံတိုင်း ဖြစ်စေ တော့ဟု လုံ့လကိုလျှော့၍။နွား။ ကျွဲ။ ဆင်။ မြင်းတို့ကိုပင်သော်လည်းမိမိ စောင့်ထိန်း သူ ဖြစ်ပါလျက်။ ပြင်းပြသော အမှုမှ ဖြည်း ညှင်း သက်သာစေကြောင်း ကောင်းမြတ်သော လုံ့လဖြင့်။ ကိုယ်အ သက်ကိုမျှ မစောင့် မထိန်း နေ ငြားအံ့။ ထိုသူကို လောက၌လူ ပျင်း လူတန်ဟူ၍။ သူ ခပ်သိမ်းတို့ အပြစ် တင်စရာ ဖြစ်လေ၏။ ကိုယ်သို့ ရောက်လာသော အမှုမှန်က။ တန်သည် မတန်သည်။ ရာသည် မရာသည် ဆိုရတော့မည် မဟုတ်။ အောင်သည်ဖြစ် စေ။ မအောင်သည်ဖြစ်စေ။ လုံ့လကို မလျှော့ထိုက် စင်စစ်မှန် သည်ဖြစ်လျက်။ လူပျင်းလူတန်တို့၏ စကားအယူကိုသာ သင် နတ်သ္မီးအစွဲအမှတ်ပြု၍။ ယခုဆိုသောစကားမသင့်။ နတ်သ္မီး။ ဤ လောက၌ ရှေး ကုသိုလ်ကံ မ.ဖွံ့ ဖြိုး လွန်း ကုန် သော သူ တို့ သည် မိမိတို့နှင့် ထိုက်တန်ရာ လယ် လုပ်ခြင်း။ ကုန်သွယ် ခြင်း အစရှိသော အမှုတို့ကို ဆောင်ရွက်လိုသည်ဖြစ်စေ။ မဆောင် ရွက် လို သည် ဖြစ်စေ။ ကိုယ် အလို ဆန္ဒ ပြည့် ပုံ မည် စင် စစ် မှန်လျှင်။ ပျင်းရိသည် ဟူ၍ မနေအပ်။ ကောင်း ဝါသော လုံ့လ

ဖြင့်။ အခါခပ်သိမ်းပင် ကိုယ်နှင့်တန်သည်။ နှုတ်ဖြင့်ဖန်သည်။ စိတ်ဖြင့် ကြံမည်ဟုထောက်ချင့်၍။ လုံ့လပြုအပ်လှတော့သည်။ နတ်သ္မီး။ လုံ့လရှိကုန်သောသူတို့၏ လုံ့လအကျိုးဆက်ကို များစွာငါပြောရတော့မည်မဟုတ်။ ဤသမုဒ္ဒရာ၌ငါနှင့်အတူ ခုနစ်ရာသော သင်္ဘောသား ကုန်သည် တို့လည်း နစ်မွန်းကြ သည်တွင်။ ထိုခုနစ်ရာသော သင်္ဘောသား တို့သည်။ ယောကျ်ားတို့၏ လုံ့လ ချို့တဲ့ လေခြင်းကြောင့်။ ငါး လိပ်တို့၏ အစာသာ ဖြစ်ကြ လေကုန်ပြီ။ ငါမူကား ယောကျ်ား တို့၏ လုံ့လ ကို မ လျော့ခြင်းကြောင့်။ ငါး လိပ်တို့၏ ဘေးမှ လည်း လွတ် ခဲ့၏။ လူသာမညတို့ မြင်ရခဲသော နတ်ဝတ်နတ် တန်ဆာနှင့် လာလတ်သော သင်နတ်သ္မီးကိုလည်း။ အနီးကြပ်ကြပ်။ အမှတ်ထင်ထင်။ ငါမြင်ရ၏။ သင် သနားချစ်ခင်ခြင်းရှိ၍။ ငါ့ကို ဆောင်ပါလျှင်လည်း။ လိုအင်အပြီးရောက်ခြင်းအကျိုးရှိလတံ့။ သင်မဆယ်တင်၍။ ဤတွင် ငါ သေဆုံးရသော်လည်း။ လုံ့လ ပြုကျိုး ငါ၌ ရှိလေပြီ။ ငါ၏ အခွမ်း ရှိတိုင်း အား ရှိတိုင်း။ မ ဆုတ် မဆိုင်း သော လုံ့လဖြင့်။ မဟာ သမုဒ္ဒရာ ကမ်းသို့ ကူးလျက်။ ယောကျ်ားတို့၏ ပြုအပ်သော လုံ့လကို ငါပြုအံ့သတည်းဟု ဆို၏။ ဘုရား လောင်း စကား ကို ကြား လျှင်။ မဏိ မေ ခလာ နတ် သ္မီး သည် ဤ မင်းသားကား အလွန် စကား မြဲမြံလှပေ၏ဟု နှစ်သက်သဖြင့်။ ချီးမွမ်းလို၍။ ယောတွံဧဝဂ်တေဩဃေ။ အစ ရှိသော တဂါထာခွဲဖြင့် ဆို၏။

အဓိပ္ပာယ်ကား။ မင်းသား။ အစောက်အပြော အားဖြင့် မရေ တွက် နိုင် ကျယ် စွာ သော ဤ သမုဒ္ဒရာ အလယ်၌ နစ် မွန်း သောသင်သည်။ သူတပါးတို့ ပြုနိုင်ခဲသော မြဲမြံခြင်းစိတ်ဖြင့်။ တွန့်လိပ် ဆုတ်နစ်ခြင်းမရှိ။ ပိပိလိုရာ ရောက်ကြောင်း ကောင်းမြတ် ဖြောင့် စင်း သော လုံ့လ နှင့် ပြည့်စုံ သည် မှန် ပေ၏။ ယောကျ်ား တို့ ပြုရာသော လုံ့လနှင့် ပြည့်စုံ ခြင်းကြောင့်။ ငါးလိပ်တို့၏ ဘေးရန်မှလည်း လွတ်၍။ ဤသမုဒ္ဒရာ၌ မနစ်မွန်းဘဲ

ချမ်းသာလေ၏။ ယခု နှလုံးမွေ့လျော်ရာအရပ်သို့ သင်သွားလေ
တော့ဟု ဆိုပြီး လျှင်။ မြတ်သော ထုံ့လရှင် ပညာရှိ မင်း သား။
သင့်ကို ယခု ငါ ဆယ်တင်အံ့။ အဘယ် အရပ်သို့ ဖို့ဆောင် ရ
မည် နည်းဟု မေး၏။ နတ်သ္မီး စ ကား ကို ကြား လျှင်။ ဘုရား
လောင်း သည် နတ်သ္မီး။ မိဓိလာ ပြည်သို့ ငါ့ကို ဖို့ဆောင် လော့
ဟုဆို၏။

ထိုအခါ မဏိမေခလာ နတ်သ္မီး သည် ပန်းစည်းကို ဖိုက်ချီ
သကဲ့သို့။ ဘုရားလောင်းကိုလက်နှစ်ဘက်ဖြင့်။ သက်သက်သာ
သာ ချီဆောင်ပြီးလျှင်။ ချစ်ဖွယ်ရွှာသော သားငယ်ကို အမိဖိုက်
သကဲ့သို့။ သိမ်မွေ့ဖွယ်ရွှာသောရင်ဖြင့်ဖိုက်၍။ ကောင်းကင်ခရီး
ဖြင့်ဆောင်လေ၏။ ဘုရားလောင်း သည်လည်း ခုနစ်ရက် ပတ်
လုံး ဆားငံရေဖြင့် လိမ်းကျံသောကိုယ်ရှိလျက်။ အလွန်ပင်ပန်း
တော် မူသည်ဖြစ်၍ လည်းကောင်း။ နတ်သ္မီးအတွေ့ သိမ်မွေ့နူး
ညံ့သော ရင်ခွင်ကို တွေ့သည် ဖြစ်၍ လည်း ကောင်း။ အိပ်ပျော်
ခြင်းသို့ ရောက် လေ၏။ မဏိ မေ ခလာ နတ် သ္မီး လည်း မိဓိလာ
ပြည်သို့ ဆောင်ပြီးလျှင်။ မင်း အဆက် ဆက် ထွက် စံရာ ဖြစ်
သော သရက်ဥယျာဉ်ဝယ်။ မင်းတို့စံပယ်ရာမင်္ဂလာကျောက်
ဖျာအပြင်၌။ လက်ျာ နံတောင်းဖြင့် စောင်းကာသိပ်ထား၍။ ဥ
ယျာဉ်တွင် ရှိသည့် ရုက္ခစိုး နတ် တို့ကိုသင်တို့။ ဤယောက်ျား
မြတ်အိပ်ရာမှ မထသမျှကာလပတ်လုံး။ စောင့်ရှောက် ရစ်ကြ
ဟု အစောင့် အရှောက် ထားခဲ့ ပြီးသော်။ မိမိ နေရာ သို့ သွား
လေ၏။

ဤအရာ၌။ ဘေးရန် ရောက်သောအခါ လုံ့လပြုရာသည် အ
ကြောင်းငါးပါးတွင်။ ဘုရားလောင်းသည်မြဲမြံရဲရင့်ခြင်း။ ခွန်
အားနှင့် ပြည့်စုံ ခြင်း တည်း ဟူသော သက် သက် သော ကိုယ်
တော်၏ အစွမ်းဖြင့်။ ထိုရေ ဥပဒ်မှ လွတ်တော် မူလေ၏။ ယခု
အခါ။ သူခပ်သိမ်းတို့သည်လည်း တစုံတခုသော ဥပဒ်နှင့်တွေ့
ကြုံခဲ့သော်။ ။ဇပ္ပေနမန္တေနသုဘာသိတေန။အနုပ္ပဒါနေန

ပဝေဏိယာဝါ။ ယထာယထာ ယတ္ထ လဘေထ။ အတ္ထံတထာ
တထာပရက္ကမေယျ။ ။ဟု ဟောတော်မူသည်နှင့် အညီ။
ထို ရောက်လာသောရန်ကို မိမိ အစွမ်းဖြင့်သော်လည်း နိုင်နင်း
အောင် လုံ့လပြုရာ၏။ ကိုယ်အစွမ်းဖြင့် မတတ် နိုင်လျှင်။ နှလုံး
ဝင်သူ အဆွေ ခင်ပွန်း ကောင်း တို့နှင့် သော်လည်း တိုင်ပင် ၍
ဆောင်ရာ၏။ ထိုအန္တရာယ်ပြုလတံ့သောသူတို့အား။ သုဘာသိ
တဟုဆိုအပ်သော ဖြောင့်မှန်တည်ကြည်စွာ ချစ်ဘွယ်သောစ
ကားဖြင့်ဖြားယောင်းပူးကပ်၍သော်လည်းဆောင်ရာ၏။ အနုပ္ပ
ဒါနဟု ဆိုအပ်သော ကိုယ်နှုတ်တံစိုး။ ဥစ္စာတံစိုးတို့ဖြင့် သော်
လည်းဆောင်ရာ၏။ ပဝေဏိယာဟုဆိုအပ်သော အန္တရာယ်ပြု
မည်သူနှင့် အမျိုးအဆွေစသည် မပြားမခြား ဖြစ်ကြောင်းနှင့်။
အနွယ် ဆက်၍ သော်လည်း ဆောင်ရာ၏။ ဤ ငါးပါး တို့တွင်။
အခွင့်နှင့် လျော်စွာ။ မိမိနှင့်ထိုက်ရာသော အကြောင်းဖြင့်။ ဘေး
ဥပဒ်မှ လွတ် ကြောင်း။ ကောင်းစွာ လုံ့လ ပြု ရာ သည် ဟု မှတ်
ကုန်ရာ၏။ ။ဤကားစကားချပ်တည်း။

ထိုအခါ မိထိလာ ပြည် ၌ကား ဘထွေး တော် ပေါလဇနက
မင်းလွန်၍။ ခုနစ်ရက်ရှိနှင့်ပြီး သတည်း။ ထိုပေါလဇနကမင်း
၌ကား သားတယောက်မျှမရှိ။ သီဝလီဒေဝီ အမည်ရှိသော သမီး
တော် တယောက်သာ ရှိ၏။ ထို သီဝလီဒေဝီ မင်းသမီး ကား အ
ကျိုးအပြစ်ကို မြင်မြော်သော ပညာလည်း ရှိ၏။ ခွဲခြမ်း ဝေဖန်
စိမံ ထုံးဖွဲ့ခြင်း၌လည်း လိမ္မာ၏။ သမီး တယောက် တည်းသာ ရှိ
သည် ဖြစ်၍လည်း။ ခမည်းတော် မင်းသည် ကြီးမြင့် စွာသော
မင်းသမီးစည်းစိမ်ဖြင့်ချီးမြှောက်လျက်ထား၏။ ထိုအခါ၌လည်း
အပြစ်ခြောက်ပါးကင်းလွတ်လျက်။ ကောင်းခြင်းငါးဖြာ လက္ခ
ဏာ ရုံညီရင်းတွင်။ အဆင်းကို ဆောင်ချိန် အရွယ် ရောက်ပြီး
သည်ဖြစ်၍လည်း။ ပြေပြစ် နုနယ်။ တင့်တယ်သော အရည်အ
သွေးနှင့်လည်း ပြည့်စုံ၏။ ပေါလဇနကမင်းကြီးသည်။ ဘုန်းကံ
ကုန်သော အလျောက်။ သည်းစွာ အနာ ရောက်၍။ သလွန်ပေါ်

၌ မထသောလျှောင်းခြင်းဖြင့် လျှောင်းသောအခါ။ အမတ်ကြီးတို့သည် ဤသို့လျှောက်ထား လိုက်ကြကုန်၏။ အရှင်မင်းကြီး။ ကိုယ်တော်သည် ဤစည်းစိမ်တော်မှပြောင်းလဲ၍။ နတ်ပြည်စံတော်မူခဲ့လျှင်။ အရှင် အရိပ်အရာဖြစ်သော ဤစည်းစိမ် တော်ကို အဘယ်သူအား အပ်ရပါမည်နည်း။ သမီးတော်နှင့်စည်းစိမ်ဘက်ယှဉ်ရမည်သူကို အမိန့်တော် ရှိတော်မူခဲ့ပါဟု လျှောက်မေးကြကုန်၏။

ပေါလဇနက မင်းကြီးလည်း အမတ်ကြီးတို့။ ငါ့ သမီး တော်နှင့် မည်သူသာ ထိုက်တန်သည်ဟူ၍ ငါနှလုံး စွဲပေါင်းလည်းမရှိ။ ယခု ငါအရိပ် လွှဲတော် မူလျှင်။ အမျိုး စည်းစိမ် မြင့် မြတ်သည် ယုတ်ညံ့သည် ဟူ၍ မရွေးချယ် ရစ်ကြနှင့်။ ငါ့ သမီးတော်နှစ်သက်သည် မူလည်းဖြစ်စေ။ ကာယဗလ။ ဉာဏဗလ နှစ်ပါးနှင့်ပြည့်စုံသည်မူလည်းဖြစ်စေ၊ ထိုအကြောင်းနှစ်ပါးနှင့် ပြည့်စုံလျှင်။ မည်သည့်အမျိုးမဆို ငါ့သမီးတော်နှင့်စည်းစိမ်ဘက်ပြုရစ်ကြတော့ဟုဆို၏၊ အမတ်ကြီးတို့လည်း အရှင်မင်းကြီး။ လူတို့မှာ အင်တန်ရုံမျှသောကိုယ်အား ပညာအားနှင့် ပြည့်စုံလျှင်ပင်။ကာယဗလ။ ဉာဏဗလရှိသူဟူ၍ခေါ်ဝေါ်ကြပါသည်၊ ယခု ကိုယ်တော် အမိန့်တော်ရှိသည့်ဗလမှာ။ ပမာဏကို အမိန့်ရှိတော် မူပါမှ။ အခ ကျွန်ုပ် တို့ ရွေးချယ် သာပါ မည်ဟု လျှောက်ထားကြလျှင်။ ပေါလဇနက မင်းကြီးသည် အမတ်တို့။ ကာယဗလငါဆိုသည်မှာ။ လူဗိုလ်ခြေတထောင်တင်မှ။ တင်နိုင် ချနိုင်သောလေးကို။ တယောက် တည်းဖြင့် တင်နိုင် ချနိုင်လျှင် ကာယဗလ ရှိသည် ဖြစ်စေ။ ဉာဏ ဗလ မှာ လည်း။ သား ရဲ ရုပ် အစောင့်နှင့်။ ထောင့်လေးရပ်ဖြင့်။ ရှုဘွယ် တင့်တယ်စွာ ငါစံပယ်ရာ ဖြစ်သော ပလ္လင် တော်၏ ခေါင်းရင်း ကို သိစွမ်း နိုင် သော်လည်း ကောင်း။ တဆယ် ခြောက်လုံး သော ရွှေအိုး ကြီး တို့ကို ဘော်ထုတ်နိုင်သော်လည်းကောင်း။ ဉာဏဗလရှိသည်ဖြစ်စေ။ ထိုသို့သော အင်္ဂါနှင့် ပြည့်စုံလျှင်၊ မည်သည် အမျိုးမဆို အပ်

နှင်းရစ်ကြတော့ဟု ဆို၏။ အမတ်တို့လည်း အရှင်မင်းကြီး အမိန့်တော်ရှိတိုင်း။ ထိုအင်္ဂါလေးပါးရုံညီသူကို အကျွန်ုပ်တို့ ရှာကြံရပါတော့မည်။ ရွှေအိုးကြီး တဆယ်ခြောက်လုံးတို့၏ ထားရာကိုသာ အမြွက်မျှ ပြတော်မူပါဟု လျှောက်ထားကြ ကုန်၏။ အမတ်တို့ စကားကို ကြားလျှင်။ ပေါလဇနက မင်းကြီးသည် ရွှေအိုးကြီး တဆယ် ခြောက်လုံးတို့၏ ထားရာကို အမြွက်မျှ ပြလို၏။ ။သူရိယုဂ္ဂမနေနိဓိ။ အဓောသြဂ္ဂမနေနိဓိ။အန္တောနိဓိဗဟိနိဓိ။ နအန္တောနဗဟိနိဓိ။ ။အာရောဟနေမဟာနိဓိ။အဓောသြရောဟနေနိဓိ။စတုရေ စမဟာသာလ။သမန္တာယောဇနေနိဓိ။ ။ဒန္တဂ္ဂေသုမဟာနိဓိ။ ဝါလဂ္ဂေသု စ ကေပုက္ကေ။ ရုက္ခဂ္ဂေသုမဟာနိဓိ။ သောဠသေတေမဟာနိဓိ။ ။ဟုသုံးဂါထာဖြင့်အမြွက်ပြဆိုလေ၏။ ။ဘော။ဒိုအမတ်တို့။သူရိယုဂ္ဂမနေ။ နေထွက်ရာ၌။ နိဓိ။ ရွှေအိုးတလုံးရှိ၏။ အဓော။ ထိုမှတပါး။ သြဂ္ဂမနေ။ နေဝင်ရာ၌။ နိဓိ။ရွှေအိုးတလုံးရှိ၏။ အန္တော။အတွင်း၌။ နိဓိ။ ရွှေအိုးတလုံးရှိ၏။ ဗဟိ။ အပ၌။ နိဓိ။ရွှေအိုးတလုံးရှိ၏။ နအန္တော နဗဟိ။အတွင်းအပ မဟုတ်ရာ၌။ နိဓိ။ ရွှေအိုးတလုံးရှိ၏။ ။အာရောဟနေ။တက်ရာ၌။မဟာနိဓိ။ရွှေအိုးတလုံးရှိ၏။ အဓော။ ထိုမှတပါး။ သြရောဟနေ။ သက်ရာ၌။ နိဓိ။ ရွှေအိုးတလုံး ရှိ၏။ စတုရေ စ မဟာ သာလ။ အင်ကြင်းပင်ကြီးလေးပင် တို့၌လည်း။ နိဓိ။ ရွှေအိုး တလုံး ရှိ၏။ သမန္တာ။ ရှစ်ရပ်ဝန်းကျင်မှ။ ယောဇနေ။ တယူဇနာထက်၌။ နိဓိ။ ရွှေအိုးတလုံးရှိ၏။ ။ဒန္တဂ္ဂေသု။ဆင်စွယ်ဖျားတို့၌။မဟာနိဓိ။ရွှေအိုးတလုံးရှိ၏။ ဝါလဂ္ဂေသု စ။ အမြီးဖျားတို့၌လည်း။ မဟာနိဓိ။ ရွှေအိုး တလုံးရှိ၏။ကေပုက္ကေ။ရေထဲ၌။မဟာနိဓိ။ရွှေအိုးတလုံးရှိ၏။ ရုက္ခဂ္ဂေသု။ သစ်ပင်ဖျားတို့၌။ မဟာနိဓိ။ ရွှေအိုး တလုံးရှိ၏။ ဧတေမဟာနိဓိ။ဤရွှေအိုးကြီးတို့သည်။ ဂဏာတော။ အရေအတွက်အားဖြင့်။ သောဠသ။တဆယ်ခြောက်လုံးတို့တည်း။ ။ဤကားအနက်။

အဓိပ္ပာယ်ကား။အမတ်တို့။ရွှေအိုးကြီးတို့၏အမြွက်ကိုငါပြ

အုံမှတ်ကြကုန်၊ ရွှေအိုးကြီးထားရာကား နေထွက်ရာ၌ တလုံး၊ နေဝင်ရာ၌တလုံး၊ အတွင်း၌တလုံး၊ ပြင်၌တလုံး၊ အတွင်းပြင်မဟုတ်သည်၌တလုံး၊ တက်ရာ၌တလုံး၊ သက်ရာ၌တလုံး၊ အင်ကြင်းပင်ကြီး လေးပင်တို့၌ တလုံးစီ၊ ရှစ်ရပ်ဝန်းကျင် တယူဇနာထက်၌ တလုံး၊ အစွယ်ဖျားတို့၌ တလုံး၊ အမြီးဖျား၌တလုံး၊ ရေထဲ၌ တလုံး၊ သစ်ပင်ဖျားတို့၌ တလုံး၊ ဤသည့်လျှင် ရွှေအိုးကြီး တဆယ် ခြောက်လုံး တို့၏ အဖြွက်စကား ဖြစ်သည် မှတ်သားရစ်ကြဟု ဆို၏။ ဤမှတပါး၊ သမီးတော်၌ အခွင့်မျိုး တို့ကိုလည်းကောင်း၊ ဆွေတော်မျိုးတော် မိဖုရား မောင်းမ အမှူးအမတ်တို့၌မှာထားအပ်သည်တို့ကိုလည်းကောင်း၊ အလုံးစုံသောပြည်ထဲရေးကိစ္စတို့ကိုလည်းကောင်း၊ အမတ်တို့အား မှာထားပြီးလျှင်၊ ပေါလဇနက မင်းကြီး ဘဝပြောင်းလဲလေ၏။ ။အမတ်တို့လည်း၊ ဥတုဇရုပ်အကြွင်းမျှသာဖြစ်သော မင်း၏ကိုယ်ကို၊ ခုနစ်ရက်တွင်း၌ဖုတ်ကြည်းသဂြိုဟ်ခြင်းကိုပြု၍၊မင်းလွန်သည်မှ ခုနစ်ရက်မြောက်လတ်သော်၊ ဘုရားလောင်းမင်းသားဥယျာဉ်သို့ ရောက်သောနေ့၌ပင်၊မှူးမတ်ပုရောဟိတ်အပေါင်းတို့သည် လွှတ်သဘင်၌ အညီအညွတ်စည်းဝေး၍၊ ဤသို့တိုင်ပင်ကြ၏။

မှူးတော်မတ်တော်တို့၊ ကျွန်ုပ်တို့အရှင်မင်းကြီးသည်၊ သမီးတော် နှစ် သက် ရာ သူ ကို ထီး နန်း နှင်း လေ ဟု မှာ တော် မူ ခဲ့ သည် အတိုင်း၊ အလား အလာ ကို ထောက် ရှု မြော် ချင့် လျှင်၊ စစ်သူကြီးသည်မင်းသမီးနှင့်လည်းအကျွမ်းဝင်၏။ အရှင်ရှိစည်ကပင်လျှင်လည်း၊ အလုံးစုံသော ပြည်ထဲရေးကိုလွှဲ၍၊ စစ်သူကြီးအရေး၌ ခန့်ထား စီရင်သူ ဖြစ် ခြင်း ကြောင့်၊ ဗလ သုံး တန် စွမ်းအန် ရဲရင့်ခြင်းမှာ မရှိ မဆိုသာ ဖြစ်တော့သည်၊ ယင်းသို့ဖြစ်၍၊စစ်သူကြီးကိုရုံစမ်းစေရသော် မကောင်းလောဟု တိုင်ပင်ကြသဖြင့်၊ ကောင်းပြီဟု အများ ညီညွတ်ကြ ပြီးလျှင်၊ ထိုအကြောင်းကိုစာစီ၍၊ အမတ်တယောက်ကိုစာနှင့်စစ်သူကြီး

ဒိမ် သို့ လွှတ်က စေ လိုက်၏။ စစ်သူကြီး သည် ထို စကား ကို ကြားလျှင်။ ဝမ်းမြောက်ဝမ်းသာ ကောင်းပါပြီဟုဝန်ခံလိုက်၍။ ထိုနေ့ ညချမ်းအချိန် ရောက်သော အခါ။ စစ်သူကြီးသည် မင်းသမီးကိုပူးစမ်းအံ့ဟုနန်းတော်သို့သွားသဖြင့်။ နန်းတော်တံခါးဝသို့ ရောက်လျှင်။ စစ်သူကြီး သည် ဤသို့ သော အကြောင်း နှင့် လာကြောင်းကို မင်းသမီးအား ကြားစေ၏။ မင်းသမီးလည်းထိုအကြောင်းကိုကြားလျှင် ဤသို့ကြံ၏။မင်း၏စည်းစိမ်ကိုစံမည်သူဟူသည်ကားအလွန်ခဲလှ၏။ အမှုအထိုက်အလိုက်ကိုမသိ။ သမာဓိမတည်။ အရည်အသွေး။ ယောကျ်ားမြတ်လက္ခဏာ မညီသူဖြစ်ချေလျှင်။ ပြည်ထဲရေးလည်း မချမ်းသာ။ ငါလည်းမနှစ်မြို့။ ယခု ဘို့လည်း ကောင်းကျိုး မထင်။ သံသရာလည်း ဝန်မလွတ် ရှိတော့ မည်။ ဤသို့ ဖြစ်၍။ ထီး ဖြူ ၏ ကြက် သရေ ကို ဆောင်ခြင်းငှာ ထိုက်သော သမာဓိ ရှိမည် မရှိမည်ကို။ထိုစစ်သူကြီး အား ငါ အလိုစမ်း ဦးအံ့ဟု ကြံပြီးလျှင်။ ဤသို့သောအကြောင်းနှင့် စစ်မှူးမင်း နန်းတော် တံခါးဝသို့ ရောက်သည် ဆိုသော်။ အကြံအရှည်ငံ့လင့်ရတော့မည်မဟုတ်။ယခုပင်အရှေ့စရတ်ဝက ကျောင်းတော်ဦးသို့ ဝင်တော်မူပါစေဟု စေလိုက်၏။ ထိုစကားကိုကြားလျှင်။ စစ်သူကြီးလည်းမင်းသမီးနှစ်သက်လွယ်ပါစေဟူသောနှလုံးထားနှင့်။ နန်းတော်အရှေ့လှေကားစရတ်ဝမှ ဝင်လျက်။မင်းသမီးစံရာနန်းပွဲသဘင် ကျောင်းတော်ဦးသို့။ ဂုဏ်မဲ့သောသူတို့ သွားခြင်းဖြင့် အလျင်တဆော သွား၍။ မင်းသမီး အနီး၌ ရပ်နေလေ၏။ မင်းသမီးလည်းပညာရှိသော မိန်းမဖြစ်ခြင်းကြောင့်။ စစ်သူကြီး၏ လာခြင်းကို မြင်လျှင်။ ကိုယ်တွင်း၌ ပညာခေါင်းပါးသောအဖြစ်ကိုသိ၍။ မိမိအနီး၌ရောက်လာသောအခါ။အလိုစမ်းပြန်လိုသဖြင့်။စစ်မှူးမင်း။ဤကျောင်းတော်ဦးတွင်လူးလာပြန်ခေါက်။ ယောကျ်ားတို့၏အားအင်ဖြင့်။ လျှင်လျှင်မြန်မြန် ပြေးတော်မူစမ်းပါ။ အရည်အသွေးကိုကြည့်ချင် ပါသည်ဟု ဆို၏။ စစ်သူကြီး လည်း။ အချစ်ကိုသာ နှလုံး

ထား၍။ အပြစ်ကို နှလုံး မထားဘဲ။ မင်းသမီးအား နှစ်သက်စေ ကြောင်း ကောင်းစွာငါပြောအံ့ဟု ကြံလျက်။ ပြေးသွားခြင်းကို ပြု ပြန် လေ၏။ ထိုအခါ မင်းသမီး သည် စစ်မှူး မင်း။ ထိုမှ ဤမှ ကျွန်ုပ်ဆီသို့ ပြေးတော်မူခဲ့ပါ။ ကြည့်စမ်းပါရစေဦးဟု ဆိုပြန် လျှင်။ တဖန်မင်းသမီးဆီသို့ ပြေးပြန်လာ၏။ မင်းသမီးသည် ထိုသို့ သောအခြင်းအရာကို မြင်လျှင်။ ဤသူကား ရွှေတောင်မှာနား၍ ရွှေကျီးခေါ်ရသကဲ့သို့သာ။ငါ့ခမည်းတော်သူ ကောင်းပြု၍။စစ် သူကြီး ခေါ်ရကာမျှတကား။ အသို့လျှင် ထီးဖြူ၏ကြက်သရေ ကို ဆောင်နိုင်ပါအံ့နည်းဟု စစ်သူကြီး၏ သမာဓိမရှိသော အ ဖြစ်ကို သိပြီးသော်။ စစ်မှူးမင်း။ ယောကျ်ား တို့၏ အရည် အ သွားကို သိရပေပြီ။ ပန်း မောတော် မူ တော့မည် မပြေး ပါနှင့် တော့။ ဤတွင်ထိုင်၍ ကျွန်ုပ်ခြေကို ဆုပ်တော်မူစမ်းပါဟု ဆို ၏။ စစ်သူကြီးလည်း။တနေ့တနေ့ငါအနီးအစပ်ရောက်တော့ သည်ဟု မင်းသမီးနှစ်သက်စေခြင်းငှာ။ မင်းသမီးခြေရင်း၌ ထိုင် ၍ ခြေကိုဆုပ်နယ်လေ၏။ ထိုအခါမင်းသမီးသည်ဤသူကား သူ ယုတ်မာတည်း။ ဤမျှလောက် ငါအလိုစမ်း၍မျှ မိမိမသိ။ မက် မောခြင်းပြင်းစွာနှင့်။ ချစ်နိုးနှစ်သက်နိုးထင်လျက်။ ငါ့အလိုသို့ သာလိုက်၍ပြုဘိ၏။ ယခုအဖြည်းအသာ နန်းထက်မှချလိုက်ရ မည်လည်း။ ငါ့တွင်မိန်းမ ပရိသတ်သာ ယခုရှိချေသည်။ နေ့အ ခါလည်းမရှိချေပြီ။ ငါ ဝေါက်ငမ်းဆဲဆိုငြားသော်လည်း။ မက် မောခြင်း ပြင်းစွာဖြစ်ခြင်းကြောင့်။ ထိုသူနား၌ ခါးစပ်နိုင်မည် မဟုတ်ချေ။ ဤ ငါ့အခြွေအရံ မိန်းမများလည်းတပါးအမှုကဲ့သို့ မဟုတ် ဖြစ်၍။ ယခု ငါ့အလိုကိုပင်မသိနိုင်ကြရာသေး။ ဤသို့ ဖြစ်၍။ ငါ့အခြွေအရံလည်းသိစေတော့။ထိုသူလည်းမိမိအပြုအ မူကိုယူစားမိလေစေတော့။ ထင်ရှားအောင် ငါဒဏ်ပေးလိုက် အံ့ဟု ကြံပြီးလျှင်။ စစ်သူကြီး၏ ရင်ကို ခြေဖြင့် တွန်းရှားလိုက် လေ၏။ စစ်သူကြီး လည်း အမှတ်မဲ့ ဖြစ်၍။ မင်းသမီး ခြေ ရင်း ၌ ပက်လက် နောက်သို့ လန်လေ၏။ မင်းသမီး လည်း သင်တို့။ ဤ

ယောက်ျားရှုးကို နှာကျင်စွာ ရိုက်ပြီးလျှင်။ လည်ကိုငင်၍ နန်းတော်မှ ချလိုက်ဟု အခြွေအရံ မိန်းမ တို့အား အမှတ် ပေး ပြီးလျှင်။ မိမိကြက်သရေတိုက်သို့ဝင်၍ နေလေ၏။ နန်းတွင်းသူအမျိုးတော်တို့လည်း မင်းသို့းဆိုတိုင်း။ စစ်သူကြီးကို နန်းထက်မှ ငင်ချ နှင်ထုတ် လိုက်လေ၏။ နန်းတော် အပြင်၌။ အမှုကိုသိရအောင် စောင့် နေ ကြ ကုန် သော မှူး မတ် အ စ ရှိ သော သူတို့သည် နန်း တော်မှ စစ် သူကြီး နှုလုံး မသာ လာ သည် ကို မြင်လျှင်။ အရှင်မင်းမြတ်။ အသို့ပါနည်းဟု ဆီး၍ မေးကြကုန်၏။ စစ်သူကြီးလည်း အချင်းတို့။ ငါကား သင်တို့မင်းသို့းကိုလူမိန်းမမှတ်၍သွားမိသည်။ ဘီလူးမတကာစ။ ဤမျှသာ ပြောပါရစေတော့ဟုဆို၍မိမိအိမ်သို့သွားလေ၏။

မှူးမတ်တို့လည်း ဤစစ်သူကြီးကား စစ်ရေး၌ သာ တွင်၍။ မိန်းမ ရေး၌ ကျင်ဟန် မရှိဟု နှုလုံး ထားလျက်။ တပါး တော်သင့်ရာ ရှာကြံ တိုင် ပင် ကြ ပြန် လျှင်။ မင်း ၏ ဘ ဏ္ဍာ ပိုး ရွှေတိုက်ဝန် သည် အလွန်မင်းသို့းနှင့်လည်းအကျွမ်းဝင်၏။ ပညာ စွမ်း ကိုယ်စွမ်းနှင့်လည်း ပြည့်စုံ၏။ ထိုသူကိုရုံစမ်းစေရသော်ကောင်း ၏ဟု တိုင်ပင် ညီညွတ် ကြ သဖြင့်။ ရွှေတိုက် ဝန် အိမ်သို့ ထိုအကြောင်းကို။ မှူးမတ်တို့အစည်းအဝေးပြုရာ လွှတ်သဘင်က စေလိုက်ပြန်၏။ ရွှေတိုက်ဝန်လည်း ထိုစကားကိုကြားလျှင်။ ဝန်ခံ လျက် နန်း တော်သို့ သွားပြန် လေသော်။ မင်း သို့း သည် စစ် သူကြီး မှာ ကဲ့သို့ ပင်လျှင်။ ရွှေ တိုက် ဝန် ကို လည်း အရှက်ကြီး တရ ပြုလိုက် လေ၏။ မှူးမတ် တို့ လည်း ရွှေတိုက်ဝန် ကား ရွှေ ငွေ စ သော ဘ ဏ္ဍာ တို့ ကို သာ မ ဖိတ် မ ယို ရအောင်စောင့်ထိန်းနိုင်၏။ မိမိစိတ်ကို အရိပ်မတိုရအောင် မပြုနိုင်လေဟုနှုလုံးထားလျက်။ တပါးတော်သင့်ရာ ရှာကြံတိုင်ပင်ကြပြန်လျှင်။ မင်း၏သူဌေးကြီးသည်မင်းသို့းနှင့်လည်းအကျွမ်းဝင်၏။ ကိုယ်စွမ်းပညာစွမ်း လည်းရှိ၏။ ထိုသူကိုရုံစမ်းစေရသော် ကောင်း၏ဟု တိုင်ပင် ညီညွတ်ကြသဖြင့်။ သူဌေး ကြီး

အိမ်သို့ ထိုအကြောင်းကို စေလွှတ်လိုက်ကြပြန်၏။ သူဌေးကြီးလည်း ထိုစကားကိုကြားလျှင်။ဝန်ခံလျက် ရှေးနည်းအတူ နန်းတော်သို့ သွားပြန်လေသော်။ မင်းသ္မီးလည်း ထိုနှစ်ဦးသူမှာကဲ့သို့ပင်။ သူဌေးကြီး ကိုလည်း အရှက်ကြီး ရအောင် ဒဏ်ပေး လိုက်ပြန်လေ၏။ ။မှူးမတ်တို့လည်း ဤသူဌေးကြီးကား ဥစ္စာကိုသာ စီးပွားအောင်ပြုတတ်၏။ မိမိကိုယ်ကိုကြီးမားအောင် မပြု နိုင်လေဟု နှလုံး ထားလျက်။ တပါး တော် သင့်ရာ ရှာကြံ တိုင်ပင်ကြပြန်လျှင်။ မင်းကြီး၏ထီးတော်မိုးအမတ်သည် မင်းသ္မီးနှင့်လည်း အကျွမ်းဝင်၏။ ပညာစွမ်း ကိုယ်စွမ်းလည်းရှိ၏။ ထိုသူကို ရုံစမ်းစေရသော် ကောင်း၏ဟု တိုင်ပင် ညီညွတ်ကြသဖြင့်။ ထိုအကြောင်းကို ထီးတော်မိုးအိမ်သို့ စေလိုက်ပြန်၏။ ထီးတော်မိုး လည်း ရှေးနည်းအတူ နန်းတော်သို့ သွားပြန် လေသော်။ မင်းသ္မီးသည် ထီးတော်မိုးကိုလည်း ထိုသုံးယောက်သူမှာကဲ့သို့ပင် အရှက်ခွဲလိုက်ပြန်လေ၏။ မှူးမတ်တို့လည်း ဤသူကား မင်း၏ထီးတော်ကိုသာ မိုးကိုင်တတ်၏။ မင်း၏သ္မီးတော်ကို စိုးပိုင်ရအောင် မကြံ နိုင်လေဟု နှလုံး ထား လျက်။ တပါး တော်သင့်ရာ ရှာကြံတိုင်ပင်ကြပြန်လျှင်။ မင်းကြီး၏ ထားသန် လျက်တော်စွဲ အမတ်သည် မင်းသ္မီး နှင့်လည်း အကျွမ်း ဝင်၏။ ကိုယ်စွမ်း ပညာစွမ်းလည်း ရှိ၏။ ထိုသူကို ရုံစမ်း စေရသော် ကောင်း၏ဟု တိုင်ပင် ညီညွတ် ကြသဖြင့်။ ထို အကြောင်း ကို ရှေးနည်းအတူစေလိုက်ပြန်၏။ သန်လျက်တော်စွဲအမတ်လည်း ရှေးနည်းအတူ နန်းတော်သို့ သွားပြန်လေသော်။ မင်းသ္မီးသည် ထိုလေးဦးသူ မှာကဲ့သို့ပင်။ အရှက်ကြီး ရအောင် ပြုလိုက် ပြန်၏။ ။မှူးမတ်တို့လည်း ဤသူကား မင်း၏ သန်လျက်ခွဲသာ အခွင့် လျော် အောင် ဝေဖန် တတ်၏။ စည်းစိမ် စံဘက် ၌ အသင့်တော် အောင် ချောင်ခြင်း မရှိ လေဟု နှလုံး ထား လျက်။ တပါး တော်သင့်ရာ ရှာကြံ၍ မရနိုင် လတ်သော်။ ဤသို့အားလျော့ စကား ပြောဆို ကြကုန်၏။ မှူးတော် မတ်တော်တို့။ မင်းကြီးမှာ

တော်မူခဲ့သည့် အင်္ဂါလေးပါးတွင်။ ပလ္လင်၏ ဦးခေါင်းရင်း ကို သိသူ။ ဗိုလ်ခြေတထောင် တင်သောလေးကို တင်နိုင် ချနိုင်သူ။ တဆယ် ခြောက်လုံးသော ရွှေအိုး ကြီးတို့ကို ဘော်ထုတ် နိုင်သူ တို့ကိုထားဘိဦး။ မင်းသမီးနှစ်သက်သောသူကိုမျှ မရနိုင် ယခုရှိ ခဲ့၏။မင်းမရှိသောပြည်မည်သည်လည်း။အမှုးအမတ်တို့စောင့် ရှောက် ထိန်းသိမ်းခြင်းငှာ ခဲယည်းလှသည်။ အသို့ကြံကြ ရပါ မည်နည်းဟုပြောဆိုကာ။မကြံနိုင်အောင်ရှိကြကုန်၏။

ဤအရာ၌။ သိ ဝလိ ဒေဝိ မင်းသမီး သည် အမျိုး ကောင်း သမီး ပညာရှိ မိန်းမမှန်လျှင်။ ယောက်ျားကို ခြေဆုပ်ခိုင်း လေသည် ကား သက်သက်မဟုတ်။ အလိုစမ်းလို၍သာ ပြုခြင်းကြောင့်။ ဆိုး ယုတ် သည် မဆို သာ။ ခြေ ဖြင့် ခါ တွက် လိုက် သည် မှာ လည်း။ ကိုယ်ကိုရိုသေစွာစောင့်ထိန်းရသူဖြစ်၍။ ထိုအမှုထိုအ ခါ ထိုယောက်ျားတို့ကို နူတ်ဖြင့် ခါတွက်သော်လည်း။ ကွာနိုင် ဘွယ် မထင် သဖြင့်။ လွှင့်ကွာ လွှယ်ရာ ရှာ ၍ ခါ တွက်ရ ပေ သော ကြောင့်။ ရှုံ့ကြမ်းသည် မဆိုသာချေ။ ထိုစစ်သူကြီး စ သော သူငါးယောက်တို့လည်း အရှင် မင်းသမီးဖြစ်၍ အစည်ရှိ သေမြဲ ဖြစ်ခြင်းကြောင့်လည်းကောင်း။ မင်းသမီးစကားကို မြင် ကြားရ သဖြင့်။ နား မျက်စိ ချိုဆိမ့် မူးယစ် ခြင်းကြောင့်လည်း ကောင်း။ သူ့ ကျေးဇူးကိုခံလိုလျှင်။ သူ့ အလိုကိုလိုက်အပ်လှ၏ ဟု အရာကို မချင့်။ အခွင့်ကိုမစာ။ သမာဓိ အရေးမှာ ဝိရိယကို သုံး မှား ချေသော ကြောင့်။ ရှုံး ခြင်းသို့ ရောက် ချေ သည်။ ထို ကြောင့်။ အဆင် မတတ် လျှင် ဆန်း လျက် နှင့် မ လှ။ အငင် မ တတ် လျှင် ပန်း လျက် နှင့် မရ ရှိတတ် သည်။ ယိုင်ယိုင် ညွတ် ညွတ် ပြုရမည်အမှုမှာ။ ခိုင်ခိုင်မတ်မတ် ပြုချေလျှင်။ ခက်ကြမ်း ရာရောက်တတ်သည်။ ခိုင်ခိုင်မတ်မတ် ပြုရမည်အမှုမှာ။ ယိုင် ယိုင် ညွတ်ညွတ် ပြုချေလျှင်။ ရှက်လမ်းသာ ပေါက်တတ်သည် ဟု သိအပ်၏။ ထို စစ်သူကြီးသည် နန်းထက်သို့ ရောက် သည် ကာလ။ မိမိမတရားသဖြင့်ထီးနန်းကိုသိမ်းယူလိုလျှင်။သိမ်းယူ

နိုင်ရာအံ့လောဟူမူ။ ဗိုလ်ခြေသင်းပင်း။ ဝင်းအစောင့်အချောက် ဆင်မြင်းစသော မြို့၏ လက်နက်အလုံးစုံသည် မိမိလက်မှာမရှိ။ မှူးမတ်တို့ လက်ဝယ် ရှိချေသောကြောင့်။ မတရားသဖြင့်ပင်သိမ်းသော်လည်းမရနိုင်ရာဟုသိအပ်၏။

ထိုသို့ မှူးမတ်ပုရောဟိတ်တို့၏ အစည်းအဝေး၌။ မင်းသွီးနှင့် ထိုက်တန်ရာကို ရှာကြံ၍ မရနိုင်ကြလတ်သော်။ ပုရောဟိတ်က ဤသို့ဆို၏။ မှူးတော်မတ်တော်တို့။ သင်တို့ ကျွန်ုပ်တို့သည် ဆ၍တော်ပါသော်လည်း။ လျှော်ရာမကျနိုင်ဖြစ်၍။ မည်သူမည့်ဝါ ဟု အထူးမကြံကြနှင့်တော့။ ထိုက်ရာကံဆောင်နှင်းပစေ။ ဖုတ်သွင်းရထားသာ လွှတ်အပ်လှတော့သည်။ ဖုတ်သွင်းရထားဖြင့် ရအပ်သော မင်းဖြစ်လျှင်လည်း။ ဇမ္ဗူဒိပ်တကျွန်းလုံးကို သိမ်းယူနိုင်သော ဘုန်းတန်ခိုးရှင်သာ ဖြစ်ရာ၏။ သင်တို့ အသို့နည်း။ နှစ်သက်ကြ၏လောဟုဆို၏။ မှူးမတ်အပေါင်းတို့လည်း ပုရောဟိတ်စကားကို ကြား၍ နှစ်သက်ကြသဖြင့်။ ဆရာစကားသင့်ပြီ။ ဖုတ်သွင်းရထားလွှတ်ကြကုန်အံ့ဟု စိတ်ညီညွတ်ကြလေ၏။ ထိုအခါ အမတ်ပုရောဟိတ်တို့သည် မြို့၌ပြုရာသမျှ အလုံးစုံကို သုတ်သင်ခင်းကျင်း၍။ တန်ဆာဆင်စေပြီးသော်။ မင်္ဂလာရှိသောရထား၌ထူးမြတ်ဆန်းကြယ်စွာ မင်းနေရာအခင်းနှင့်။ မင်းမြောက်တန်ဆာ ငါးပါးကို တင်ထား ကျင်းပလျက်။ ကုမုဒ္ဒရာ ကြာပွင့်အဆင်းကဲ့သို့ အဆင်းရှိသော ဗိုင်လျှော်ရွှေသွေး မြင်းလေးစီးတို့ကို။ ကြိုးကတန်ဆာ ကောင်းစွာဆင်၍။ တညီ တစည်တည်း ရထား၌ကပြီးလျှင်။ ထိုရထား၏ ရှေ့တူရူလမ်းကိုသာလွှတ်၍။ လက်ျာလက်ဝဲ ရှေ့နောက်ဝန်းကျင်တို့၌။ဆင်။မြင်း။ရထား။ ခြေသည်။ စစ်အင်္ဂါလေးပါး ဝန်းရံစေလျှက်။ မရိုးစည်။ မြောက်စည်။ နှဲခရာ စသော တီးမှုတ်မျိုးတို့ကို မှုကား။ ချီးမြှောက်အပ်သူ အရှင်သခင်ရှိမှ ချီးမြှောက် တီးမှုတ်ရာသည်။ ချီးမြှောက်အပ်သူ

မပါလျှင် မတီးမမှုတ်သင့်။ ထုံးစံရှိသည်အတိုင်း။ ယခုမတီးမမှုတ်ကြနှင့်ဦး။ နောင် အရှင်သခင်တွေ့မှ ချီးမြှောက်တီးမှုတ်ရမည်ဟု ဆို၍။ မတီး မမှုတ်စေရဘဲ။ ရထားတို့၌ အသီး အသီးဆောင်ယူ ခဲ့စေ၏။ ဤသို့ အလုံးရုံ ခင်းကျင်း ပြီးလျှင်။ ပုရောဟိတ် ပုဿာသည် ရွှေကရား ဖြင့် ရထား အဖွဲ့ အစပ် တို့ ကိုလည်းကောင်း။ ရထားဦးကိုလည်းကောင်း။ရွှေနှင်တံကိုလည်းကောင်း။ ရေစင်ဖျန်းလျက်။ ဤပြည်စည်းစိမ်ကို ခံထိုက်သောဘုန်းတန်းရှင်သည် အကြင်အရပ်၌ ရှိအံ့။ ထိုမင်းလောင်း ရှိရာသို့။ ဤရထား သွားစေသတည်းဟု မိန့်ခြင်းနှင့်တကွ အဘိသိက်မြှောက်ပြီးသော်။ ဖုတ်သွင်းရထားကိုလွှတ်ကြလေ၏။

ထိုအခါ ဖုတ်သွင်း ရထား သည်။ နန်းတော်ကို လက်ျာ ရစ် လှည့်ပြီးမှ။ မင်းလမ်းမသို့ သက်၍။ မြို့ကို လက်ျာရစ် လှည့်လေ၏။ ထိုမြို့ကို လက်ျာရစ် လှည့်သော အခါ။ ယခင်တွင် မင်းသို့ဒဏ် ခတ်သော စစ်သူကြီးသည် မိမိအိမ်သို့ တူရူ မင်း လမ်းမဖြင့် ရထားလာသည်ကိုမြင်လျှင်။ ငါ့အိမ်သို့ပင် ရထားရှုယ်၍လာ ယောင် ထင်၏။ ငါ ကား ဘုန်း ရှိသော ယောကျ်ား ပင်တည်း။ လျင်စွာ ငါ့အိမ်သို့ ရထားဦး ဆိုက်ပါစေဟု ကြံစည်လျက် မျှော်ကြည့်ကာနေလင့်၏။ မိမိအိမ်ကရထားလွန်မှ။ စိတ်အကြံ လျှော့ခြင်းသို့ ရောက်၏။ ထိုနောင် ရွှေတိုက်ဝန်။ သူဌေးကြီး။ ထီးတော်မိုး။ ရွှေထားမှူး တို့လည်း ရထား လာသည်ကိုမြင် လျှင်။ ငါ့ အိမ်သို့ လာပါစေဟု အသီးအသီး ကြံကြကုန်၏။ ဖုတ်သွင်း ရထားလည်း ထိုအိမ်တို့ကိုလွန်၍။ မြို့ကိုလက်ျာရစ် လှည့်ပြီးသော်။ မြို့အရှေ့တံခါးဖြင့်ထွက်လျက်။ ဘုရားလောင်းရှိရာ ဥယျာဉ်သို့။ ရှေးရှု လျင်စွာ သွားလေ၏။ ထိုအခါ အမတ်တို့သည် ဆရာပုရောဟိတ်။ ယခုမြို့ကိုလည်းလွန်ခဲ့ပြီ။ ရထားလည်း အသွားမြန်လှသည်။ ရထားကိုပြန်စေရသော် မကောင်းလောဟု ဆိုကြကုန်၏။ ပုရောဟိတ်လည်း မှူးတော် မတ်တော်တို့။ အသို့ ဆိုကြသနည်း။ ယူဇနာ တရာ တိုင်အောင်ပင် သွား

သော်လည်း သွားစေ။ ပြန်၍ မသင့်ဟု ဆို၏။ ရထားလည်း အစည်အတိုင်းသွား၍။ ဥယျာဉ်သို့ဝင်ပြီးသော်၊ ဘုရားလောင်းစက်တော်ခေါ်ရာ မင်္ဂလာကျောက်ဖျာကို လက်ျာရစ် ဖွဲည့် လျက်။ တက်တော် မူပါတော့ဟု အသင့် စီမံ၍ ယည်ခံဘိသကဲ့သို့ရပ်တန့်လေ၏။

ထိုအခါ ပုရောဟိတ်ပုဏ္ဏားသည် မင်္ဂလာကျောက်ဖျာအပြင်၌ ဦးခေါင်းခြုံ၍ စက်တော် မူသော ဘုရား လောင်း ကို မြင်လေသော်။ အမတ် တို့ကို အချင်းတို့။ ကျောက်ဖျာ ထက်၌ တယောက်သောသူ အိပ်၍နေသည်ကိုမြင်၏။ ထီးဖြူ၏ ကြက်သရေကိုဆောင်နိုင်သောဘုန်း ထိုသူ၌ရှိမည်မရှိမည်ကိုသိအောင်ပြုကြကုန်ဦး။ အကယ်၍ဘုန်းရှိသူမှန်မူ။ ငါတို့တူပ်ချောက်သော်လည်း မထုန်မထူပ်သဖြင့်။ ဖွင့်၍မျှ မကြည့်ရာ။ ဘုန်းမဲ့သူဖြစ်လျှင်အလန့်တကြားထ၍ကြောက်လတ့ံ။ ယခုပင်ထက်စည်မြှောက်စည်မှရှိုးစည်စသောတီးမှုတ်မျိုးတို့ကို။ တပြိုင်နက်တီးမှုတ်စေဟုဆို၏။ ထိုအခါ အရာမကသော တီးမှုတ်မျိုး တို့ကို တပြိုင်နက် တီးမှုတ် ကြသဖြင့်။ မဟာ သမုဒ္ဒရာ ၌ ဗလဝါမုခ ဝဲလျှံ၍ကျသောအသံကဲ့သို့။ ဥယျာဉ်အလုံး ထိန့်ထိန့်ရိုက်မျှရှိလေ၏။ ဘုရားလောင်းမင်းသားသည် ထိုတီးမှုတ်သံဖြင့် နိုးလေသော်ဦးခေါင်းခြုံကို စည်းငယ် ဖွင့်ထုတ်ကာ ကြည့်၍။ များစွာသောဇိုထ်ထု ဖိုလ်ခြေကိုမြင်လျှင်။ ငါ့အားထီးဖြူအပ်နှင်းမည်အကြံနှင့် ထို သူတို့ လာကြ သည် ဖြစ်ရာ ၏ ဟု ကြံ လျက်။ တ ဖန်ဦးခေါင်းခြုံမြဲတိုင်း ခြုံပြီးမှ။ တဘက်သို့ပြောင်းလဲ၍။ လက်ဝဲနံတောင်းဖြင့်လျောင်းစက်ပြန်လေ၏။ ပုရောဟိတ်ပုဏ္ဏားသည်၊ ဘုရား လောင်း၏ အနီးသို့ ချည်းကပ်၍ ခြေရင်း၌ ထိုင်လျက်။ ခြေကို ဖွင့် ထုတ်ကာ ကြည့် လေသော်။ ယောက်ျားမြတ်တို့ ၏ လက္ခဏာကောင်း တို့ကို မြင်လျှင်။ ဤ ယောက်ျားမြတ် ကား ဇမ္ဗူ ဒိပ် ကျွန်း ကို ထား ဘိ ဦး ကျွန်း ငယ် နှစ် ထောင် နှင့် တကွ လေးကျွန်းလုံးကိုပင်လည်း သိမ်းယူ၍ မင်းပြုမည်ဆိုသော်။

မင်းပြုထိုက်သော ဘုန်းလက္ခဏာ ရှိ၏ဟု သိ၍ ဝမ်းသာမျိုး မက သာသဖြင့်။ တဖန် အတီးအမှုတ်တို့ကို ချီးပင့်ဆင့်လောင်း၍။ သောင်းသောင်းညံမျှတီးမှုတ်စေပြန်၏။

ထိုအခါ ဘုရားလောင်းသည် မျက်နှာတော်ကိုဖွင့်၍။ လက်ဝဲနံတောင်းမှ ပြောင်းပြီးလျှင်။ လက်ျာနံတောင်းဖြင့် လျောင်းလျက် ပရိသတ် တို့ကို ကြည့်တော် မူ၏။ ထိုအခါ ပုရောဟိတ်သည် ပရိသတ်တို့ကို ရရုံးပြီးသော်။ အမှုးအမတ်တို့နှင့်တကွ။ အညီအညွတ် လက်အုပ်ချီ၍။ မျက်နှာ အောက်ချလျက် အရှင်မင်းကြီး။ ထတော် မူပါလော့။ ဤပြည် စည်းစိမ် သည် အရှင့်ရွှေ လက် တော် သို့ ရောက် တော် မူ ၏ ဟု လျှောက် ထား ကြလျှင်။ ဘုရားလောင်း မဟာဇနက မင်းသားသည် အချင်းတို့။ သင်တို့ ပြည့်ရှင်မင်းကား အဘယ်မှာ ရှိသနည်းဟု မေးတော်မူ၏။ ပုရောဟိတ်လည်း အရှင် မင်းမြတ်။ အကျွန်ုပ်တို့ အရှင်မင်းကြီး နတ်ပြည်စံတော်မူသည် ယခု ခုနစ်ရက်ကျော်ရှိပြီဟု လျှောက်လျှင်။ ဘုရားလောင်းမင်းသားသည် အချင်းတို့။ ယင်းသို့တပြီးကား။ သင်တို့မင်းကြီးတွင် သားတော်ညီတော် တရုံတယောက် ထီးနန်း ဆက်ခံမည်သူ မရှိလောဟု မေး၏။ ပုရောဟိတ် လည်း အရှင် မင်းမြတ်။ ညီတော် သားတော် တရုံ တယောက်မျှ ထီးနန်းဆက်ခံမည်သူမရှိပါ။ သမီးတော်တယောက်သာ ရှိပါ သည်ဟု လျှောက် လေ သော်။ အချင်းတို့။ ထိုသို့ တပြီးကား ကောင်းပြီဟု ဝန်ခံတော် မူလျက် လျောင်းတော် မူရာမှထ၍။ မင်္ဂလာကျောက်ဖျာအပြင်၌ထက်ဝယ်ဖွဲ့ခွေနေတော်မူလေ၏။

ထိုအခါ အမတ် ပုရောဟိတ် တို့သည် ဤ မင်းမြတ် ကား။ ဖုတ်သွင်း ရထား ဖြင့် ရအပ် သည် ဖြစ်၍။ ငါတို့ မင်းကြီး မှာ တော်မူခဲ့သည့် အင်္ဂါလေးပါးနှင့်လည်း ညီညွတ်တော် မူရာ၏။ အတိုင်း မသိသော ဘုန်းလက္ခဏာ အာဏာ သိတင်းနှင့်လည်း ပြည့်စုံရာ၏ဟု နှစ်လိုဝမ်းမြောက် ကြသဖြင့်။ ထိုဥယျာဉ် မင်္ဂ

လာကျောက်ဖျာ အပြင်၌ပင်လျှင်။ မင်းမြောက်တန်ဆာငါးပါးနှင့်တကွ။ ဘုရားလောင်းကို မင်း၏အဖြစ်ဖြင့် အဘိသိက်သွန်းကြလေ၏။ မဟာဇနက မင်းကြီးသည် ပြည့် စည်းစိမ်ကို သိမ်းခံတော် မူပြီးလျှင်။ မင်္ဂလာ ရှိသော မြင်းရထား ထက်သို့ တက်စီးတော် မူလျက်။ အတိုင်း မသိသော မင်း၏ ကြက်သရေဖြင့်။ တင့်တယ်စွာ မှူးမတ်ဗိုလ်ခြေ အပေါင်း ခြံရံ၍ မြို့သို့ ဝင်တော်မူပြီးလျှင်။ နန်းတော် အရွှေ့စရတ်ဝမှ တက်တော်မူသဖြင့်။ အထက်က စစ် သူကြီး စသော သူ ငါးယောက် တို့ကို ရုံစမ်း ရာဖြစ်သော လျှောင်းတော်ဦး၌။ မင်း၏ကြက်သရေဖြင့် နေတော်မူလေ၏။

သိဝလိဒေဝီ မင်းသမီး သည် လည်း စစ်သူကြီး စသော သူတို့ မှာ ကဲ့သို့ ပင်။ ဘုရား လောင်း ကို လည်း ရုံ စမ်း အံ့ သောငှာ။ မင်း ချင်း တ ယောက် ကို ခေါ်၍ အ မောင်။ သင် သည် မင်းကြီးဆီသို့ ယခုသွား၍။ ဤပြည်ကြီးရှင် သမီးတော် သိဝလိဒေဝီမင်းသမီးက။ အရှင်မင်းကြီးကို ခေါ်တော်မူသည်။ ယခုပင် အလျင် တဆော မင်းသမီးထံ ကြွတော် မူပါ တော့ဟု လျှောက်ချေ စေလိုက်၏။ ထို မင်းချင်း လည်း မင်းသမီး ဆိုတိုင်း ဘုရားလောင်းထံ သွား၍ လျှောက်လေ၏။ ဘုရားလောင်း လည်း အတုမရှိသောပညာ။ အတုမရှိသော အလိမ္မာနှင့် ပြည့်ရုံတော် မူခြင်းကြောင့်။ ထိုမင်းသမီးက ခေါ်ကြောင်းစကားကို ကြားလျှင်။ ဤ မင်းသမီးကား မလိမ္မာသူကို အလိုစမ်း သကဲ့သို့ ငါသို့သောသူကိုပင် ကလူကစားဘိ၏ဟု ကြံလျက် ထိုမင်းချင်း၏ စကားကို ကြား သော်လည်း။ မကြားယောင် ကဲ့သို့ ငုံ့ စောင်း ၍မျှ မကြည့်။ ပမာဏမပြုဘဲ တပါးသော အမတ် ပုရောဟိတ် တို့နှင့်သာ အချင်းတို့။ ဤ နန်း ပြာသာဒ်ကို စီရင်ပေသူကား အလွန်စေ့ စပ် ပေ ၏။ တခုမျှ အပြစ် ဆို ရာ မရှိ ပေ။ တင့် လည်း တင့် တယ် ပေတောင်း ဟု။ နန်းတော် ကိုသာ အထွေ ထွေ အပြားပြားစကားရှာ၍။ ချီးမွမ်းတော်မူကာဂနေလေ၏။ မင်းသမီးက စေ

လိုက်သောမင်းချင်းလည်း မင်းကြီး မကြားသေးထင်၍။ ထိုစကားကို ထပ်ကာ ထပ်ကာ အဖန် များစွာ လျှောက်ပါ သော်လည်းမကြားနိုင်သဖြင့်။ နားတော်လမ်း မသင့်ကြောင်းကို သိလေလျှင်။မင်းသ္မီးထံသွား၍ သခင်မ။ မင်းကြီးကိုအကြိမ်ကြိမ်အထပ်ထပ်အကျွန်ုပ်လျှောက်ပါသော်လည်း။ ပြာသာဒ်ကိုသာချီးမွမ်း၍ နေတော်မူခဲ့၏။ သခင်မစကားကို မြက်လောက်မျှ မမှတ်ပါဟုလျှောက်ကြားလေ၏။

ထိုစကားကိုကြားလျှင်။ သီဝလီဒေဝီမင်းသ္မီးသည် ဤမင်းကား ယောက်ျားမြတ်တို့၏ နှလုံးသွင်းခြင်းနှင့် ပြည့်ရုံပေ၏ဟုကြံလျက်။ တဖန်ထိုမင်းချင်းကိုပင် အချင်း။ ခေါ်ချေဦးဟု စေလိုက်ပြန်၏။ ဤသို့သောနည်းဖြင့် သုံးကြိမ်တိုင်အောင်စေ၍ မလာလိုလတ်သော်။ ဤမင်းကားအလွန်ဘုန်းရှိသောယောက်ျားပေတည်း။ ငါငင်၍သူမယိမ်း။သူသိမ်းမှငါပါရချေမည်တကားဟုအယူရှိလေ၏။ဘုရားလောင်းမဟာဇနကမင်းသည် မှူးမတ်ပရိသတ်တို့နှင့် စကား ပြောဟော၍ ငြီးငွေ့ တော်မူ သော အခါမှ။ အလိုတော်အလျှောက်ပြကတေ့သောသွားခြင်းဖြင့်။ ရွှေဂူဝသို့ ဝင်လာသော ခြင်္သေ့မင်းကဲ့သို့။ တည်ကြည်ရဲရင့်ခြင်းနှင့်ရုံညီစွာ။ကျောင်းတော်ဦးမှသည် မင်းသ္မီးရှိရာနန်းမဆောင်သို့ တက်ကြွတော်မူလေ၏။ ဘုရားလောင်း၏ ဘုန်းအလျှံတော်နိုက် နှင့် သည် ဖြစ်၍။ သီ ဝလီ ဒေဝီ မင်း သ္မီး လည်း ဘု ရားလောင်း လာအံ့ သည်ကိုသာ မြော်လင့်လျက် နေစည်။ ထစက်ဝန်းကဲ့သို့။ ရွှန်း ရွှန်း ကြည်လင် သန့်စင်သော ကြက်သရေ အပေါင်း ဖြင့်။ တင့် တယ်စွာ လာ လတ်သော ဘုရားလောင်း ကိုမြင်လျှင်။ ဈာန်ကြီးစွာသော မိန်းမဖြစ်လျက် မိမိကိုယ်အဖြစ်ဖြင့် မတူတည်နိုင်သည်ဖြစ်၍။ နေရာမှလျှင်စွာထပြီးလျှင်။ နန်းမဆောင် တံခါးဝသို့ သွား၍။ ဘုရားလောင်း၏ နံပါး၌ မှီတွဲ အံ့သကဲ့ သို့။ ပျောင်းနွဲ့သော အမူ အရာဖြင့်။ မိမိ လက်ကို ဘုရားလောင်း လက်ပါးသို့ ညွှတ်ယိမ်း လိုက်လေ၏။ ဘုရား လောင်း

သည့်လည်း သိဝလိဒေဝီ မင်းသ္မီးကို လက်တော်ဖြင့် ဆွဲလျက် နန်းမဆောင်သို့ တက်တော် မူပြီးလျှင်။ ကြငှန်း ထီးဖြူ စိုက်ထူ ဖြန့်ရိုးအပ်သောရာဇပလ္လင်ပေါ်၌။ အတူယှဉ်ပြိုင်ထိုင်တော်မူလေ၏။ မှူးမတ်အပေါင်းတို့လည်း ရာဇပလ္လင် ရှေ့ဝန်းကျင်၌။ အောက်သို့ မျက်နှာချလျက် လက်အုပ်ကြာမုံပြု၍။ ကျိုးနွံခစား ကြလေ၏။

ထိုအခါ မဟာဇနက မင်းကြီးသည် အမတ်တို့ကို အချင်းတို့။ သင်တို့မင်းကြီး ဆုမ္ဗမှာထားခဲ့သောအရာ တစုံတခုမျှမရှိလော။ အဘယ်စကားများကို မှာထားခဲ့သနည်းဟု မေးတော်မူ၏။ အမတ်ကြီးတို့လည်း ဘုန်တော် ကြီးလှသော အရှင်မင်းကြီး။ အကျွန်ုပ်တို့အရှင် မှာထား ခဲ့သည်မှာ။ သ္မီးတော်၏ဂုဏ် ကြက်သရေအထူးအမြတ်ကို သိတော်မူသည်နှင့်အညီ။ ဥပေါသထ ဆင်သည့် စကြာ ရမည်သူမှန်မှ ညွှတ်လတံ့ ဟူ သကဲ့သို့ နှလုံးထား၍။ ငါ့သ္မီးတော်နှစ်သက်လျှင်။ မည်သူကိုမဆို ထီးနန်း နှင်းလေဟူ၍သာ။ သာမည မှာထားခဲ့ပါသည်။ ယခုအရှင်သ္မီး တော်သည် အရှင်မင်းကြီး မသိမ်းမီ ကပင် ယိမ်းညွတ်၍ အရှင် လက်တော် ရောက်ပြီး ဖြစ် သော ကြောင့်။ ထို အမှာ တော် နှင့် ဆောင်ရွက်ရန်ကိစ္စပြီးပါတော့သည်ဟု လျှောက်ထားကြကုန် ၏။ မဟာဇနကမင်းကြီးလည်းဝါဖန် အချင်းတို့။ ဤအမှုမှာပြီး စေတော့။ ဤမှတပါး မှာထားခဲ့သောအရာ ရှိသေးသလောဟု မေးတော်မူပြန်၏။ အမတ်တို့လည်း အရှင်မင်းကြီး။ တပါးမှာ တော်မူခဲ့သည်မှာလည်း သ္မီးတော် နှစ်သက်သူ မှန်လျှင် မစွမ်း နိုင်မရှိရာဟုနှလုံးထား၍။ ယခုကိုယ်တော် စံပယ်တော်မူသည့် ရာဇပလ္လင်၌။ ဦးထားရာကို သိသည်လည်း ဖြစ်စေဟု မှာထား တော်မူခဲ့ပါသည်ဟုလျှောက်ထားကြပြန်၏။

ထိုအခါ မဟာဇနကမင်းကြီးသည် ဤအရာကား မြင်ကာ မျှနှင့် သိနိုင်ခဲသော အရာ ဖြစ်ချေ သည်။ ပရိယာယ်ဖြင့် သိ အောင်ပြုအံ့ဟုကြံလျက်။ မင်းသ္မီးဆီမှာလည်း တဘက်စကား

ပြောဘာန်ပြု၍။ ရွှေဦးသျှောင်ကျင်ကို ချွတ်တော်မူပြီးလျှင် ထားလိုက်ဟု မင်းသ္မီးအားပေးတော်မူ၏။ မင်းသ္မီးလည်း ဦးသျှောင်ကျင်ကို။ မ၍ နေခြင်းငှာလည်း မသင့်။ ရင်ခွင်၌ ထားခြင်းငှာလည်းမထိုက်။ တပါးမှာထားရမည်လည်း မလျောက်ပတ်သဖြင့်။ ပလ္လင် ဦးခေါင်းရင်း၌ ထားလေ၏။ ဘုရားလောင်းလည်း ဦးသျှောင်ကျင်ကို ထား၍ တခဏခန့်ကြာမှ။ အမတ်တို့ စကားကို သတိမမူ၍။ မမှတ်မိယောင်ပြုလျက် အချင်းတို့။ ယခုတွင် လျှောက်ကြသည်စကားမှာ။ အဘယ်သို့ ဆိုသနည်းဟု မေးတော်မူပြန်၏။ အမတ်တို့လည်း ထပ်၍ ထိုစကားကို လျှောက်ပြန်လျှင်။ မဟာဇနကမင်းကြီးသည် အချင်းတို့။ ဤအရာသည် အံ့ဘွယ်သရဲ သိနိုင်ခဲသောအရာပေတကား။ ငါ့မှာမူ ထီးနန်းကိုဆက်ခံထိုက်သောသူဖြစ်၍။ သင်တို့ယခုပြောသော စကားကိုကြားကာမျှနှင့်ပင် အသင့်ကြံပြီး၍။အမှန်ငါသိပြီ။ ဤသည်လျှင် ဤပလ္လင်၌ဦးခေါင်းရင်း ဖြစ်သည်ဟု ရွှေဦးသျှောင်ကျင်ထားရာကို ညွှန်ပြတော်မူပြီးလျှင် အချင်းတို့။ ဤမှတပါးရှိသေးလျှင် လျှောက်ဦးလော့ဟု မေးတော်မူပြန်၏။ အမတ်တို့လည်း အရှင်မင်းကြီး။ လူဗိုလ်ခြောက်ထောင်အားညီမှ တင်နိုင်ချနိုင်သော လေးကြီးသည်လည်း ဤနန်းတော်တွင် ရှိပါသည်။ ထိုလေးကို တယောက်အားနှင့် တင်နိုင်ချနိုင်သူ ဖြစ်မှ။ ထီးနန်းနှင်းလေဟူ၍လည်း မှာခဲ့ပါသည်ဟု လျှောက်ထားကြပြန်၏။ မဟာဇနကမင်းကြီးလည်း အချင်းတို့။ ယင်းသို့တပြီးကား ယခုပင် ငါတင်တော်မူမည်။ ထိုလေးကို ဆောင်ချေဟု စေ၍ ဆောင်စေပြီးလျှင်။ ရာဇပလ္လင်ပေါ်၌ နေမြဲတိုင်းသောပြကတေ့ ကိုယ်တော်ဖြင့်။ ထိုလေးကို ကိုင်စွဲတော်မူလျက် မိန်းမတို့ ဝါဖတ်သော ဝါဖ လေးကိုကဲ့သို့ လေးညှို့ကို ဆွဲငင်ကာ တင်တုံ ချတုံ ပြု၍၊ ရှုကြလော့ဟု ဆိုတော်မူပြီးလျှင်။ ထင်ရှား အံ့သြကြသောအခါ၌ ထိုလေးကိုလွှတ်ရာထားပြီးသော် အချင်းတို့။ ဤမှတပါးရှိသေးလျှင် ဆိုဦးလော့ဟု မေးတော်မူပြန်

၏။ အမတ်တို့လည်း ဤမှ တပါး မှာတော်မူခဲ့သော အရာ လည်း ရှိပါသေး၏။ တဆယ့်ခြောက်လုံးသော ရွှေအိုးကြီး တို့ ကိုဘော်ထုတ်နိုင်သူဖြစ်မှ ထီးနန်းနှင်းလေ မှာထားခဲ့ပါသည် ဟု လျှောက်ထားကြ ကုန်၏။ ဘုရားလောင်းလည်း အချင်းတို့။ ရွှေအိုးကြီးတို့၏ ထားရာကို အမြွက်မျှ မှာထားခဲ့သော အရာ မ ရှိလောဟု မေးတော်မူ၏။ အမတ်တို့လည်း အရှင်မင်းကြီး။ အ မြွက် မှာထားခဲ့သောအရာရှိပါ၏ဟု လျှောက်လျှင်။ ထိုအမြွက် စကားကို ဆိုလော့ဟု မေးတော်မူပြန်သော အခါ။ အမတ်တို့ လည်း အထက်က ပေါလဇနကမင်း မှာခဲ့သည့်အတိုင်း။ သူရိယုဂ္ဂမနေနိဓိ။ အစ ရှိသော သုံးဂါထာတို့ဖြင့် လျှောက်ထားကြ ကုန်၏။

ထို စကားကို ကြားလျှင်၊ ဘုရားလောင်း သည် အညစ်အကြေးစင်သော ကောင်းကင် ပြင်၌။ လစက်ဝန်းကို မြင်သကဲ့သို့။ ထို တဆယ့်ခြောက် ဌာနသော အမြွက်စကား ၏ အနက်ကို ထင်ရှားစွာ သိမြင် တော်မူလေ၏။ ထို အခါ မဟာဇနကမင်းသည် အချင်းတို့။ ယနေ့ကား အခါမရှိပြီ ဖြစ်၍။ ထိုရွှေအိုးကြီးတို့ကို ဘော်ထုတ်မှီတော့မည်မဟုတ်။ နက်ဖြန်နံနက်မှရွှေအိုးကြီး တဆယ့်ခြောက်လုံးကို ဘော်ထုတ် ကြကုန် အံ့ဟု ဆိုတော်မူလျှင်။ အမတ်တို့လည်း ကောင်းပါပြီဟု ဝန်ခံကြ၏။ ဘုရားလောင်းသည် ထိုနေ့၌ အမတ်တို့နှင့် အဖြစ် အပျက် အလုံးစုံ အကျိုး အကြောင်း စကားကို ပြောဟော တော်မူ၍။ မှူးမတ်ပရိသတ် အိပ်ဖန် ဝန်းကျင် တို့ဖြင့် စောင့် ရှောက် အပ် သော ရွှေနန်းစည်းစိမ်၌ မင်းသ္မီးနှင့်အတူတကွ။ ညည့်သုံးယံပတ်လုံး စံပယ်တော်မူပြီးမှ။ နံနက်မိုးလင်းသောက်သောအခါ။ မှူးမတ်တို့သည်အညီအညွတ်မင်းကြီးထံခစားလာကြကုန်၏။

ထို အခါ မဟာဇနကမင်းကြီး သည် အမတ်တို့ကို ဤသို့ မေးတော်မူ၏။ အချင်းတို့။သင်တို့မင်းကြီးသည် အရှင်ပစ္စေကဗုဒ္ဓါတို့အား နေ့တိုင်း မပြတ် နန်းတော်မှာ ဆွမ်းလုပ် ကျွေး

သည်မဟုတ်လောဟု မေးတော်မူ၏။ အမတ်တို့လည်း အရှင် မင်းကြီး။ မပြတ်ပင် ဆွမ်းလုပ်ကျွေးပါသည်ဟု လျှောက်ထား ကြလျှင်။ ဘုရားလောင်းသည် ဤသို့ကြံ၏။ နေဟူသည်ကားအ ခြားမဟုတ်။ဘုရားဟူသည်လည်းနေမင်းနှင့်တူသည်ဖြစ်၍။အ ရှင်ပစ္စေကဗုဒ္ဓါကို နေဟူ၍ ဆိုသည်။ ထိုအရှင်ပစ္စေကဗုဒ္ဓါတို့ ကြွ လာတော် မူသောအခါ။ မင်းကြီးထ၍ ခရီးဦး ကြို ဆိုရာ အ ရပ်သည်နေထွက်ရာဖြစ်တော့သည်။ ထိုအရပ်၌ရွှေအိုးတလုံး မြှုပ်ထားသည် ဖြစ်ရာ၏ဟု ကြံတော်မူပြီးလျှင် အချင်းတို့။ ထို အရှင် ပစ္စေကဗုဒ္ဓါတို့ နန်းတော်သို့ ကြွလာတော် မူသောအခါ။ သင်တို့ မင်းကြီးသည် အဘယ်အရပ်တိုင်အောင် သွား၍ ခရီး ဦး ကြို ဆို သနည်းဟု မေးတော် မူ၏။ အမတ် တို့လည်း အရှင် မင်းကြီး။ဤအရပ်တိုင်အောင်သွား၍ ခရီးဦးကြိုဆိုပါသည်ဟု လျှောက်ထားကြလျှင်။ ဘုရားလောင်းသည် အချင်းတို့။ ဤအ ရပ်သည်လျှင် နေထွက်ရာ ဖြစ်တော့သည်။ ထိုအရပ်၌ ရွှေအိုး ကြီး တလုံးရှိ၏။ တူးလော့ ဟု ဆို၍ တူးဘော်စေ၏။ ထိုနောင် အချင်းတို့။ အရှင်ပစ္စေကဗုဒ္ဓါ တို့သည် နန်းတော်မှ ဆွမ်းစား ပြီး၍ ကြွတော် မူသော အခါ။ အဘယ်အရပ် တိုင်အောင် မင်း ကြီးပို့လိုက် သနည်းဟု မေးတော်မူ၏။ ဤအရပ်တိုင်အောင် ပို့ လိုက်ပါသည်ဟု အမတ်တို့ လျှောက်လျှင် အချင်းတို့။ နေဝင် ရာဟူသည်ကား ဤအရပ်ပင်တည်း။ ထိုအရပ်၌ရွှေအိုးကြီးတ လုံးရှိ၏။ တူးလော့ဟုဆို၍တူးဘော်စေ၏။ ထိုအခါ အမတ်တို့ သည် ငါတို့ကား နေထွက်ရာ ဝင်ရာ ဆိုသည် အကယ် နေ မင်း စင်စစ်မှတ်၍။ အသို့လျှင် ဥဒည်တောင်။ အတ္ထဂ်မတောင် မှာ တူးနိုင်ပါအံ့ နည်းဟု မအပ်သော အရာများ ကိုပင် ကြံမိ လေသည်။ ငါတို့ကဲ့သို့အယူပေါ့လျှံသူသာဖြစ်ချေလျှင်။ အရှေ့ မျက်နှာ အနောက် မျက်နှာ အရပ်တို့၌။ ရွှေအိုးကို ရှာသည်နှင့်။ မြေအပြင် အကောင်းမရနိုင်အောင်ပင် ရှိရာချေ၏။ ဘုန်းပညာ ကြီးတော် မူလှသော အရှင် ဖြစ်၍ သာလျှင်။ အလျှို့ အဝှက် အ

မြွက်စကားကို ကြားရုံမျှနှင့်။ အလွယ် တကူ သူတပါး မပင်
ပန်းရ။ ခဏခြင်းဘော်ယူနိုင်ပေသည်ကား။ အံ့ဩပြောပ၍မ
ကုန်နိုင်ရာဟု။ အထောင်မကသော ကောင်းကြီး ပေးခြင်းဖြင့်။
ကြွေးကြော်ကြကုန်၏။ ထိုနောင် ဘုရားလောင်း သည် အမတ်
တို့ကိုအချင်းတို့။ အတွင်း၌တလုံး။ ပြင်၌တလုံး။ အတွင်းပြင်မ
ဟုတ်သည်၌တလုံး ဆိုသည်မှာ အခြား မဟုတ်။ ဤ နန်းတော်
အရှေ့တံခါးမ၌ တံခါးခုံတွင်းကလည်း တလုံး။ တံခါးခုံပြင်နား
ကလည်းတလုံး။ တံခါးခုံအောက်ကလည်းတလုံး။ ရွှေအိုးရှိသည်။
ယခုပင် ဘော်ချေဟုဆို၍။ ထိုရွှေအိုးသုံးလုံးတို့ကို ဘော်ထုတ်
စေ၏။ ထိုနောင် ဘုရားလောင်းသည်အမတ်တို့ကို အချင်းတို့။
မင်းကြီးသည် မင်္ဂလာ ဆင်တော်ကို စီးသော အခါ။ အဘယ်
အရပ်၌ ဆင်တက်လှေကား ထားသနည်း။ ဆင်ထက်မှ ဆင်း
သောအခါ။ အဘယ်အရပ်၌ လှေကား ထား သ နည်း ဟု မေး
တော်မူ၏။ အမတ်တို့လည်း အရှင် မင်းကြီး။ ဤ အရပ်၌ ဆင်
တက်လှေကားထား၍။ ဆင်ထက်သို့တက်တော်မူပါသည်။ ဤ
အရပ်၌လှေကား ထား၍။ ဆင်ပေါ်မှ ဆင်းသက် တော် မူပါ
သည်ဟု လျှောက်ထား ကြကုန်၏။ ဘုရားလောင်း သည် ထိုစ
ကားကိုကြားလျှင်။ အချင်းတို့။ တက်ရာ၌တလုံး။ သက်ရာ၌တ
လုံး ဆိုသည် မှာ အခြား တက် ရာ သက် ရာ မ ဟုတ်။ ဤ ဆင်
တော်၌ တက်သက်ရာပင်ဖြစ်သည်။ ထိုနှစ်ရပ်၌တလုံးစီရွှေအိုး
ရှိသည် တူးလေဟုဆို၍။ ထိုရွှေအိုးကြီးနှစ်လုံးတို့ကို တူးဘော်
စေ၏။ ထိုနောင် ဘုရားလောင်းသည် အမတ်တို့ကိုအချင်းတို့။
အင်ကြင်းပင်ကြီး လေးပင်တို့၌ တလုံးစီ ဆိုသည်မှာ အခြား မ
ဟုတ်။ ဤ နန်းတော်ရှေ့ အမတ်တို့ စည်းဝေးရာ မြေ အပြင် ၌။
မင်းကြီး လျောင်း စက် စံ ပယ်ရာ အလိုငှာ နန်းမြင့် စီရင် အပ်
သော ညောင်စောင်းတော် အခြေလေးချောင်းသည် အင်ကြင်း
သား မဟုတ်လော။ ထို ညောင်စောင်း ခြေ လေးချောင်း တို့၏
အောက်၌ရွှေအိုး တလုံးစီရှိသည်။ ဘော်ထုတ်လေဟုဆို၍ဘော်

ထုတ်စေ၏။ ထိုနောင် ဘုရားလောင်းသည် အမတ်တို့ကို အချင်းတို့။ ရှစ်ရပ် ဝန်းကျင် တယူဇနာထက်၌ ရွှေအိုး ရှိသည် ဆိုရာမှာ။ ဤအရာ၌ လေးဂါဝုတ်ဖြင့်နှိုင်းရှည်အပ်သော ခရီးတာကို ယူဇနာ ဆိုသည် မဟုတ်။ မြင်း လေးစီး ဖြင့် နှိုင်းရှည်အပ်သော ရထား ထမ်းပိုးကို ယူဇနာဆိုသည် ဖြစ်မည်။ မင်းကြီး စက်တော်မူရာကြင်သရေတိုက်မှ။ ပတ်ပတ်ဝန်းကျင်။ ရထား ထမ်းပိုး တပြန်ခြားရာ ရှစ်မျက်နှာအရပ်တို့၌ ရွှေအိုးတလုံးစီရှိသည်။ ထိုရွှေအိုး ရှစ်လုံးတို့ကို ဘော်လေဟုဆို၍ ဘော်ထုတ်စေ၏။ ဤ၌ရွှေအိုး ရှစ်လုံးပင် ဖြစ်သော်လည်း ဌာနအားဖြင့်တခုသာယူရမည်။ ထိုနောင် ဘုရားလောင်းသည် အမတ် တို့ကို အချင်းတို့။ အစွယ်ဖျားတို့၌ ရွှေအိုးရှိသည်ဆိုရာမှာ အခြားမှာ မဟုတ်။ မင်္ဂလာဆင် ထားရာ တင်းကုပ်မှာ။ ဆင် မျက်နှာ မူမြသော အရပ်တွင် ဆင်စွယ် နှစ်ချောင်း တို့၏ အောက်၌ ရွှေအိုး တလုံးစီရှိသည်။ ထိုရွှေအိုး နှစ်လုံးကိုလည်း ဘော်ထုတ် ချေဟုစေ၍ ဘော်ထုတ်စေ၏။ ဤ၌လည်း ဌာန အားဖြင့် တလုံးသာယူ။ ထိုနောင် မင်းကြီးသည် အမတ်တို့ကို အချင်းတို့။ ဆင်မြီးဖျား၌ဆိုသည်မှာလည်း။ ၎င်းဆင်တော်ထားရာတင်းကုပ်တွင် ဆင်တော် အမြီး နေရာ အောက်၌ ရွှေအိုး တလုံး ရှိသည်။ တူးချေဟုဆို၍တူးဘော်စေ၏။ ထိုနောင်မင်းကြီးသည်အမတ်တို့ကိုအချင်းတို့။ ရေထဲ၌တလုံးဆိုရာမှာတပါးရေထဲမှာ မဟုတ်။ မင်္ဂလာ ရေကန် တော် အလယ် တွင် ရှိသည်။ သင် တို့ မြင်လိုလျှင် ကန်တော်မှရေကို ပြွန်ဝဖြင့်အစင်ထုတ်ဟုဆို၍။ ကန်ရေကို ထုတ်စေပြီးလျှင်။ ကန်အလယ်၌ ရွှေအိုးကို ရှုကြလော့ဟုပြတော်မူ၏။ ထိုနောင် ဘုရားလောင်းသည် အမတ်တို့ကို အချင်းတို့။ သစ်ပင်ဖျားဆိုသည်ကားတပါးမဟုတ်။ ဥယျာဉ်တွင်မင်္ဂလာပြုရာဖြစ်သော အင်ကြင်းပင်ကြီး၌။ နွယ်တာလ ရာသီဝယ် နေ မွန်းတည့်သောအခါ။ ပင်စည်ဝန်းကျင် ပတ်၍နေသော အရိပ်သည် သစ်ပင်ဖျား ဖြစ်တော့သည်။ ထိုအင်ကြင်းပင် ကြီး

တွင်။ပတ်ပတ်ဝန်းကျင်အရပ်ရှစ်မျက်နှာ၊ အရိပ်များကျရာတို့၌ ရွှေအိုးကြီး ရှစ်လုံး ရှိသည်။ ဘော်ထုတ် ချေဟု စေ၍ ဘော်ထုတ်စေ၏။ ဤသို့ရွှေအိုးကြီးတဆယ်ခြောက်လုံးတို့ကို ဘော်ထုတ်စေပြီးလျှင်။ မဟာဇနကမင်းကြီးသည် အမတ်တို့ကို အချင်းတို့။ ဤမှတပါး သင်တို့ မင်းကြီး မှာခဲ့သော အရာ ရှိလျှင် လျှောက်ထား ကြဦးဟု ဆိုတော် မူ၏။ အမတ်တို့လည်း အရှင်မင်းကြီး။ ဤ မှ တ ပါး မှာ ထား ခဲ့ သော အ ရာ မ ရှိ ပါ ပြီ ဟု လျှောက်ထားကြကုန်၏။

ဤအရာ၌။ ရွှေအိုးကြီးတဆယ်ခြောက်လုံးဆိုသော်လည်း။ ဌာနအားဖြင့် တဆယ်ခြောက်ဌာနကိုရည်၍သာဆိုသည်။ ရွှေအိုးကား တဆယ် ခြောက်လုံး မက။ အရှင် ပစ္စေကဗုဒ္ဓါ တို့ကို မင်းကြီး တို့ ဆိုရာ၌တလုံး။ ပို့လိုက်၍ မင်းကြီး ပြန်လည်ရာ၌တလုံး။ နန်းတော် တံခါးခုံတွင်း၌တလုံး။ တံခါးခုံပြင်နား၌တလုံး။ တံခါးခုံအောက်၌တလုံး။ ဆင်တော်သို့တက်ရာ၌တလုံး။ ဆင်တော်မှဆင်းသက်ရာ၌တလုံး။ အင်ကြင်းသား ညောင်စောင်းခြေ လေးခုအောက်၌ တလုံးစီ။ ဤကားဌာနလည်းတဆယ် ဘ ဌာန၊ ရွှေအိုး လည်း တဆယ် တ လုံး။ ကြက် သ ရေ တိုက် ရှစ် ရပ် ဝန်းကျင် ရထား ထမ်းပိုး တပြန်ခြားရာ၌ ရွှေအိုး ကြီး ရှစ် လုံး။ ဌာနကား သမန္တာ ယောဇန တပါးသာ။ ဆင်တင်းကုပ်၌ ဆင်တော် အစွယ် နှစ်ချောင်းအောက် ဝယ် ရွှေအိုး ကြီး နှစ် လုံး။ ဌာနအားဖြင့် ဒန္တဂ္ဂေသု တပါးသာ။ ဆင်တော်အမြီးထားရာ၌ တလုံး။ ရေကန်ထဲ၌ တလုံး။ ဤ၌ ကား ဌာနနှင့် ဌာနီ ညီ၏။ ဥယျာဉ်၌ အင်ကြင်းပင်ကြီး ရှစ်ရပ်ဝန်းကျင်။ မွန်းတည့်အရိပ်များကျရာရှစ်လုံး။ ဌာနအားဖြင့် ရုက္ခဂ္ဂေသု တပါးသာ။ ဤသို့ ဌာန အားဖြင့် ပေါင်းသော် တဆယ် ခြောက် လုံး။ အိုး လုံးရေ အားဖြင့် ပေါင်း သော် သုံးဆယ် တလုံး ရွှေအိုး ရှိသည်ဟု သိအပ်၏။ ။ဤကားစကားချပ်တည်း။

ထိုအခါ မှူးမတ် ပုရောဟိတ် မှစ၍။ ပြည်သား ပြည်သူ အပေါင်း တို့သည်။ ဤသို့သော ဘုရား လောင်း၏ အာဏာလက်ရုံး။ ဘုန်းအင်တေဇာ။ ပညာတော် အစွမ်း တို့ကို မြင်ရ ပြန်သဖြင့်။ အံ့သြ၍မပြီး။ ကောင်းကြီးပဲ့တင်ထိန့်မျှ။ နှုတ်သိမ့်ဝမ်းမြောက်ခြင်းရှိကြကုန်လျက်။ ဌက်ပျောပင် ကြံပင် တံခွန် ကုပ်ကားမလေးပွားစသည်တို့ဖြင့် တန်ဆာဆင်အပ်ပြီးသော မင်းလမ်းမ တို့၌။ ရပ်ရပ်ကွက် အသီးအသီး ပွဲကြီးသဘင် ခံကြကုန်၏။ နန်းတော်ပတ်လည်း ဝန်းကျင်တို့၌လည်း။ ကော်ဇောခင်းနှီးပြောက် အစ ရှိသော အထူးထူး အပြားပြား များ မြတ်ဆန်း ကြယ်စွာ အခင်း တို့ကို ခင်းကုန်လျက်။ နံ့သာဆိုင်း ပန်းဆိုင်းစိုက်ဆွဲခြင်း။ ပေါက်ပေါက်ပန်းကြဲဖြန့်ခြင်း။ အခိုးအထုံနံ့သာမှုန့်နံ့သာပျောင်းတို့ဖြင့်ကျင်းပတည်ထားခြင်း။ စားဘွယ်သောက်ဘွယ်ခဲဘွယ် အဖျော်ယမကာတို့ကိုတည်ထားကျွင်းပခြင်းတို့ဖြင့် ချီးမြှောက် ပူဇော် ကြကုန် လျက်။ မှူးမတ် ပုရောဟိတ် သူဌေး သူကြွယ် တို့သည်။ ရွှေ ဖလား တတ်နိုင်သူ ရွှေဖလားတို့၌။ ငွေဖလားတတ်နိုင်သူ ငွေဖလားတို့၌။ မွန်မြတ်သော ခဲဘွယ် ဘောဇဉ် စတုမဓူ တို့ကိုထည့်၍။ မင်းကြီးအား လက်ဆောင်တော်အလို့ငှါတလုံးစီကိုင်စွဲလျက်။ ဥကင်ရာဇပလ္လင်၌ စံပယ်တော်မူသောမင်းကြီးထံ ဆက်သပူဇော်ကြပြီးလျှင်။ မှူးကြီး မတ်ကြီး။ မှူးလတ် မတ်လတ်။ မှူးငယ် မတ်ငယ်။ မင်းခယောက်ျား တို့မှာလည်း မိမိတို့အား ထိုက်သော နေရာက နေ၍။ ရှိသေဦးညွှတ်ကာခစားကြကုန်၏။ ပုဏ္ဏားပုရောဟိတ်တို့မှာလည်း။ ထိုက်သောနေရာက တရတဝေးနေ၍။ မင်္ဂလာရှိသောပန်းရေချမ်း ရေဋ္ဌ အမွှေး နံ့သာ တို့ဖြင့် ဝိမံအပ်သော ခရုသင်းကို တခုစီ ကိုင်စွဲ လျက်။ မင်းကြီး ထံ သို့ ပျောင်း ညွတ် ကာ။ နှုတ်မင်္ဂလာ ဖြစ်ကြောင်း ကောင်းကြီးဘိသိက် သွန်းကြကုန်၏။ သူဌေးသူကြွယ်။ ဆင်စီးသူရဲ။ မြင်းစီးသူရဲ။ ရထားစီးသူရဲ။ ခြေသည်သူရဲစသော ပြည်သူပြည်သားတို့လည်း။ အရ သင့်ရာတ

စည်းတဝေးတည်း မိမိတို့အားထိုက်သောနေရာကနေ၍။ ကန်
တော့ပွဲ လက်ဆောင်နှင့် ပူဇော် ချီးမြှောက် ကြကုန်၏။ ကခြင်း
သီခြင်း တီးမှုတ် ခြင်းတို့၌ လိမ္မာ လေ့ကျင့် ကုန်သော သဘင်
သည် လုလင်ပျိုတို့ သည်လည်း။ မိမိတို့ထိုက်ရာအရပ်က တရ
တဝေး နေ၍။ နား မျက်စိအာရုံ ကာမဂုဏ်မှု။ အနု အပျောင်း။
ကောင်း မြတ်သော သီခြင်း တီးမှုတ် ခြင်း ကခြင်း တို့ဖြင့်။ ချီး
မြှောက် ပူဇော် ကြကုန်၏။ မြတ်သော အဆင်းကို ဆောင်ကုန်
လျက်အသောင်းမကသောနန်းတွင်းသူအပျိုတော်အပေါင်းတို့
သည်လည်း။သီဝလိဒေဝီမင်းသမီးကိုခြံရံကုန်လျက်။မင်းကြီး၏
အနီး၌ ဦးညွှတ်ကာနေကြကုန်၏။ ကခြင်းသီခြင်းတီးမှုတ်ခြင်း
၌ လိမ္မာ ကုန်သော ကချေ သည့် နန်း တွင်း သူတို့သည် လည်း။
သိမ် မွေ့ ပြေ့ ပျောင်း ကောင်း မြတ် သော ယာစွာ တီး မှုတ်
လျက်ပူဇော်ကြကုန်၏။ ထိုသို့ပူဇော်ချီးမြှောက်ကြသောအသံ။
တီးမှုတ် ကချေ ရွှင်မြူးကြသော ပွဲသဘင်အသံဖြင့်။ ယုဂန္ဓိုရ်
တောင်ခြေက။ လေအဟုန် လှုပ်သော သမုဒ္ဒရာ အဝှမ်း ကဲ့သို့။
နန်းတော်အလုံး အုန်းအုန်းသဲသဲ။ တခဲနက် ပွဲတင်ထပ်ကုန်၏။
မဟာဇနကမင်းကြီးသည်လည်း။ထီးဖြူဖြန့်မိုးအပ်သောဥကင်
ရာဇပလ္လင်ပေါ်၌ မင်း၏ ဆူခြေဖြင့်။ ရဲရင့် တည်ကြည်စွာ ကန်
တော့ပူဇော်ကို ခံတော်မူ၍။ မိထိလာပြည်နှင့်တကွ။ ထီးနန်းကို
သိမ်းတော် မူလေ၏။ ဝိဒေဟရာဇ် တိုင်းအတွင်း။ မြို့ငယ်ခရိုင်
နိဂုံးရွာနေအကြီးအအုပ်ပြုသူတို့နှင့်တကွ။ တိုင်းသားတိုင်းသူ
အပေါင်း တို့ သည် လည်း။ ငါတို့ ရာဇဌာနီ မိထိလာ ပြည် ကြီး
သည် ကြက်သရေမဆုံးနိုင်သော မြို့ဖြစ်၍။ တိထိတဆယ်ငါး
လုံးမှီသော လပြည့်နေ့၌ နေမင်းဝင်လျှင်။ အရှေ့ ဥဒည် တောင်
က။ လစက်ဝန်းထွန်းပေါ်လာသကဲ့သို့။ ငါတို့အရှင်နတ်ပြည်စံ
တော် မူလျှင်။ အရှင် အရိပ် အရာ ထီးနန်း ကို ဆက်ခံ မည်သူ။
ဘုန်းတန်းရှင် မင်းတရား ပေါ်ထွန်း ကြွရောက် တော် မူလာပေ
၏။ ထို အရှင်သည် အခြားမဟုတ်။ ငါတို့အရှင် ဖြစ်သော အ

ရိဋ္ဌဇနက မင်းကြီး၏သားတော် နန်းညွန့်ပင်ဟူသတတ်။ ယခု အရွယ်တော်လည်း။ နံနက် လေးချက် တီး ကျော် အချိန်၌။ လျှံထိန် တောက်ပသော နေမင်းကဲ့သို့။ ပဌမအရွယ် နုနယ်ပျိုမျစ်။ ဘုန်းသစ်သောအချိန်တွင်။ စည်းစိမ်တော်နှင့်ဆိုင်၍။ မအုံ့နိုင်သောပညာ။ သုံးဖြာသောဗလ။ ရာဇပရိယာယ်။ အသွယ်သွယ်သော သတ္တိ။ အဘု မရှိသော ဘုန်းပညာ အလျှံဖြင့်။ နိုင်ငံ လုံးကြက်သရေ ဖြစ်တော် မူပေ ၏။ ထို မင်းမြတ် ကို ရှုကြည့် ဖူးမြော် ပူဇော်ကြ ကုန်အံ့ဟု။ အသီး အသီး များ စွာသော လက်ဆောင် တို့ဖြင့်။ နေပြည်တော်သို့ ဆက်သ ပူဇော် ဖူးမြော် လာကြ ကုန်သဖြင့်။ မိဗိလာ ပြည်၌ နေရာ မြေပြင် မဆံ့ နိုင် အောင်ဒုတ်ဒုတ်ကျက်ကျက်ဖြစ်လေ၏။ မဟာဇနကမင်းကြီးသည်လည်း။ သိဝလိဒေဝီမင်းသမီးကို များစွာသောကိုယ်လုပ်မောင်းမတို့၏ အမှူး ဖြစ်သော မိဖုရား ကြီး အရာ တောင်ညာ နန်း မ၌ထား၍။ နန်းလုံး နှင်းလေ၏။ ကာလ စမ္ပာနဂိုရ် ပြည်၌ နေသော မယ်တော် ကိုလည်းကောင်း။ အိမ်ထောင် သို့းသား ပုဏ္ဏေးမနှင့်တကွ ပါမောက္ခ ဆရာ ကြီးကို လည်း ကောင်း။ ထို ပြည်မှ မိဗိလာ ပြည်သို့ ခေါ်ဆောင်စေပြီးသော်။ မယ်တော်အား များစွာသောစည်းစိမ်အခြံအရံနှင့်နန်းအခြားဆောက်၍ချီးမြှောက်ကိုးကွယ်လျက်ထား၏။ ပါမောက္ခဆရာကိုလည်း။ ထိုပြည်၌ ပုဏ္ဏား သူကြွယ် စည်းစိမ် ထက်။ သာလွန် ထူးမြတ် ကြီး မြင့်သောစည်းစိမ်ဖြင့်။ ဦးရိုးတော်အရာနှင့်။ ကျေးစား မြို့ရွာခရိုင်ပေး၍။သင့်ရာချထား၍ချီးမြှောက်တော်မူ၏။

ထိုအခါ မဟာဇနက မင်းကြီး သည်။ ငါ့ ဘိုးတော်။ ငါ့ ခမည်းတော်။ ဘထွေးတော်တို့ကား မိမိတို့သွားရာ။ ထက်ကြပ်ပါအောင် ဥစ္စာကို မဆောင်ယူ လေဘဲ။ ငါ့ကို ဆောင် ယူ စိမ့်မည်ဟု စွန့်ထားခဲ့ကြ သည့် ဥစ္စာရပ်လည်း များစွာရှိ၏။ ငါ့ဘထွေးတော် ထားခဲ့သည့် ရွှေအိုးကြီး တဆယ်ခြောက်ဌာနတို့၌ များစွာသော ဥစ္စာတို့ သည်လည်း ရှိ၏။ ယခု ငါ့ လက်ထက်မှ

ကန်တော့ ပူဇော် ရောက်သည့် ဥစ္စာရပ်လည်း သုံး၍ မကုန်နိုင်
အောင် ဖြစ်၏။ ထိုဥစ္စာ ရပ်တို့ကို ထက်ကြပ် ငါသွားတိုင်း ပါ
အောင် ဆောင်ရွက်အံ့ဟုကြံတော်မူလျက်။ မြို့တံခါးလေးမျက်
နှာ။မြို့လယ်။ဤငါးဌာနတို့၌ကြီးစွာသောအလှူစရပ်ငါးဆောင်
ဆောက်စေ၍။ နေ့တိုင်း မပြတ် ကြီးစွာသော အလှူကို ပေးလှူ
စွန့်ကြဲတော်မူ၏။ ဤသို့ ပြည်စည်းစိမ်ကို စံစား တော်မူရ ပြီး
သော ဘုရားလောင်း မဟာဇနကမင်းသည်။ ထီးဖြူဖြင့် ဖြန့်မိုး
အပ် သော ဥကင် ရာဇ ပလ္လင် ၌။ များစွာ သော မှူးမတ် ပုရော
ဟိတ် ပရိသတ် အပေါင်း ခြံရံလျက်။ မင်း၏ ကြက်သရေ ဖြင့်
တင့်တယ် စံပယ်တော်မူသောအခါ။ အံ့ဩ၍ မပြီးနိုင်သော
စည်းစိမ် တော် ကို ရှုကြည့် လျက်။ မဟာ သမုဒ္ဒရာ ၌ ဆင်း ရဲ
တော် မူဘူးသည်ကို ဤသို့ အောက်မေ့ တော်မူ၏။ ငါသည် မ
ဟာသမုဒ္ဒရာ၌ နစ်မွန်းသောအခါ။ ခုနစ်ရာသောသဘောသား
တို့ ကဲ့သို့သော ယုံ့လ မပြု နေချေ အံ့။ ငါ့ အမိ ကို လည်း မ တွေ့
ရ။ ဤသို့သောစည်းစိမ်ကိုလည်းမရဘဲ။ငါးလိပ်မကန်းတို့၏အ
စာသာဖြစ်လေရာ၏။ ယုံ့လအာနုဘော်ကြောင့်။ ငါတော့တ
တိုင်း ဤသို့သော စည်း စိမ်ကို လည်း ရ၏။ အမိ ကိုလည်း ဖူး
မြင် ရ ၏။ ထို ကြောင့် ယုံ့ လ ဟူ သည် ကို အ လွန် ပြု အပ် လှ
၏ ဟ ကား ဟု အ ဖန် တ လဲ လဲ အောက် မေ့ တော် မူ သော
ဘု ရား လောင်း အား။ ထို ယုံ့ လ လျှင် အာ ရုံ ရှိ သော မ ဟာ
ကုသိုလ် သော မနဿ သဟ ဂုတ် ဇော စိတ္တုပ္ပါဒ် သည်။ ဘ
ဝင် ကို ဖြတ်၍ အထပ်ထပ် ဖြစ် သဖြင့်။ နှစ်သက် ခြင်းဟု ဆို
အပ်သော ခဏိကာပီတိ။ ခုဒ္ဒကာပီတိသည်။ ညှံ့အိသောဂွမ်း
မှာ ဆီသွန်း သကဲ့သို့။ ပွမ်းပွမ်း စိမ့် မှု။ နှစ် သိမ့် သော ကိုယ်
စိတ် ရှိ တော် မူသည် ဖြစ်၍။ ထို ပီတိ အဟုန် ဖြင့် နှလုံး တော်
မဆံ့နိုင်ခြင်းကြောင့်။ ချီပျံ့နှစ်သက်မိန့်မြွက်တော်မူလို၍။ ။
အာသီသေထေဝပုရိသော။ နန္ဒိဇ္ဇေနွေယျ ပဏ္ဍိတော။ ပဿာမိ
ဝေါဟာမတ္တာနံ။ယထာဣစ္ဆိံ တထာအဟု။

အာသိသေထေဝပုရိသော။ နန္ဒိဗ္ဗိန္ဒေယျပဏ္ဍိတော။ ပသာဒ မိဝေါပဟာမဂ္ဂဿာနံ။ ဥဒကာထလမုတ္တတံ။

ဝါယာမေ ထေဝပုရိသော။ နန္ဒိဗ္ဗိန္ဒေယျပဏ္ဍိတော။ ပသာဒ မိဝေါပဟာမဂ္ဂဿာနံ။ ယထာဣစ္ဆိ တထာအဟု။

ဝါယာမေထေဝပုရိသော။ နန္ဒိဗ္ဗိန္ဒေယျပဏ္ဍိတော။ ပသာဒ မိဝေါပဟာမဂ္ဂဿာနံ။ ဥဒကာထလမုတ္တတံ။

ဒုက္ခောပနီတောပိ နရောသပညော။ အာသံ န ဆိန္ဒေယျ သုခဂမာယ။ ဗဟူဟိ ဖဿာ အဟိတာ ဟိတာ စ။ အဝိတက္ကိတာ မစ္စုမုပဗ္ဗဇန္တိ။

အစိန္တိတမ္ပိဘဝတိ။ စိန္တိတမ္ပိ ဝိနဿတိ။ နဟိစိန္တာမယာ ဘောဂါ။ ဣတ္ထိယာပုရိသဿဝါ။ ။ဤခြောက်ဂါထာ ဖြင့် ဥဒါန်းကျူးရင့်တော်မူ၏။

ဘောဂန္တော။ ဒိုအမတ်တို့။ ပဏ္ဍိတော။ ပဋ္ဌပြန်သံသရာ အကျိုး နှစ်ပါးကို မြင်တတ်သော။ ပုရိသော။ ယောကျ်ားသည်။ အာသိ သေ ထေဝ။ အာသိ သေထ ဧဝ။ မြတ် သော တောင့်တခြင်းကိုပြုရာသလျှင်ကတည်း။ နန္ဒိဗ္ဗိန္ဒေယျ။ မပျင်းရိရာ။ အဟံ။ ငါသည်။ အဇ္ဈာနံ။ ကိုယ်ကို။ ပသာဒမိ။ရှုမိ၏။ အဟံ။ ငါသည်။ ယထာဣစ္ဆိ။ အကြင်မင်းအဖြစ်ကို အလိုရှိ၏။ တထာ ဣစ္ဆိ။ ထိုအလိုရှိတိုင်း။ အဟု။ ဖြစ်ပြီ။

ဘောဂန္တော။ ဒိုအမတ်တို့။ ပဏ္ဍိတော။ ပဋ္ဌပြန် သံသရာအကျိုး နှစ်ပါးကို မြင်တတ် သော။ ပုရိသော။ ယောကျ်ား သည်။ အာသိသေ ထေဝ။ အာသိသေထ ဧဝ။ မြတ်သော တောင့်တခြင်းကို ပြုရာသလျှင် ကတည်း။ နန္ဒိဗ္ဗိန္ဒေယျ။ မပျင်းရိရာ။ ဥဒကာ။ ရေမှ။ ထလံ။ ကြည်းသို့။ ဥဗ္ဘတံ။ ကူးမြောက် ပြီးသော။ အဇ္ဈာနံ။ကိုယ်ကို။ အဟံ။ ငါသည်။ ပသာဒမိ။မြင်ရ၏။

ဘောဂန္တော။ ဒိုအမတ်တို့။ ပဏ္ဍိတော။ ပဋ္ဌပြန်သံသရာအကျိုးနှစ်ပါးကိုမြင်တတ်သော။ ပုရိသော။ယောကျ်ားသည်။ ဝါယာမေ ထေဝ။ ဝါယာမေထ ဧဝ။ လုံ့လ ပြုအပ် လှသည် သာ

တည်း။ နနိဗ္ဗိန္ဒေယျ။ မပျင်းရိရာ။ ယထာစ္ဆိံ။ အကြင်ဝတ္ထုကို အလိုရှိ၏။ တထာစ္ဆိံ။ ထိုအလိုရှိတိုင်း။ အဟု။ ဖြစ်ပြီ။ အတ္တာနံ။ ပြည့်စုံသောငါ၏ကိုယ်ကို။ အဟံ။ ငါသည်။ ပဿာမိ။ မြင်ရ၏။

ဘောန္တော။ ဒိုအမတ်တို့။ ပဏ္ဍိတော။ ပစ္စုပ္ပန်သံသရာအကျိုးနှစ်ပါးကိုမြင်တတ်သော။ ပုရိသော။ယောကျ်ားသည်။ ဝါယာမေထေဝ။ ဝါယာမေထ ဧဝ။ လုံ့လပြုအပ်လှသည် သာတည်း။ နနိဗ္ဗိန္ဒေယျ။ မပျင်းရိရာ။ ဥဒကာ။ ရေမှ။ ထလံ။ ကြည်းသို့။ဥဗ္ဘတံ။ကူးမြောက်ပြီးသော။ အတ္တာနံ။ ကိုယ်ကို။အဟံ။ငါသည်။ ပဿာမိ။ မြင်ရ၏။

ဘောန္တော။ ဒိုအမတ်တို့။ သပညော။ ပညာရှိသော။ နရော။ လူသည်။ ဒုက္ခူပနီတောပိ။ ဆင်းရဲသို့ ရောက် သော် လည်း။ သုခဂ္ဂမာယ။ ချမ်းသာ သို့ ရောက်စိမ့် သောငှာ။ အာသံ။ မြတ်သော တောင့်တခြင်းကို။ နဆိန္ဒေယျ။ မဖြတ်ရာ။ အဟိတာဟိတာစ ဖဿာ။ ဆင်းရဲတွေ့ခြင်း ချမ်းသာတွေ့ခြင်း တို့ကား။ ဗဟူဟိဗဟူ ဧဝ။ များကုန်သလျှင်ကတည်း။ ဣတိ။ ဤသို့။ အဝိတက္ကိတာ။ ကြံစည်လေ့မရှိကုန်သောသူတို့သည်။ မစ္စုံ။ ဆုံးရှုံးပျက်စီးခြင်းသို့။ ဥပဂစ္ဆန္တိ။ ရောက်ရကုန်၏။

ဘောန္တော။ဒိုအမတ်တို့။ အစိန္တိတမ္ပိ။မကြံဘဲလည်း။ ဘဝတိ။ ဖြစ်တတ်၏။ စိန္တိတမ္ပိ။ ကြံလျက်လည်း။ ဝိနဿတိ။ ပျက်တတ်၏။ ဟိယုတ္တံ။ ထိုစကားသင့်၏။ ဣတ္ထိယာဝါ။ မိန်းမအားလည်းကောင်း။ ပုရိသဿဝါ။ယောကျ်ားအားလည်းကောင်း။ ဘောဂါ။စည်းစိမ်တို့သည်။ စိန္တာမယာ။ကြံတိုင်းပြီးကုန်သည်။ နဟောန္တိ။ မဖြစ်ကုန်။ ။ဤကားအနက်။

အဓိပ္ပာယ်ကား။ အမတ်တို့။ ပစ္စုပ္ပန်သံသရာအကျိုးစီးပွားနှစ်ပါးကို မြော်မြင်ကုန်သော ယောကျ်ားတို့သည်။ ပျင်းရိခြင်းကို မဖြစ် စေဘဲ။ မိမိတို့ တောင့် တ အပ် သော အကျိုး ကို ပြီးမြောက် စေခြင်းငှာ။ မြတ်သောလုံ့လကို အားထုတ် အပ်လှ၏။

လုံ့လ သည်လျှင် အလိုရှိတိုင်း အကျိုးကို ပြီးစေ နိုင်၏။ တပါး ထုံးသက်သေကို မထောက်ဦး မူ၍။ ကမ်း တဘက် ကို မ မြင် သော မဟာသမုဒ္ဒရာ၌ နစ်မွန်းသည် ဖြစ်လျက်။ လိုအပ်သော အကျိုးပြီးမြောက်စေခြင်းငှာ လုံ့လအားထုတ်သည်ဖြစ်၍။ ထို လုံ့ လ အ စွမ်း ကြောင့်။ မ ဟာ သ မု ဒ္ဒ ရာ မှ ဤ ပြည် သို့ ကူး မြောက် သဖြင့်။ တောင့်တတိုင်း ပြီးလေသော ငါ့ကိုယ် ကိုပင် သက်သေထား၍ ငါဆိုသတည်း။ အချင်းတို့။ အကြင်သူသည် ပစ္စုပ္ပန် သံသရာ နှစ်ဖြာသော အကျိုးစီးပွားတို့ကို မြင်မြော်နိုင် သောပညာရှိမှန်အံ့။ ထိုသူသည် ကိုယ်ကို မှီ၍ဖြစ်သော ဆင်း ရဲ စိတ်ကို မှီ၍ ဖြစ်သော ဆင်းရဲ တို့နှင့် တွေ့ကြုံမ် လတ် သော် လည်း။ ငါ့အား ဆင်းရဲ အပင် ရှိနိုင်မည် မဟုတ်။ ကောင်းစွာ အားထုတ်လျှင်။ ချမ်းသာခြင်းမည်သည် အနွေးနှင့် အမြန်သာ။ တောင့်တတိုင်း မပြီး မရှိနိုင်ရှာဟု လုံ့လမလျော့ဘဲ။ ဆင်းရဲကို သည်းခံ၍။အားထုတ်ခြင်း၌ယှဉ်လေရာ၏။ထိုသို့သောပညာရှိ သည်လည်း။ ငါကဲ့သို့ပင်။ မိမိတောင့်တတိုင်းအကျိုးအပြီးသို့ ရောက် လေရာ၏။ အကြင် သူသည် ပညာ နည်းသဖြင့် ပျင်း ရိ ခြင်းကိုသာ အလေးအမြတ်ပြုသူဖြစ်အံ့။ ထိုသူသည်မိမိ၌တရံ တခု ကိုယ်စိတ်ဆင်းရဲတွေ့သောအခါ။ ဤသို့သော ဆင်းရဲကို ခံ ရသော ငါ့အား ချမ်းသာကို အဘယ်မှာ ရနိုင် ပါ တော့ အံ့ နည်းဟု။ ဆင်းရဲတခါ ချမ်းသာ တခါလှည့်။ လောက၌ ဖြစ်မြဲဓမ္မ တာကို မယူစားမိဘဲ။ ပျင်းရိခြင်းကို အစွဲပြု၍ လုံ့လကိုလျော့ လေ၏။ ထိုသို့သော ပျင်းရိခြင်းသဘော ရှိသူသည်။ လုံ့လမပြု သဖြင့်။ မဟာ သမုဒ္ဒရာ၌ ငါး လိပ်တို့၏ အစာ ဖြစ်လေ သော သဘော်သား ခုနစ်ရာ တို့ကဲ့သို့။ တောင့် တ အပ် သော အလို လည်းမပြည့်ဘဲ။ ဆင်းရဲမှလည်း မလွတ်မကင်းနိုင်သည်သာ ဖြစ်လေရာ၏။ အမတ်တို့။ ဤလောက၌ လူတို့၏ ဆန္ဒ သည် ကြံ ချက် နှင့်လည်း ပျက်တတ်၏။ မကြံဘဲလည်း ဖြစ်တတ်၏။ ငါ သည်လည်း။ယခုကဲ့သို့ဖုတ်သွင်းရထားဆိုက်၍။ဤပြည်စည်း

စိမ်ကို အလွယ်တကူသိမ်းယူပိုးမြန်းရမည်ဟု တစိုးတစိမျှအကြံမရှိ။ သုဝဏ္ဏဘုမ္မိသို့ သွား၍ ကုန်ပြုသဖြင့်။ ဥစ္စာသျှံပွားများ မြင့်ကြီးကျယ်သောအခါ။ ဥစ္စာဖြင့်ဖြားယောင်း၍။ တပြည်တနိုင်ငံကို လက်နက်ပြုလျက်။ အလုံးအရင်း ကြီးစွာနှင့် တိုက်ယူမှ။ ငါ့ခမည်းတော် ဥစ္စာဖြစ်သော ဤပြည်ကို သိမ်းမြန်း နိုင်အံ့သည်ဟူ၍သာငါ့အကြံရှိသည်။ ထိုအကြံကားပျက်ခဲ့၍။ မကြံဘဲနှင့်။ ပင်လယ်ထဲနစ်ရာအရပ်မှ။ နတ်သမီးဆောင်ပို့သဖြင့်။ မြို့ဥယျာဉ် ကျောက်ဖျာ၌။ ငါနှန်းနေ့ မျှည်းညောင်း၍။ လျောင်းစက်တွင်းမှာ။ ဖုတ်သွင်းရထား ဆိုက်လာလျှင်၊ အကြိုက်သင့်လိုရင်းသို့။ ခဏခြင်းအလျင်အမြန်။ မကြံဘဲ ငါယခုရောက်၍။ ပြီးမြောက် တော်မူသည်။ ငါသာလည်း မဟုတ်။ ဤလောက၌ အကြင် ယောက်ျား မိန်းမတို့သည်။ မင်း ဖြစ်ခြင်းငှာ။ မိဖုရားဖြစ်ခြင်းငှာ။ သူဌေးသူကြွယ်ဖြစ်ခြင်းငှာ။ သူဌေးမ သူကြွယ်မဖြစ်ခြင်းငှာ စသည်ဖြင့်။ မိမိတို့ ဆန္ဒ သွားရာ အသီးအသီး ကြံကြကုန်သည်ချည်းပင်ဖြစ်သည်။ ယင်းသို့ကြံကြသော်လည်း။ ကြံတိုင်း မမြောက်သည်သာ များရာ၏။ ထိုကြောင့်။ လုံ့လ ဟူသည်ကို ကောင်းစွာ အားထုတ်အပ်လှ၏ဟု။ အနှ သာ သနဥ္ဇန်းနှင့်တကွဥဒါန်းကျူးရင့်တော်မူ၏။

ဤ အရာ၌ ဘုရား လောင်း သည်။ မင်း ဖြစ် ထိုက် သော ကုသိုလ်သမ္ဘာရနှင့် ပြည့်စုံတော်မူသည့် ကိုယ်တော် ဖြစ်၍။ မချို့တဲ့သော ဣန္ဒြေဟုဆိုအပ်သော ဥပဓိသမ္ပတ္တိ၊ မင်းဖြစ်စေခြင်းငှာ ကောင်းစွာ အားထုတ်တော်မူခြင်း တည်းဟူသော ပယောဂသမ္ပတ္တိ။ ဖုတ်သွင်းရထား ဆိုက်ခြင်းငှာ ထိုက်ရာ အရပ်နှင့်ပြည့်စုံ တော်မူခြင်း တည်းဟူသော ဒေသသမ္ပတ္တိ။ ထို မိထိလာပြည်၌ မင်းမရှိ၍။ မင်းကို တောင့်တ အပ်သော အခါနှင့် ကြုံကြိုက်ခြင်း တည်းဟူသော ကာလသမ္ပတ္တိ။ ဤသို့ သမ္ပတ္တိလေးပါးနှင့် ပြည့်စုံတော် မူသောကြောင့်။ တောင့်တ အပ်သည်နှင့်လျော်စွာ။မင်းအဖြစ်ကိုရလေသတည်း။ ထိုကြောင့်အကြင်သူ

၌ ကုသိုလ်ကံအားကြီးစွာပင် ရှိခြားသော်လည်း။ မချို့တဲ့သော ဥပဓိ။ လျောက်ပတ်သော ဒေသ။ လျောက်ပတ်သော ကာလ။ ကောင်းမြတ်သော လုံ့လနှင့် မပြည့်စုံချေလျှင်။ ထိုကုသိုလ်ကံ အစွမ်းရှိတိုင်း။ အားကြီးသောကောင်းကျိုးကိုမပေး။ ကံအားနည်းသူပင် ဖြစ်သော်လည်း။ ဥပဓိ။ ဒေသ။ ကာလ။ ပယောဂ။ ဤ လေးပါးနှင့် ပြည့်စုံလျှင်။ ထို အားနည်းသော ကံအစွမ်း ရှိတိုင်း။ ကောင်းကျိုးကို ပေးနိုင်ရာ၏ဟုမှတ်အပ်၏။ ။ဤကား စကားချပ်တည်း။

ထိုသို့ မဟာဇနကမင်းကြီးသည်။ မင်းစည်းစိမ် အထွဋ်အမြတ်သို့ ရောက်သည်မှ။ အနှစ် ရနစ်ထောင်ပတ်လုံး။ ရာဇဓမ္မ ဆယ်ပါး။ သင်္ဂဟလေးပါး။ နာယကဂုဏ် တို့ကို မပျက်စေရဘဲ။ တရားသဖြင့်။ သီဝလီဒေဝီမိဖုရားကြီးနှင့်အတူတကွမင်းပြု တော်မူ၏။ အရှင် ပစ္စေက ဗုဒ္ဓါ တို့ အား လည်း။ အလုပ် အကျွေး ဒါယကာ၏ အဖြစ်ဖြင့် ဝန်ခံ၍။ နန်းတော်၌ မပြတ်လျှင် ဆွမ်းကျွေးတော်မူ၏။ အလှူစရပ်ငါးဆောင်တို့၌လည်း။ တနေ့ မပြတ်မြတ်သောဥစ္စာနှစ်တို့ကိုထုတ်၍အလှူပေးတော်မူ၏။ တရံရောအခါ။ သီဝလီဒေဝီ မိဖုရား ကြီးသည် ကိုယ်ဝန် ဆောင်လတ်သဖြင့် ဆယ်လစေ့လျှင်။ ဘုန်းပညာလက္ခဏာနှင့် ပြည့်စုံသော သတို့သားကိုဘွားမြင်လေ၏။ ထိုမင်းသားအားအမည် မှည့်အံ့သော နေ့၌။ ဒီဃာဝု မင်းသား ဟူသော အမည်ကို မှည့်ကြကုန်၏။ ဒီဃာဝု မင်းသား တဆယ် ခြောက်နှစ် အရွယ်သို့ ရောက်၍။ မင်းသားတို့သင်အပ်သောအတတ်တို့ကိုသင်ကြားသဖြင့် တတ်မြောက်ပြီးသော်။ ခမည်းတော် မဟာဇနကမင်းကြီး သည်။ သားတော် ဒီဃာဝု မင်း သား အား။ အိမ်ရှေ့နှင်း လေ၏။

ထိုအခါတနေ့သ၌။ ဥယျာဉ်မှူးသည်။ ဥယျာဉ်တော်မှအချို့ အဆိမ့် အရ သာ ရှိ သော သစ် သီး ကြီးငယ် တို့ ကို လည်း ကောင်း။ မွှေးသင်းပျံ့ကြိုင်စွာအဆင်းကြက်သရေရှိသော ပန်း

ပွင့်မျိုး အထူးထူးအပြားပြားတို့ကိုလည်းကောင်းယူခဲ့၍။ မင်းကြီးအား ဆက်သလေ၏။ မဟာဇနက မင်းကြီးသည် ထိုပန်းသစ်သီးတို့ကို မြင်လျှင်။ အလွန် နှစ်သက်တော်မူသည် ဖြစ်၍။ ဥယျာဉ်မှူးအား ဆုလပ်ထိုက်လျောက်ရာပေးချပြီးသော်။ အချင်းဥယျာဉ်မှူး။ငါ့ဥယျာဉ်တော်ကိုရှုကြည့်စံပယ်တော်မူလိုသည်။ နက်ဖြန်ခါ ဥယျာဉ်ကို တန်ဆာဆင်၍ ရှိနှင့် စေဟု ဆိုတော် မူလိုက်၏။ ဥယျာဉ်မှူး လည်း။ မင်းကြီး အမိန့်တော် ရှိတိုင်းဝန်ခံ၍။ ဥယျာဉ်၌ မသင့်မတော်သည်များကို ရှင်းလင်းသုတ်သင် လျက်။ တင့် တယ်စွာ ခင်းကျင်း စီရင်တန်ဆာဆင်ပြီးသော်။ မင်းကြီးအားပြီးကြောင်းကိုလျှောက်စေ၏။ မဟာဇနကမင်းကြီးသည်လည်း။ နံနက်မိုးသောက်ရောက်သောအခါ။ ထီးဖြူဖြင့် မိုက်မိုးလျက်။ ရတနာမျိုးတို့ဖြင့် တန်ဆာ ဆင်အပ်သော မင်္ဂလာ ဆင်တော်ကို စီး၍။ များစွာသော ဗိုလ် ထုဗိုလ်ခြေ အခြွေအရံနှင့် ဥယျာဉ်တော်သို့ ထွက်စံတော် မူလေသော်။ဥယျာဉ်တံခါးဝသို့ရောက်တော်မူ၏။ ထိုဥယျာဉ်တော်တံခါးဝ၌ကား။ သရက်ပင် နှစ်ပင်ရှိ၏။ ထို သရက်ပင် နှစ်ပင်သည်မြရည်လိမ်းသကဲ့သို့။ စိမ်းစိမ်းလတ်လတ်။ ညိုဖတ်သောခက်ရွက်တို့ဖြင့် တင့်တယ်၏။ တပင်ကားအသီးမသီး။ တပင်ကား ချို ဧသော အရ သာနှင့် ပြည့်စုံ စွာ အသီး သီး၏။ ထို သရက်ပင်၏ အသီးကိုကား။ မင်းကြီး အားလည်းကောင်း။ အိမ်ရှေ့မင်းအားလည်းကောင်း။ ဆက်ပြီးမှသာလျှင်၊ သူတပါးတို့ဆွတ်ချူ စားကြရကုန်မြဲတည်း။ ထိုအခါကား။ မင်းကြီးအားမဆက်ရသေး ဖြစ်၍။ တရံ တယောက်မျှ မဆွတ်မချူ ဝံ့ကုန်။ မင်းကြီးသည်ဥယျာဉ်တံခါးဝသို့ရောက်၍။ထိုအသီးနှင့်ပြည့်စုံသော သရက်ပင်ကို မြင်လျှင်။ အပင် ရင်းသို့ ဆင်တော် ကိုယှဉ်စေလျက်။ သရက်သီးကိုဆင်တော်ကျော်ကုန်းထက်ကလှမ်းဆွတ်ကာ။ အရသာကိုသိလို၍ တလုံးမျှတည်း စားတော်ခေါ်၏။ ထိုသရက်သီးအရသာလျှာတော်ပျားသို့ရောက်ကာမျှ

န္တိ။ နတ်သုဓာဘုတ်ကဲ့သို့။ ချိုမြသော အရသာရှိသည်၏ အဖြစ်
ကိုသိလေသော်။ ရသ တဏှာ၌ တပ်ငြိတော် မူသဖြင့်။ ငါယခု
ဥယျာဉ်စံပယ်တော်မူဦးမည်။ဥယျာဉ်ကထွက်သောအခါမှ။
ဤသရက်သီးကို ဝအောင်စားတော်မူမည်ဟု အကြံတော်အာ
လယနှင့်။ ဥယျာဉ်သို့ဝင်၍စံပယ်တော်မူလေ၏။ အိမ်ရှေ့မင်း
သည်လည်း။ မင်းကြီးကဲ့သို့ပင်တလုံးမျှသာဆွတ်ချူစားပြီး၍။
နောက်တော်သို့လိုက်ရလေ၏။ မင်းကြီး။ အိမ်ရှေ့မင်းမှတပါး
ကျန်သောမှူးမတ် ပရိသတ်ဗိုလ်ခြေတို့သည်လည်း။ ဤသရက်
သီးကို အရှင်တို့အားအဦးဆက်၍ပြီးပြီဟု။ အလိုရှိတိုင်းတတ်
အားသမျှ ဆွတ်ချူပစ်ခတ်၍ စားကြလေကုန်၏။ လူများ၍ သ
ရက်သီးနည်းခြင်းကြောင့်။ ဆင်ထိန်း။ မြင်းထိန်း။ ဆိတ်ထိန်း
အစရှိသော ကံကျွေးနောက်ပါ လူရတို့သည်။ ဘုန်းမရှိသဖြင့်
နောက်ကျ၍။ သရက်ပင်၌အသီးကုန်မှ ရောက်ကြလတ်သော်။
လူ မလိမ္မာတို့ ဓလေ့အားလျော်စွာ။ ငါတို့သရက်သီးကို မစား
ရဘိလောဟုသရက်ပင်ကိုအမျက်ထွက်၍။ ခဲ။အရတ်။ဘုတ်။ဖွံ့
တံ စသည်တို့ဖြင့်။ အကိုင်းအခက် အရွက်တို့ကို ပစ်ခတ် ရိုက်
နှက် ချိုးပဲ့လျက်။ အရွက် ဟူသမျှ ပြုန်း၍။ အရိုး အခက် မျှသာ
ကျန်မှ။ မိမိတို့လိုရာ သွားကြလေ၏။ မင်းကြီးသည် ဥယျာဉ်
တော်၌ အလိုရှိသမျှ လှည့်လည် စံပယ်တော် မူ၍။ မြို့သို့ဝင်ချိန်
အခါရောက်သဖြင့်။ ဥယျာဉ်တော်မှ ထွက်လေသော်။ ထိုသ
ရက်ပင်ကို မြင်လျှင်။ အမတ်တို့ကို အချင်းတို့။ ဤသရက်ပင်
ကား။ ငါဝင်တော်မူစဉ်ကနှင့်မတူ။ ယခုအဘယ်ကြောင့် ဤ
သို့ ရှိလေသနည်းဟု မေး၏။ အမတ် တို့လည်း အရှင်မင်းကြီး။
ကိုယ်တော်အား အဦး ဆက်၍ ပြီးပြီဟု။ ဗိုလ်ပါ ရဲမက်တို့ လု
ယက် ဆွတ် ချူ ကြ သဖြင့်။ သ ရက် ရှား ၍။ လက် များ ခြင်း
ကြောင့်။ အပင်တော်ခက်ရွက် ပွန်းရိပါသည်ဟု လျှောက်ထား
ကြ၏။ မင်းကြီးလည်း အချင်းတို့။ ယင်းသို့ဖြစ်လျှင်။ ဤအပင်
သာ စနောင်စနင် အသို့ကြောင့်ရှိသနည်း။ ထိုအပင်ကား ခက်

ရွက် စနောင်စနင် မရှိတကားဟု မေးပြန်၏။ အမတ်တို့လည်း အရှင်မင်းကြီး။ထိုအပင်သည်ဤအပင်ကဲ့သို့အသီးမသီးသော ကြောင့်။ ခက်ရွက် မပွန်း မရိ ရှိပါသည်ဟု လျှောက် ထား ကြ ကုန်၏။ ဘုရားလောင်း မဟာဇနက မင်းကြီးသည် ထို စကား ကိုကြားလျှင်။ဤသို့သံဝေဂဖြစ်တော်မူ၏။ဤအပင်ကားအသီး မသီးသောကြောင့်။ စိမ်းစိမ်းလတ်လတ်ညိုဖတ်သောခက်ရွက် ဖြင့်။ နှစ် သက် ဘွယ် ပြကတေ့ အတိုင်း ရှိ၏။ ဤ အပင် ကား အသီး သီးခြင်း ကြောင့်။ ဖျက်ဆီးတတ်သော သူနှင့် ဆက်ဆံ သည်ဖြစ်၍။ပြကတေ့အတိုင်းမတည်ရ။ ဤပြည်စည်းစိမ်မည် သည်လည်း ရန်သူနှင့်ဆက်ဆံ ခြင်းကြောင့်။ အသီးသီးသော သရက်ပင်နှင့် တူ၏။ ရန်သူ မဆက်ဆံ သော စည်းစိမ် ကို ရှာ လျှင်။ ရသေ့ ရဟန်း၏ အဖြစ်သည်သာ ရန်သူနှင့် မဆက်ဆံ သောကြောင့်။အသီးမသီးသောသရက်ပင်နှင့်တူ၏။ စည်းစိမ် ဥစ္စာ သားမယား ဆွေမျိုး စသည် တို့ကို မှီ၍ ကြောင့်ကြ ခြင်း ရှိသသူ သာလျှင် ဘေးများ၏။ ကြောင့်ကြမဲ့ နေသော သူအား ဘေးမရှိ။ ယင်းသို့ ဖြစ်သောကြောင့်။ ဤသရက် နှစ်ပင်တွင်။ အသီး မသီး သော သ ရက် ပင် ကို ဥပမာ ထား ၍။ အလုံး စုံ သော ကြောင့်ကြကို ဖြတ်ပြီးလျှင်။ ငါ ရဟန်း ပြုအံ့ဟု။ နှလုံး တော် အမြဲ စွဲယူ ဆောက် တည် တော် မူ လျက်။ မြို့သို့ ဝင်ပြီး သော်။ နန်းတော်အရှေ့ စရတ်တံခါးဝ၌ ရပ်တော်မူ၍။ စစ်သူ ကြီးကိုခေါ်ချေဟုစေတော်မူလိုက်၏။ ခေါ်တော်မူ၍စစ်သူကြီး ရောက်လျှင်။ ဘုရားလောင်းမင်းကြီးသည် ဤသို့မှာတော်မူ၏။ စစ်သူကြီး။ ပြည်ထဲရေးကိစ္စမှာ ငါ့ သားတော် ဒိဃ်ရွှေမင်းရှိ ပြီ။ သင်မှုကား ငါ့အလိုတော်ကိုသာ လုံ့ဖြိုးစွာစောင့်ရှောက် ရ မည်။ ငါသည် ယနေ့မှစ၍။ အလိုရှိသမျှ ကာလ ပတ်လုံး။ နန်း တော် ပြာသာဒ်အထက်ဆင့်၌ တယောက်ထီးချင်း။ ရဟန်းတ ရားကို ပွားစေလျက်။ ငြိမ်သက် တည်ကြည်စွာ နေတော်မူလို သည်။ ငါ၏အလိုမပြည့်သမျှ။ ယနေ့မှစ၍။ ငါ့ထံသို့ စားတော်

ဒရပ်သွင်းဆက်သူ။ တံပူမျက်သစ်ရေဆက်ကပ်သူ။ အလုပ်အကျွေး လက်ပါးစေ ယောကျ်ားတို့ကိုသာ ဝင်စေ။ ဤမှတပါး။ ငါ့မိဖုရားကြီးမှစ၍။ အလုံးရုံနန်းတွင်းသူ။ နန်းတွင်းသား။ ခစားသမျှမှူးမတ်ပရိသတ်အပေါင်းတို့ကို။ တယောက်မျှငါ့ထံမဝင်စေနှင့်။ ကျပ်ကျပ်တည်းတည်းမှိုင်နင်းအောင်ဆီးတားဟု။ နန်းတော်တွင်း၌ ကိစ္စကို စစ်သူကြီးအား လွှဲတော်မူပြီး လျှင်။ တရားစိရင်ရာလွှတ်သဘင်၌ တရားသူကြီးပြုသူ အမတ်ကြီး ကို ခေါ်တော်မူပြန်၍။ စစ်သူကြီးမှာကဲ့သို့ပင် အကြောင်းကိုပြောဆိုတော်မူပြီးလျှင်။ အမတ်ကြီး။ ငါကြောင့်ကြမဲ့ နေသည်ဟူ၍ တရားအဆုံးအဖြတ်မတိမ်းမယိမ်းစေနှင့်။ သတိပညာဖွဲ့ကပ်လျက်။ ဖြောင့်မတ်ဟုတ်မှန်တိုင်းစီရင်။ အလုံးရုံသော မှူးမတ်ဖြည်သူ တို့အားလည်း။ ပစ္စုပ္ပန်သံသရာ အကျိုးနှစ်ပါး ပြည့်ရုံစေကြောင်း။ ကောင်းမြတ်သော အဆုံးအမ ကိုလည်း ပေးဟု မှာတော်မူပြီး သော်။ နန်းတော် ပြာသာဒ် အထက် ဘုံ ဆင့် သို့ တက်တော်မူ၍။ တယောက် အထီး တည်း ရဟန်း တရား ကို ပွားစေလျက်နေတော်မူလေ၏။

ထိုအခါ မင်းရင်ပြင် လျှောင်းတော် ဦး ၌။ ခစားမြဲဖြစ်ကုန်သော မင်းခ ယောကျ်ား။ အမှူး အမတ် ပရိသတ် တို့သည်။ ထိုလျှောင်းတော်ဦး၌ မင်းကြီးကို မတွေ့ မမြင်သဖြင့်။ စားတော်ဒရပ်သွင်းသူ။ တံပူ မျက်သစ်ရေ ဆက်ကပ် သူတို့ကို သင့် ရာ ခေါ်၍။ အချင်းတို့။ သင်တို့သည်မင်းကြီးထံမပြတ်ဝင်ကြရ၏။ မင်းကြီးအသို့နေတော်မူသနည်း။ သင်တို့နှင့်စကားပြောပြောခြင်းကို ပြုတော်မူ၏လောဟု မေးကြကုန်၏။ ထိုအလုပ်အကျွေး မင်းချင်း တို့လည်း။ အချင်းတို့။ ကျွန်ုပ် တို့ကား။ အချိန်ရောက်လျှင်။ တံပူ မျက်သစ် ရေ စားတော် များကို ဆက်ကပ် ၍ သာ ထွက်ခဲ့ရသည်။ ကျွန်ုပ်တို့အား တခွန်းသော စကားကိုမျှ မေးမြန်း ပြောဆိုတော်မမူ။ မလှုပ်မရှက် ငြိမ်သက်တည်ကြည်စွာသာ နေတော် မူ၏ဟု ပြောဆို ကြကုန် ၏။ ထိုစကား ကို ကြား

လျှင် မှူးမတ်ပရိသတ်အပေါင်းတို့သည်။ ငါတို့အရှင်မင်းကြီးကား ရှေးနှင့် မတူ။ အသို့ ယခု ရှိရ လေ သ နည်း ဟု ဆို လျက် မြည်တမ်းကြလို၍။ ။ပေါရာဏံဝတတောရာဇာ။ အစရှိသောနှစ်ဂါထာဖြင့်ဆိုကြကုန်၏။

အဓိပ္ပာယ်ကား။ အချင်းတို့။ အရပ် မျက်နှာတို့၏ ထီး။ မြေကြီးသဋ္ဌနင်း ဖြစ်တော် မူသော ငါတို့ အရှင် မင်းကြီး သည်။ ရှေး၌ကား အခါအခါနှင့်ပျော်ပွဲ။ ရှင်မိဖုရား မောင်းမ ကိုယ်လုပ်တော် ရွှေဘော် အပေါင်း ၌ လည်း ကောင်း။ စောင်း ညှင်း ပတ်သာ ခရာနှဲမင်း စသော တီး မှုတ်ခြင်း သီခြင်း ကခြင်း သဘင်တော်၌ လည်းကောင်း။ ဆင်တိုက်ခြင်း ဆိတ်တိုက်ခြင်း၌ လည်းကောင်း။ ဥယျာဉ်သို့ထွက်စံတော်မူ၍။ ကြာမျိုးငါးပါးဖြင့် ဖုံးလွှမ်းအပ်သော မင်္ဂလာ ရေကန်တော်၌။ ဟံသာ မိမတို့၏ ပျော်ပာန် မြူးပာန် များကို လည်း ကောင်း။ ရှုကြည့် စံပယ်တော် မူမြဲ ဖြစ်လျက်။ ယခုကား ထိုပျော်မှု ပျော်ဘွယ် များကို လုံးလုံး ပစ်ပယ် တော်မူ၍။ ဆွံ့ အသော သူကဲ့သို့။ တယောက်သောသူကိုမျှစကားမပြောဘဲ။ ပြည်သားပြည်သူမှူးတော်မတ်တော် တို့အားလည်း။ အဆုံးအမ မပေးဘဲ နေတော်မူဘိ၏ တကားဟု တယူပြောဆို ကြကုန်၏။ ဘုရားလောင်း မဟာဇနကမင်းကြီးသည်။နန်းတော်ပြာသာဒ်အထက်ဘုံဆင့်၌တယောက်အထီးတည်း နေတော်မူလျက်။ ကာမဂုဏ်၌ မကပ်ငြိသော နှလုံးတော်ဖြင့်။ ဆရာ ဖြစ်သော အရှင် ပစ္စေကဗုဒ္ဓါတို့၏ ဂုဏ်ကို အဖန်တလဲလဲအောက်မေ့တော်မူ၍။ ။သုခကာမာရဟောသိလာ။ အစရှိသော သုံးဂါထာတို့ဖြင့်။ ဥဒါန်းကျူးရင့်တော်မူ၏။

အဓိပ္ပာယ်ကား။ ငါ ၏ နန်းတော်သို့ နေ့တိုင်း မပြတ် ဆွမ်းစားကြွတော်မူလာ၍။ ငါ၏ ဆရာ ဖြစ်တော်မူကုန်သော အရှင်ပစ္စေကဗုဒ္ဓါတို့သည်။ အရွယ်အားဖြင့် အငယ်အလတ် အကြီးဟု နိမ့်မြင့်ရှိတော်မူကုန်၏။ ကျေးဇူးဂုဏ်အားဖြင့် တူမျှတော်

မှုကြသည့်သော ဖြစ်ကုန်၏။ ထိုအရှင်မြတ်တို့သည် နိဗ္ဗာန်ချမ်းသာကို အလို ရှိတော် မူကုန် သည် ဖြစ်၍။ ဆိတ်ညံရာ အရပ်၌လည်း နေလေ့ ရှိတော်မူ၏။ ကိုယ်၌ ထင်ရှားရှိသော သီလ သမာဓိဂုဏ်ကိုလည်း။ သူတပါးတို့အားမပြသဲ။ အလွန်လျှို့ဝှက်တော်မူ၏။ သတ်ခြင်း နှောင့်ဖွဲ့ခြင်းအစရှိသော အကုသိုလ်ဒုစရိုက်တို့မှ ကင်းသည်ဖြစ်၍။ ငြိမ်သက်သော နှလုံးတော်လည်းရှိတော်မူကုန်၏။ ထို ငါ့ဆရာဖြစ်သော အရှင် ပစ္စေကဗုဒ္ဓါတို့သည်။ ယခုအဘယ်သူကျောင်းမှာ နေတော်မူလေဘိသနည်း။ ငါ့ဆရာ ဖြစ်ကုန်သော ထို အရှင် မြတ် တို့ သည်။ လေဝှေ၍ မတိမ်းနိုင်သောတခဲနက်ကျောက်တိုင်ကဲ့သို့။မြဲမြံသောပညာနှင့်ပြည့်စုံတော်မူကုန်လျက်။ သတ္တဝါအပေါင်းတို့၏ နှလုံးကိုရုန်းရင်းခတ် မွှေနှောက်တတ်သော တဏှာအပြားမှလည်း။ ထွက်မြောက်တော် မူပြီး သဖြင့်။ ကြောင့်ကြ ပိုးရိမ်ခြင်း မကင်း နိုင်သော လူ၏ဘောင်၌။ ကြောင့်ကြ ပိုးရိမ်ခြင်း ကင်းသော အားဖြင့်နေတော်မူလေ့ရှိကုန်၏။ မြတ်သော သီလက္ခန္ဓ ကျေးဇူးကိုရှာမှီးလေ့ ရှိတော် မူကုန်သော ထိုအရှင် မြတ် တို့အား ရှိ သေခွာ အကျွန်ုပ်ရှိခိုးပါ၏။ သောမင်းသည် သတ္တဝါတို့အား။ အသုဘနိမိတ်ကို သုဘ နိမိတ်ဟု ထင်မှား အောင် လှည့်စား တတ်သော တဏှာကွန်ရက်ဖြင့်။ ဘမ်းယူဖွဲ့ရစ်ခြင်းကို ပြုတတ်၏။ ထိုသောမင်း၏ ကွန်ရက်ဖြစ်သော တဏှာ အနှောင် အဖွဲ့ကို အကြွင်းမဲ့ဖြတ်ပယ်၍။ ငါ၏ဆရာ အရှင်မြတ်တို့သည် နိဗ္ဗာန်သို့ကြွတော်မူကြလေပြီ။ ထိုကိလေသာအာလယငြိမ်းပြီးသော ငါ၏ဆရာ အရှင် ပစ္စေကဗုဒ္ဓါတို့၏ နေရာသို့။ ယခု ငါ့ကိုအဘယ်သူပို့ပါအံ့နည်းဟု။ အရှင်ပစ္စေကဗုဒ္ဓါ တို့၏ သီလ သမာဓိ အစရှိသော ကျေးဇူး ဂုဏ်ကိုသာလျှင်။ အဖန်တလဲလဲ အောက်မေ့တော်မူသော ဘုရားလောင်း မင်းကြီး အား။ အလွန် နှစ်သက်ခြင်းပီတိ ဖြစ်တော်မူ၍။ ထက်ဝယ်ဖွဲ့ခွေ နေတော် မူရာမှ ရံခါရံခါ ထကြွတော်မူသဖြင့်။ မြောက်လေသာ ပြတင်းကို ဖွင့်လှစ်

တော်မူပြီးလျှင်။ပြတင်းဝ၌ရပ်လျက်။မြောက်ဟိမဝန္တာသို့ရည်ရော်မျှော်ကြည့်ကာ လက်အုပ်ချီ၍။ အရှင်ပစ္စေကဗုဒ္ဓါ တို့ကိုရှိခိုးလျက်။ ယခင်ဆိုခဲ့ပြီးသည့် အတိက္ကန္တဝနတာ။ အစရှိသောနှစ်ဂါထာတို့ဖြင့်။ အရှင်ပစ္စေကဗုဒ္ဓါတို့၏ဂုဏ်ကိုထုတ်ဆောင်၍။ ဥဒါန်းမြွက်ဆို။ ကြည်ညို့မြတ်လေး။ အဝေးက ပူဇော်တော်မူခြင်းကိုလည်းပြုတော်မူ၏။

ဤသို့သော နည်းဖြင့်။ ဘုရားလောင်း သည် ရဟန်း တရားကိုပွားစေလျက်။ လေးလပတ်လုံး။ ကိုယ်တော် အထီးတည်း။ ပြာသာဒ် အထက် ဘုံဆင့်၌ နေတော်မူ၏။ ထိုသို့ နေတော် မူ၍လေးလ လွန်လတ် သော်။ ဘုရား လောင်း သည် ရဟန်း အဖြစ်သို့ ညွှတ်သောစိတ် အားကြီးတော်မူသည်ဖြစ်၍။ ရွှေနန်းစည်းစိမ်ကို လောကန္တရိက်ငရဲကဲ့သို့ ထင်တော်မူလျက်။သုံးပုံသောဘဝမီးသည်။ ညီးညီး ပြောင်ပြောင်။ တောက်လောင်တော် မူလျှင်။ ဘေးမဲ့ရာသို့ လျင်စွာ ပြေးဝင် လိုသော နှလုံးတော် ရှိသဖြင့်။ သိကြားမင်းစံရာ။ တာဝတိံသာ နတ်ပြည်ကဲ့သို့တန်ဆာဆင် အပ်သော ဤမိဖိလာ ပြည်ကို စွန့်ပစ်၍။ အဘယ် ကာလရောက်မှ။ ဟိမဝန္တာ၌ ရဟန်း ပြုခွင့်ကို ရပါမည်နည်းဟု။ ကြံတော်မူလျက်။ ။ကဒါဟံ မိဖိလံဖိတံ။ အစရှိသော ဆယ်တဂါထာ ဖြင့်။ နေပြည် တော်ကို ချီးမွမ်း၍။ ရဟန်း ပြုခွင့်ကို ရှာတော်မူ၏။

အဖိပ္ပာယ်ကား။ ငါစံတော်မူရာ ဤမိဖိလာ ရာဇဌာနီ ပြည်ကြီး သည်။ ည ချမ်း နံ နက် ချမ်း တိုင်း လမ်းမ လမ်းငယ် အသွယ် သွယ် သော ဆိုင်စည် ခရီး ၌။ သွားကုန် လာကုန် သောအရွယ်ရှိ မိန်းမ ယောက်ျား တို့၏ ဝတ်ဆင်သော အဝတ် တန်ဆာရောင်။ ဆင်မြင်း ရထား စသည်တို့၌ ဆင်သော တန်ဆာရောင်။ ဈေး တန်း ဆိုင်စည် တို့၌ မပြတ် ခင်း ကျင်းကာ ထားသော အဝတ်တန်ဆာရောင်။ မင်းပွဲရိုးပွဲ ထွက်ဝင်တက်သက်ကြကုန်သော မှူးမတ်ပြည်သူပြည်သားမင်းခယောက်ျားတို့၏

ဝတ်ဆင်ဆောင်ရွက်သော အဝတ် တန်ဆာရောင် စသည့်တို့
ဖြင့်လည်းအခါမလပ်ပွင့်လန်း၏။ ဤအရပ်ကားရွှေနန်းပြာသာဒ်
တည်ထားရာ။ ဤအရပ်ကားလွှတ်သဘင်တည်ထားရာ။ ဤအ
ရပ်ကား အန္တေပုရဟု ဆိုအပ်သော အတွင်းနန်းတော်မြို့ တည်
ထားရာ။ ဤအရပ်ကား ပြင်မြို့ကြီးနှစ်ထပ်တည်ထားရာ။ ဤအ
ရပ် ကား တံခါးမုတ် ဆိုင်စည် မင်းလမ်း ခိုနန်း တန် ဆောင်း
တည် ထားရာ။ ဤအရပ်ကား အိမ်ရှေ့မင်း နေရာ။ စစ်သူကြီး
နေရာ။ ဆွေတော် မျိုးတော် တို့၏ နေရာ။ မှူးမတ်တို့၏နေရာ စ
သည့် ဖြင့်။ ရှေးပညာရှိ တို့ ကောင်း စွာ ဝေ ဖန် စီ မံ ခဲ့ သည်
ဖြစ်၍။ ကြီး ကျယ် တင့်တယ် စွာ သော မြို့၏ အခင်း အကျင်း
နှင့် လည်း ပြည့်စုံ ၏။ တံခါးမ။ တံခါးငယ်။ ပစွင်။ ရင် တား။
တံခါး။ မုတ်။ ပြ။ တန်ဆောင်း။ သူကောင်းသူမြတ်တို့နေရာအ
ခင်းအကျင်း။ ဝင်း။ ပြာသာဒ် အဆောင်ဆောင် တို့ဖြင့် လည်း
တင့်တယ်၏။ တံခါးလမ်းမတို့၌။ မြင်းကသော ရထား။ ဆိတ်
ကသောရထား။ နွားကသောရထားတို့၏ ထွက်ဝင် သွားလာ
ခြင်း ဖြင့်လည်း ပြွမ်း၏။ မြို့ ပတ်လည် ဝန်းကျင် တို့၌။ ပန်း ဥ
ယျာဉ်သစ်သီးဥယျာဉ်တို့ဖြင့်လည်း။ နှလုံးမွေ့လျော်ဘွယ်ခြံ
ရံအပ်၏။ ရှေးဝိဒေဟရာဇ် တိုင်းကြီးကို အစိုး ရ သော ငါ ၏
ဘေး လောင်းတော် သောမနဿ မင်းကြီး သည် တည် ထား
စီမံ တော် မူခဲ့သော ဤမိထိလာ ပြည်ကြီး သည်။ နန်း တော် ရံ
မြို့ငယ်နှင့်တကွ။ မြို့တံတိုင်းသုံးထပ်။ ကျုံးသုံးထပ်တို့ဖြင့် အ
လွန်တင့်တယ်၏။ မြို့သုံးထပ်တို့၏အတွင်း၌လည်း။ သားတော်
ညီတော် ဦးရီး တော် စသော မင်းဆွေ မင်းမျိုး တို့ ၏ နေရာ။
ပြာသာဒ်။ တန်ဆောင်း။ အိမ်ကောင်း အိမ်ကြီး တို့ဖြင့် လည်း
ပြည့်၏။ ဤသို့စသောဂုဏ်တို့ဖြင့်။ နှလုံးမွေ့လျော်ဘွယ်ရှိသော
ရာဇဌာနီ မင်းနေ ပြည်ကြီး စည်းစိမ်ကို။ အဘယ်အခါ စွန့်ခွါ
နိုင်၍။ ငါရဟန်းပြုဖြစ်ပါအံ့နည်းဟု။ နေပြည်တော်ဂုဏ်ကိုချီး
မွမ်း၍။ ရဟန်းပြုခွင့်ကိုတောင့်တပြီးလျှင်။ တဖန်ဝိဒေဟရာဇ်

တိုင်းကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကဒါပဟံဝေဒေဟာဝိ
တေ။ အစရှိသော နှစ်ဂါထာဖြင့်။ မြွက်ဆို တောင့်တ တော်မူ
၏။

အဝိပ္ပာယ်ကား။ ငါ၏ ဘုန်း အာဏာတော် နှံ့ရာ ဖြစ်သော
ဤဝိဒေဟာရာဇ် တိုင်းကြီးသည်။ ဥစ္စာစပါး ပွားများ ပေါရမ်း
ခြင်းနှင့်လည်းပြည့်ရုံ၏။ ဥစ္စာစည်းစိမ်နှင့် ပြည့်ရုံကုန်သောသူ
ဌေးသူကြွယ်တို့ဖြင့်လည်း ပြည့်ရုံ၏။ ရွာငယ် အစွန်းအမြိတ်မျှ
ဖြစ် သော် လည်း။ တပါး ပြည်ထောင် မင်း တို့သည် လု ယက်
ဖျက်ဆီးခြင်းငှာမပံ့ကုန်။ တိုင်းအတွင်း၌လည်း။ခိုးသူထားပြစ
သော ရန်ပါးမရှိသည်ဖြစ်၍ အလွန်စည်ပင် သာယာ၏။ အမျိုး
လေးပါးတို့သည်လည်း။ မိမိတို့နှင့်လျော်ရာ ငါဆုံးမတိုင်း တ
ရားကိုကျင့်ကြကုန်သည်သာဖြစ်၏။ ဤသို့စသောဂုဏ်တို့ဖြင့်။
နှလုံး မွေ့လျော်ဘွယ်ရှိသော ဤဝိဒေဟာရာဇ် တိုင်းကြီးကို။ အ
ဘယ်အခါ စွန့်ခွါနိုင်၍။ ငါရဟန်း ပြုဖြစ်ပါ အံ့နည်းဟု။ တိုင်း
ကြီးဂုဏ်ကို ချီးမွမ်း၍။ ရဟန်းပြုခွင့်ကိုတောင့်တပြီးလျှင်။ တ
ဖန် နန်းတော်ရံ အတွင်းမြို့ကို ချီးမွမ်းတော် မူလိုပြန်၍။ ။က
ဒါပဟံအန္တေပုရံရမ္မံ။အစရှိသောသုံးဂါထာဖြင့်။မြွက်ဆိုတောင့်
တတော်မူ၏။

အဝိပ္ပာယ်ကား။ ငါ၏ နန်းတော်အရံသည်။ ဤအရပ်၌ နန်း
တော်ပြာသာဒ်မ။ ဤအရပ်၌ဆောင်သီးဆောင်သွယ်ထားဝယ်
လေသာ စမုတ်။ ဤအရပ်၌ အတွင်း သားတို့ စည်းဝေးရာ အ
ဆောင်။ ဤအရပ်၌ လွှတ်သဘင်။ ဤအရပ်၌ မှူးမတ်တို့ခစား
ရာ။ ဤအရပ်၌ဆင်တော် မြင်းတော် ရထားတော် ယည်တော်
ထားရာ။ ဤအရပ်၌ ပွဲသဘင် ပြုရာ စသည်ဖြင့်။ ကောင်း စွာ
တောင်တာကွက်မှတ်နိုင်းရှည်၍။ ဝေဖန်စီရင်အပ်သဖြင့်။ အ
လွန် နှလုံးမွေ့လျော်ဘွယ်ရှိ၏။ ဤနန်းတော်ဝန်းကျင်ရံသောမြို့
၌။ နရပတေ အင်္ဂတေတို့ဖြင့်။ အပြေအပြစ် ပြုအပ်သည် ဖြစ်၍
လည်း။အလွန်ရှုချင်ဘွယ်ရှိ၏။ နန်းတော်ပတ်လည်၌။မွှေးကြိုင်

ပျံ့သင်းသောပန်းတောတို့မှ လေပြည်ဆောင်သွေး၍။ မွှေးကြိုင်လှသော ပန်းရနံ့ တို့ဖြင့်လည်းကောင်း။ နန်းသား နန်းသူ တို့၏ အသုံး အ ဆောင် ဖြစ် သော အမွှေး အ ထုံ မျိုး တို့ ဖြင့် လည်းကောင်း။ နန်းတော်အလုံး။ တသင်းသင်းတပျံ့ပျံ့၊ သန့်စင်သော နံ့သာရနံ့အတိ ထိုင်ကြူသာဖြင့်။ အလွန် နှလုံး မွေ့လျော်ဘွယ် ရှိ၏။ ဤသို့စသောဂုဏ်တို့ဖြင့်။ မင်္ဂလာရက်နိုင်အောင်ဖြစ်သော ဤ နန်းတော် စည်းစိမ်ကို။ အဘယ်အခါမှ ချွတ်ဖြစ် စွန့်ဖြစ်ရှိ၍။ ရဟန်း ပြုနိုင်ပါအံ့နည်းဟု။ နန်းတော်၏ အတွင်းမြို့ကို ချီးမွမ်း၍။ ရဟန်း အဖြစ်ကို တောင့်တတော် မူပြီးလျှင်။ တဖန် နန်းတော် ပြာသာဒ်ကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကဒါဟံကုရုဂါရေစ။အစရှိသောလေးဂါထာဖြင့်။တောင့်တမြွက်ဆိုတော်မူ၏။

အဓိပ္ပာယ် ကား။ ဤ ငါ၏ နန်း တော် ပြာ သာဒ် ဆောင် တို့ သည်။ ပိန်ဖူး။ ပိန်ပွင့်။ ပိန်ပျံ့။ မှန်ကင်း။ တုယင်။ ရလစ်အမွှမ်း။ ထုပ်ကာတို့ဖြင့်တန်ဆာဆင်အပ်သည်ဖြစ်၍လည်းအလွန်တင့်တယ်၏။ ရွှေတိုက်ငွေတိုက် ကြက်သရေတိုက်စသည့်တို့၌။ နရပတေ အင်္ဂတေတို့ဖြင့် အပြေအပြစ်ပြုလျက်။ ရွှေငွေ စသော ရတနာတို့ဖြင့်။တန်ဆာဆင်အပ်သည်ဖြစ်၍လည်းအလွန်တင့်တယ်၏၊ လက်အမှု၌ တတ်လှစွာသော။ဗိသုကာ ဆရာကြီးတို့ သည်။ ကောင်းစွာတမျှည်းခင်းလျက်။ ဤအရပ်၌ ဤအဆောင်စသည်ဖြင့်။ သင့်ရာတော်ရာချထားစီမံဖန်ဆင်းအပ်သည်ဖြစ်၍။ ဤဥနစ်ရာ ကျော် အရေ အတွက် ရှိကုန်သော နန်း ပြာသာဒ် ဆောင် တို့သည်။ နတ်ဘုံဗိမာန် တရ တည်း ကျသကဲ့သို့။ တဆောင်ကအရှောင်။ တဆောင်ကိုကူးခတ်လျက်။ တသျှပ်သျှပ် ရောင်နွယ်။ ရှက်တွယ် ယိုဖိတ်၍။ စိတ် နှလုံး မွေ့လျော် ဘွယ် လည်း ရှိ၏။ နန်းတော် ပတ် လည်၌။ စင်ကြယ် သန့် ရှင်း။ မွှေး သင်းသော ပန်းရနံ့တို့ဖြင့်လည်းကောင်း။ အကျော်စန္ဒကူးနီစ သော အထုံ အခိုး။ မွှေးမျိုး နံ့သာ ပျောင်း တို့၏ ရနံ့ဖြင့် လည်း ကောင်း။နန်းတော်ပြာသါဒ်ဆောင်တိုင်း။တသင်းသင်းတကြိုင်

ကြိုင်လှိုင်သည်ဖြစ်၍။ နှလုံးမွေ့လျော်ဘွယ်လည်းရှိ၏။ ဤသို့စသော ဂုဏ် တို့ဖြင့်။ မခွါရက် နိုင်အောင် ဖြစ်သော ဤ ရွှေ နန်းပြာသာဒ်စည်းစိမ်ကို။အဘယ်အခါမှခွါဖြစ်စွန့်ဖြစ်ရှိ၍။ရဟန်းပြုနိုင်ပါအံ့နည်းဟု။ နန်းတော်ပြာသာဒ်ဆောင်တို့ကိုချီးမွမ်း၍။ ရဟန်းအဖြစ်ကို တောင့်တပြီးလျှင်။ နန်းမဆောင်၌ ထီးဖြူဖြန့်မိုးလျက် ခင်းအပ်သောရတနာပလ္လင်။ အရှေ့လျောင်းတော်ဦးစရတ်ဝပြာသာဒ်ဆောင်၌ ကန်တော့ပူဇော်ခံရာရတနာပလ္လင်။ နေ့ရာထိုင် ရွှေညောင်စောင်း ရွှေသလွန်မှစ၍။ အလုံးစုံသော ပလ္လင်တော်တို့ကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကာဒါယီသုဝဏ္ဏပလ္လင်္ကေ။ အစရှိသောနှစ်ဂါထာဖြင့်။ မြွက်ဆိုတောင့်တတော်မူ၏။

အဓိပ္ပါယ်ကား။ ဤ နန်းမ နန်းငယ် အသွယ်သွယ်သော အဆောင်တို့၌။ ခုနစ်ရာသော ကြက်သရေတိုက်ဝယ်။ တခုစီခင်းအပ်သောရတနာသလွန်တော်။ ဤနန်းတော်အတွင်း၌။ အသီးအသီးသင့်ရာတော်ရာခင်းအပ်သောနေ့ရာထိုင်အင်းပျဉ် ရာဇပလ္လင် အပေါင်း တို့သည်။ အချို့ကား ရွှေဖြင့် ပြီးကုန်၏။ အချို့ကား မျက်ကိုးပါးဖြင့် ပြီးကုန်၏။ ထိုသလွန်ညောင်စောင်း နေ့ရာထိုင် အင်းပျဉ် ရာဇ ပလ္လင် တို့၌။ သိမ်မွေ့ ကောင်း မြတ် နူ ထွတ် ညံ့သက် သော သားမွေး ငှက်မွေး တို့ ဖြင့်။ လက် လေးသစ်ကျော်အရှည် အထက်သို့ တက်စေလျက်။ အထူးအဆန်းရက် အပ် သော ခင်းနှီး ပြောက် တို့ဖြင့် ခင်း အပ်သည် ဖြစ် ၍ လည်း အလွန် နှလုံး မွေ့လျော် ဘွယ် ရှိ၏။ ထိုရတနာ ပလ္လင် စသည်တို့ကို အဘယ် အခါမှ စွန့်ခွါ နိုင်၍။ ရဟန်း ပြုဖြစ် ပါအံ့ နည်းဟု တောင့်တတော် မူပြီးလျှင်။ ဝတ်လဲတော် ပုဆိုးတို့ကို ချီးမွမ်းတော်မူလိုပြန်၍။ ။ကာဒါယီကပ္ပာသိကောသေယျ။အစရှိသောဂါထာဖြင့်။တောင့်တမြွက်ဆိုတော်မူ၏။

အဓိပ္ပါယ်ကား။ ငါယခုဝတ်ဆင်အပ်သော အင်္ဂျီရုလျား ဝတ်လဲတော် ပုဆိုး တို့သည်။ သိမ်မွေ့ နူးညံ့ စွာသော ဝါချည်

ဖြင့် ရက်အပ် သည့် ဖြစ်၍ လည်း ကောင်း။ သိမ်မွေ့ နူးညံ့ စွာ သောပိုးချည်။ သိမ်မွေ့ နူးညံ့စွာ ခေါမ မည်သော ချည်တို့ဖြင့်။ အထူးအဆန်း ရက်အပ်သည့်ဖြစ်၍လည်းကောင်း။ ကောဒုမ္ဗ ရာဇ်တိုင်း၌ဖြစ်သော ပုဆိုးတို့သည်။ အလွန်နူးညံ့သည် ဖြစ်၍ လည်း ကောင်း။ စိတ်၏ နှစ်သက် ခြင်းကို ဆောင် ကုန်၏။ ထို သိမ်မွေ့ နူးညံ့ တင့်တယ် စွာသော ပုဆိုး တို့ကို စွန့်ပစ် ၍။ အဘယ် အခါမှ။ လျှော်တေ သင်္ကန်း သမန်း မြက် သင်္ကန်း သစ် နက်ရေ သင်္ကန်း ရုန့်ကြမ်း သော အဝတ် တို့ကို ဝတ်၍။ လွတ် လွတ် နေရပါ အံ့နည်းဟု တောင့်တ တော် မူပြီး လျှင်။ ရေကန် တော်ကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကာဒါဟံပေါက္ခရဏီ ရမ္မာ။ အစရှိသောဂါထာဖြင့်။ မြွက်ဟာချီးမွမ်းတော်မူ၏။

အဓိပ္ပာယ်ကား။ ငါ ထွက် စံ တော် မူရာ ဖြစ်သော မင်္ဂလာ ရေကန် တော်သည်။ ဟင်းရမ့် ခတောက် မျောက်လှေကား တို့ ဖြင့်လည်းကောင်း။ ဥပ္ပလမျိုးဖြစ်သော ကြာညို ကြာဖြူ ကြာနီ။ ပုဏ္ဍရိကမျိုး ဖြစ်သော ကြာတံဆိပ်။ ပဒုမမျိုး ဖြစ်သော ကြာ ခေါင်း လောင်း။ ဤ ကြာ မျိုး ငါး ပါး ဖြင့် လည်း ကောင်း ဖုံး လွှမ်းလျက်။ ဝမ်းဘဲဟင်္သာစက္ကဝက်စသောရေကျေးရေငှက်။ လည့်ရှက် မြူးပျံ။ မောင်နှံ ဖိုမတို့ ရွှင်ပျော် ကစားရာ ဖြစ်၍ အ လွန် ရှုချင်ဘွယ် ရှိ၏။ ထိုရေကန်တော်ကို စွန့်ပစ်၍။ အဘယ် အခါမှ ရဟန်းပြုနိုင် ပါအံ့နည်းဟု တောင့်တတော် မူပြီးလျှင်။ ဆင်တော် မြင်းတော် ရထား တော်တို့ကိုချီးမွမ်း၍။ ရဟန်းအ ဖြစ်ကိုတောင့်တပြန်ခြင်းငှာ။ ။ကာဒါဟံဟတ္ထိဂုမ္ဗေစ။ အစ ရှိသောနှစ်ဆယ်နှစ်ဂါထာဖြင့်။ ချီးမွမ်းတောင့်တတော်မူ၏။

အဓိပ္ပာယ်ကား။ မာတင် အမျိုး ဖြစ် ကုန် သော ငါ၏ ဆင် တော် အပေါင်း တို့သည်။ နှာမောင်း တို့မှ အမြီး တိုင်အောင်။ ခြေထူးခံမှ မင်းစံရာကျောက်ကုန်း တိုင်အောင်။ အလုံးစုံသော ကိုယ်အရပ်တို့၌။ အထူးထူး အပြားပြား ဆန်းကြယ်စွာ တန် ဆာ ဆင်လျက်။ ရွှေကြိုး ဖြင့် ဖွဲ့သိုင်း အပ်သည့် ဖြစ်၍ လည်း

ကောင်း။ ဦးကင်း၌ လွှမ်းဆင်အပ်သော ရွှေကွန်ရက်အရောင်
ဖြင့် လည်းကောင်း။ ထုံမ ချွန်းတောင်း လက်နက် စွဲကိုင်လျက်
တက်စီး အပ်သော ဆင်စီး သူရဲတို့၏ အစီးအနင်း လိမ္မာ ခြင်း
ဖြင့်လည်းကောင်း။ အလွန် တင့်တယ်ကုန်၏။ ဇာတိအားဖြင့်။
ပြုရာသည် မပြုရာသည်ကို မသင်မပြဘဲသိတတ်သော အာဇာ
နည်မျိုး သိန္ဓောမျိုး ဖြစ်ကုန်သော ငါ၏ မြင်းတော် အပေါင်းတို့
သည်လည်း။ ရတနာအတိပြီးသော ဦးခက်ဇက်သိုင်း။ အဆိုင်း
အဝွ။ ကြိုးကယ့်သန်း။တင်ရန်းခါးတောင်တို့ဖြင့်တန်ဆာဆင်
အပ်လျက်။ ရတနာ လှင်တံ လေး လက် နက် စွဲကိုင် ကုန်သော
မြင်းစီးသူရဲတို့၏ အစီးအနင်း လိမ္မာခြင်းတို့ဖြင့်လည်းကောင်း။
မြင်းတို့၏ လျင်ခြင်းအားနှင့်ပြည့်စုံခြင်းဖြင့်လည်းကောင်း။ အ
လွန် ရှုချင်ဖွယ်ရှိကုန်၏။ ဆန်းကြယ်စွာ စီရင်အပ် ကုန်သော
ငါ ၏ ရထား တော် အပေါင်း တို့ သည်။ လက်တင် စွယ်ရန်း။
ခါး ပန်း ဝန်း လည် တို့ ၌ ရံကာ အပ် သော ကျား ရေ သစ် ရေ
တို့ဖြင့် လည်း ကောင်း။ ရထား ဦး ရထား မြီး တို့၌ စိုက်လွှာ
အပ်သော အလံရွှေရွက်တို့ဖြင့်လည်းကောင်း။ နီစွာသော ကမ္ဗ
လာ ခါးစည်း နှင့် တကွ မိန်ညိုချပ် ကာ ဝတ် ကုန်လျက်။ လေး
လက်နက် စွဲကိုင် ကုန်သော ရထားစီး သူရဲတို့၏ အစီး အနင်း
လိမ္မာခြင်း ဖြင့်လည်းကောင်း။ အလုံး စုံသော တန်ဆာ တို့ဖြင့်
တန်ဆာ ဆင်အပ် ကုန်သည်ဖြစ်၍။ အလွန် တင့်တယ် ကုန်၏။
ထို ရထား တို့သည်။ အချို့ကား ငွေစင် ဖြင့် ပြီး ကုန် ၏။ အချို့
ကား ရွှေစင်ဖြင့် ပြီးကုန်၏။ အချို့ကား မျက်ကိုးပါး တို့ဖြင့် စီ
ချယ် အပ်ကုန်၏။ ထို ရွှေ ငွေ မျက်မျိုး တို့ဖြင့် ဆန်းကြယ် ကုန်
သော ရထား တို့သည်။ မြင်း ကသော ရထား။ ကုလား အုပ်
က သော ရထား။ ဥသဘ က သော ရထား။ ဆိတ် မြန်မာက
သောရထား။ ဆိတ်ကုလားကသောရထား။ သမင်ကသောရ
ထား။ စိုင် ကသော ရထား အားဖြင့် များသော အပြား ရှိကုန်
၏။ ထိုရထားတို့ကိုစွန့်ပစ်၍။ အဘယ်အခါမှ ငါရဟန်းပြုနိုင်

ပါဒ္ဓံနည်းဟု တောင့်တတော် မူပြီးလျှင်။ ဆင်စီးသူရဲ။ မြင်းစီးသူရဲ။ လေးသည်တော်တို့ကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကဒါပဲ ဟံပဟတ္ထာရုဋ္ဌေစ။ အစရှိသော သုံး ဂါထာဖြင့် ချီးမွမ်းတော် မူပြန်၏။

အဓိပ္ပာယ်ကား။ ငါ၏ဆင်စီးသူရဲတို့သည်။ မိန်ညိုချပ်ကာ တန်ဆာ အပေါင်း ဝတ် ဆင် ကုန် သဖြင့်။ လှံမ ချွန်း တောင်း လက်နက်စွဲကုန်လျက်။ ရဲရင့်ခြင်းနှင့်ပြည့်ရုံ့စွာ တင့်တယ်ကုန်၏။ ငါ၏ မြင်းစီးသူရဲတို့သည်လည်း။ ခါးစည်းဝတ်လုံစသော တန်ဆာ တို့ဖြင့် တန်ဆာ ဆင်ကုန် သဖြင့်။ ရွှေကြိမ်လုံး။ လေး လက်နက်စွဲ ကုန်လျက်။ ရဲရင့်ခြင်းနှင့် ပြည့်ရုံ့စွာ တင့်တယ်ကုန်၏။ ငါ၏ လေးသည်တော်တို့ သည်လည်း။ မိန်ညိုချပ်ကာဝတ် ဆင်ကုန်သဖြင့်။ မြားတောင့်လွယ်ကာ ရွှေလေး လက်စွဲလျက်။ ရဲရင့်ခြင်းနှင့်ပြည့်ရုံ့စွာတင့်တယ်ကုန်၏။ ထိုဆင်စီးသူရဲ။မြင်းစီးသူရဲ။ လေးသည်သူရဲတို့ကိုစွန့်ပစ်၍။ အဘယ်အခါမှလွတ် လွတ် ရဟန်း ပြုရ ပါဒ္ဓံ နည်းဟု တောင့် တ တော် မူပြီး လျှင်။ မင်းသားလုလင်ပျို။ပုဏ္ဏားလုလင်ပျိုတို့ကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကဒါဟံရာဇပုတ္တေစ။ အစရှိသောဂါထာ။ ။ကဒါပဟံအရိယဂဏော။ အစရှိသောဂါထာ။ ဤနှစ်ဂါထာ တို့ဖြင့်။ ချီးမွမ်းတော်မူပြန်၏။

အဓိပ္ပာယ်ကား။ ငါ၏ ညီတော် သားတော် တူတော် မြေးတော် ဖြစ်ကုန်သော အသောင်း မကသော မင်းသား အပေါင်းတို့သည်။ ရွှေချည် ပိုးချည် ခေါမချည် တို့ဖြင့်။ ဆန်းကြယ် စွာ ရက်အပ်သော ပုဆိုးဝတ်လုံတို့ကို ဝတ်ဆင်ကုန်၍။ ရွှေလက်ကောက် ရွှေနားတောင်းအစုံဆင်ကုန်လျက်။ နတ်လုလင်ကဲ့သို့အလွန်တင့်တယ်ကုန်၏။ ငါ၏ပုရောဟိတ် ပုဏ္ဏားတော်အပေါင်းတို့သည်လည်း။ အကျော် စန္ဒကူး အမွှေး အထုံ တို့ဖြင့်။ လိမ်းသပ်ပြင်ဆင်။ တန်ဆာ ဆင်လည်း။ သန့်စင် နူထွတ်။ ဖြူဆွတ်သော ကာသိ က ရာဇ် တိုင်း ဖြစ် ပုဆိုး တို့ ကို ဝတ် ဆင် ကုန်

လျက် အလွန်တင့်တယ်ကုန်၏။ ထိုမင်းသား လုပ်ပျို။ ပုဏ္ဏား လုပ်ပျိုတို့ကိုပွန့်ပစ်၍။ အဘယ်အခါမှ ငါလွတ်လွတ်ရဟန်းပြု ရပါအံ့နည်းဟုတောင့်တတော်မူ၏။

ဤ အရာ တွင်။ တပါး သော ကာလ၌ ပုဏ္ဏား တို့ကို မဂဓ ဘာသာ အားဖြင့် ဗြဟ္မဏာ ဟု ခေါ်ဝေါ် ကုန်၏။ ထို ကာလ ၌ ကား။ ဘုရား လောင်း မင်းကြီး သည်။ အမျိုး တို့၏ ကျင့်ရိုး ရှိတိုင်း။ ကောင်းမြတ်သော အကျင့်ကို ကျင့်စေ ခြင်းငှာ ဆုံးမ တော်မူ ၍ ခြင်း ရှိ စေဝင့်ရှောက်တော် မူသည်ဖြစ်၍ လည်းကောင်း။ ကာလအား လျော်စွာ လည်းကောင်း။ ပုဏ္ဏားတို့သည် ကောင်းမြတ် ဖြူစင် သော အကျင့်တို့ကို ကျင့်ကြ ကုန်သောကြောင့်။ ။အရိယ ဂဏောတိ ဗြဟ္မဏာ ဂဏော။ တေကိရ တဒါ အရိယာ စာရာ အ ဟေသုံ။ ။ဟူသောအဋ္ဌကထာနှင့်အညီ၊ ထိုမဟာဇနကမင်း ကြီး မင်းပြုတော်မူသောကာလ၌။ ပုဏ္ဏားကို အရိယာဟု လူတို့ ခေါ်ဝေါ်စကုန်၏။ ။ဤကားစကားချပ်တည်း။

မင်းညီ မင်းသား ပုဏ္ဏားတို့ကို ချီးမွမ်း၍။ ရဟန်း ပြုခွင့်ကို တောင့်တပြီးလျှင်။ တဖန် မိဖုရား ခုနစ်ရာ တို့ကို ချီးမွမ်း၍။ ရ ဟန်းအဖြစ်ကို တောင့်တ ပြန်ခြင်းငှာ။ ။ကဒါဟံသတ္တ သ တာဘရိယာ။ အစရှိသောသုံးဂါထာဖြင့်ကြံတော်မူပြန်၏။

အဓိပ္ပါယ်ကား။ ဤငါ၏နန်းတော်၌။ အသောင်းမက ကုန် သောမိဖုရားကြီး မိဖုရားငယ် ကိုယ်လုပ်မောင်းမ အပေါင်းတို့ တွင်။ သိဝလိဒေဝီ ကဲ့သို့ တူမျှသော သဘော ရှိလျက်။ ငါ၏ နှ လုံးကို ရွှင်ပြုံး နှစ်သက် စေတတ်သော မိဖုရား မြတ်တို့ ကား။ ခုနစ်ရာ အရေအတွက်ရှိကုန်၏။ ထိုငါ၏ မိဖုရားကြီးနှင့်တကွ ခုနစ်ရာ ကုန်သော မိဖုရားငယ်တို့သည်။ အဆင်းအရွယ် အား ဖြင့်လည်း မယုတ်မလျော့။ ပြေပြစ်ပျောင်းသောမူလ ဆွေးနွေး။ သေ ချွယ်ညက်ကျေးသောအသွင်အပြင်။ ပြုံးရွှင်သောမျက်နှာ။ သာ ယာသော စကားလည်းရှိကုန်၏။ နန်းသုံးနန်းဝတ် နန်းတန်ဆာ ဖြင့် သုံးဆောင် ဝတ်ဆင် အပ်သည် ဖြစ်၍ လည်း။ နတ် သွီး အ

ဆင်းကဲ့သို့ တင့်တယ်ခြင်းနှင့်လည်း ပြည့်စုံကုန်၏။ စကားရိပ်မျက်နှာထားကို ကြားမြင်ကာမျှနှင့်။ လင်၏စိတ်အလိုကိုလည်း သိတတ်၏။ တရံတခါ မလျော်မသင့်။ အခွင့်မဆိုင်ဘဲ။ ငါ ဆိုမြည်ပြုသော်လည်း။ နှလုံးထားစိတ်ခံ။ မာန်မူခြင်းမရှိ။ ရှိသေခန့်ညားခြင်း ဖြင့်။ ဝပ်တွား ကိုးကွယ်။ ချစ်ဘွယ် သော စကားကိုလည်းဆိုတတ်၏။ ခပ်သိမ်းရုံသောအမှုတို့၌ လင်၏အလိုသို့သာလျှင် လိုက်၍ ကျင့်တတ် ကုန်၏။ ထိုသို့သော ဂုဏ်တို့ဖြင့်။ မခွါ နိုင်အောင်သော ငါ၏ မိဖုရား တို့ကို။ အဘယ် အခါမှ ပစ်ခွါ နိုင်ပါအံ့နည်းဟု တောင့်တတော် မူပြီးလျှင်။ စားတော်ခေါ် မြဲဖြစ်သောရွှေလင်ပန်းကိုချီးမွမ်းတော်မူလိုပြန်၍။ ။ကဒါပာံသတပလံကာံသံ။ အစရှိသောဂါထာဖြင့်ကြံတော်မူ၏။

အဓိပ္ပာယ်ကား။ ငါ ခဲ ဘွယ် ဘော ဇဉ် တို့ကို စားတော်ခေါ်ရာ ဖြစ်သော ရွှေလင်ပန်းသည်။ ရွှေစင်အချိန် ပိုလ် တရာရှိ၏။ အနှားရေးတရာတို့ဖြင့် ဆန်းကြယ်စွာ လုပ်အပ်သည်ဖြစ်၍လည်း အလွန် တင့် တယ် ၏။ ထို ရွှေလင်ပန်းကို စွန့်ပစ်၍။ အဘယ် အ ခါ မှ ရ ဟန်း ပြု နိုင် ပါ အံ့ နည်း ဟု တောင့် တ တော်မူ၏။

ဤအရာ၌ ပိုလ်ဟူသည် ကား။ ငါးကျပ်ဖြင့် ဖွဲ့သော ပိုလ်လည်းရှိသည်။ နှစ်ဆယ် ငါးကျပ်ဖြင့် ဖွဲ့သော ပိုလ်။ ငါးဆယ်ဖြင့် ဖွဲ့သောပိုလ်။ တရာဖြင့် ဖွဲ့သောပိုလ် ဟူ၍ လေးသွယ် လေးမျိုးပင် ရှိသည်တွင်။ အသက် တသောင်း တမ်းကို ထောက်၍။ နှစ်ဆယ်ငါးကျပ်ဖြင့်ဖွဲ့သောပိုလ်လျှင်သင့်မည်ထင်၏။ ။ဤကားစကားချပ်တည်း။

ဤသို့ တောင့်တပြီးလျှင်။ ထိုဆင်တော် မြင်းတော်စသော အခြွေအရံ ပရိသတ်တို့သည်။ နောက်တော်သို့မလိုက် နေခြင်းကိုတောင့်တတော်မူပြန်၍။ ။ကဒါသုမံဟာတ္တိဂုမ္ဗာ။ အစရှိသောဂါထာသုံးဆယ်တို့ဖြင့်တောင့်တတော်မူ၏။

အဓိပ္ပာယ်ကား။ ထိုဆိုခဲ့ပြီးသော တန်ဆာတို့ဖြင့် တန်ဆာ

ဆင်အပ်လျက်။ ငါထွက်စံတော်မူတိုင်း။ ဝန်းရံကာလိုက်ကုန်သော ငါ၏ဆင်တော်မြင်းတော်။ ရွှေငွေ မျက်ကိုးပါးတို့ဖြင့် ပြီးသော မြင်းရထား။ ကုလားအုပ်ရထား။ ဥသဘရထား။ ဆိတ်မြန်မာ ရထား။ ဆိတ်ကုလား ရထား။ သမင် ကသော ရထား။ ဗိုင်ကသောရထား။ ဆင်စီးသူရဲ။ မြင်းစီးသူရဲ။ ရထားစီးသူရဲ။ လေးသည်ကျော်သူရဲ။နတ်လုလင်ကဲ့သို့သော မင်းသားမင်းမျိုးအပေါင်း။ ဆရာ ပုရောဟိတ်ဖြစ်ကုန်သော ပုဏ္ဏားအရိယာ အပေါင်း။ မိဖုရား ရနံ့စံရာ အပေါင်း။ ဤ ပရိသတ် အပေါင်း တို့သည်။ ငါ သွားရာ နောက် တော် သို့ အဘယ် အခါမှ မလိုက်ဘဲနေပါ အံ့နည်းဟု တောင့်တတော် မူပြီးလျှင်။ ရဟန်း အသွင်ကိုတောင့်တတော်မူလိုပြန်၍။ ။ကဒါဟံပတ္တံဂဟေတွာ။အစရှိသောရနံ့ဂါထာဖြင့်တောင့်တတော်မူ၏။

အဓိပ္ပာယ် ကား။ ငါ သည် ဦး ပြည်း ရိတ် သဖြင့် ဖန် ရည်စွန်းသောဒုကုဋ်သင်္ကန်းကိုရုံ၍သပိတ်လက်စွဲလျက်။ အဘယ်အခါမှ ဆွမ်းခံ ဆွမ်းစား သွားရ ပါ အံ့ နည်း။ ခရီးလမ်း တို့၌သူတို့အသုံးမဝင်၍။ စွန့်ပစ်လေပြီးသောအဝတ်တို့ကို ပံသုကူကောက်ယူသဖြင့်။ သင်္ကန်းဒုကုဋ် ချုပ်ဆိုး၍။ အဘယ်အခါမှဝတ်ရုံ ရပါ အံ့နည်း။ ရက်လည် နေ့စပ် မပြတ် ရွာသော မိုးသည်းကြီးထဲ၌။ သင်္ကန်းစွတ်စို။ အဘယ်အခါမှ ဆွမ်းခံရပါအံ့နည်း။ ငါသည်ထိုထိုသို့သောအရပ်တို့သို့သွား၍။ တတောမှလျှင်။တတောဝင်လျက်။ သစ်တပင်နား။ ဝါးတရုံရိပ်။ စိတ်ကြောင့်ကြမဲ့။ငဲ့ကွက်လွတ်ရှင်း။ တကိုယ်ချင်းဖြင့်။ သီတင်းပြုဆွစွာသော ဗြဟ္မ စရိုက်ကို။ အလိုက် အဘယ်အခါမှ ဖြည့်ဆောင်ရ ပါအံ့နည်း။ငါသည်ဟိမဝန္တာတော၌ ။တကုန်းပြောင်းတက်။တကုန်းသက်၍။ ကြောက်မက်ဘွယ်ရန်။ ဘေးဒဏ်မမြော်။ အဘော်မပါဘဲ။ အဘယ်အခါမှသွားရပါအံ့နည်း။ ထိမ္ဗာတတ်ကျွမ်းလှစွာသော စောင်းဆွားသည်။ ကောင်းလှ စွာသော စောင်း၌။ ခုနစ်ချောင်းသော ညို့ကို။ နှလုံးမွေ့လျော် ဘွယ် အညီ အညွတ်

ညှို သကဲ့သို့။ ယခုငါ၌ကြောင့်ကြဘွယ်။ အသွယ်သွယ် နှောင့်ရှက်၍။ စိတ်စက် မသာ မအီ။ မညီ မညွတ် ရှိသော နှလုံး ကို။ ဖြုန်းဖြုန်းဖြတ်၍။ ညီညွတ်ဖြောင့်မတ်စွာ။ အဘယ်အခါမှ တရည်တည်းကျနိုင်ပါအံ့နည်း။ ဘိနပ်ခြေနင်းအလို့ငှာ။ သားရေနယ် ဘွားသည်။ ထက်လှ စွာသော ဆောက်ဝန်းဖြင့် သားရေနယ်ကို ညီညွတ်စွာ ပိုင်းပိုင်း ဖြတ်လို့ သကဲ့သို့။ လူနတ် တို့၏ သဏ္ဌာန်၌။ အတန်တန် ရစ်မြွေး ဖွဲ့ရှက်ကာနေသော ကာမသံယောဇဉ်ကို။ လွင့်စင် ကင်းပြောက်အောင်။ ဉာဏ်ဆောက်ဝန်းဖြင့်။ ပယ်တွန်းပိုင်းဖြတ်၍။ မြတ်သောနေရာ၌။ အဘယ်အခါမှငါနေရပါအံ့နည်းဟု တောင့်တတော်မူ၏။

ဤသို့ဘုရားလောင်းသည်။ နေက္ခမပိတက်ဖြင့် အကြံတော်အားကြီးခြင်းကြောင့်။ ငြိစရာတွယ်စရာ။ ဖွဲ့ရှာတတ်သောတဏှာကြိုးစကို။ တဒင်္ဂပဟာန်ဖြင့်။ တဖန်တထပ် မရစ်စေခြင်းငှာ ဟန့်တားဆီးဆို့တော် မူလျက်။ အထက်က ရစ်ဖွဲ့ဟောင်းဖြစ်သော ဥပါဒါန် ကိုလည်း။ ဉာဏ်တော် တဒင်္ဂဖြင့်။ လေးလကျော်ပတ်လုံး။ တထုံးဖြတ်ပိုင်း။ တလှိုင်းပယ်ပစ်။ တရစ်ချတ်ထွင်။ တပင်ချိုးပဲ့၍။ အဖွဲ့အနှောင်မှ လွတ်သော နှလုံးတော်ရှိပြီးသော်။ ကျော့ညွတ်ကွင်းမှလွတ်ပြီးသောငှက်သည်။ ဘေးမဲ့ရာသို့ရွှေ့ရှု သကဲ့သို့။ ဟိမဝန္တာသို့သာ ရွှေ့ရှုသောစိတ်ရှိတော်မူသည်ဖြစ်၍။ အလုပ်အကျွေး ဖြစ်သော စားတော်ကဲကို ခေါ်တော်မူပြီးလျှင်။ အချင်း။ ယခု သမထာ ပရိက္ခရာ ရောင်းသည့်ဈေးတန်းသို့သင်သွားချေ။ အိမ်ရှေ့မင်းအမိမှစ၍ မည်သူကိုမျှ မသိစေနှင့်။ ထိုပရိက္ခရာ တန်းမှ။ သင်္ကန်း သုံးထည်နှင့် မြေသပိတ် တလုံးကိုဝယ်၍။ ယခု အလျင်အမြန် ပြန်ခဲ့ဟု စေတော်မူလိုက်၏။ စား တော် ကဲ လည်း။ မင်းကြီး အမိန့် ရှိတိုင်း။ တယောက် သူ ကို မျှ မသိ စေ ရဘဲ။ ပရိက္ခရာ တန်းသို့ သွား ၍။ သင်္ကန်း သပိတ် တို့ကို ဝယ်ခဲ့ပြီးလျှင်။ မင်းကြီးအား ဆက်၏။ ဘုရားလောင်းမင်းကြီးသည်။ သင်္ကန်းသပိတ်ရောက်သောအ

ခါ။ ဆတ္တာသည်ကိုခေါ်တော်မူ၍။ ဆံမုတ်ဆိတ်တို့ကိုရိတ်စေ ပြီးလျှင်။ ဆတ္တာ သည့်အား ကျေးစားရွာ တရွာဆုပေးလျက်။ ဤအကြောင်းကို အသူတယောက် အားမျှ သင်မပြော လေနှင့် ဟု နှုတ်ပိတ်၍ လွှတ်တော် မူလိုက် ပြီး သော်။ တ ထည် သော သင်္ကန်းကို သင်းပိုင်ဝတ်တော် မူလျက်။ တထည်ကို တဘက် လက် က တော့ စံ ပယ် တင် ရုံ တော် မူ ပြီး မှ။ တ ထည် သော သင်္ကန်းကို လက်ဝဲပခုံးပေါ်၌ ဒုကုဋ် တင်တော်မူ၍။ အိတ်ဖြင့် သွတ်အပ်ပြီးသော မြေသပိတ်ကို လက်ျာပခုံး၌ လွယ်တော်မူ လျက်။ ဝါးရင်းတောင်ဝေးကို ကိုင်စွဲတော် မူပြီးလျှင်။ ထိုအ ထက် ဘုံဆင့် နန်းရင် ပြင်၌ ပင်။ အရှင် ပစ္စေက ဗုဒ္ဓါ ၏ တင့် တယ် ခြင်းနှင့် တူ သော တင့်တယ် ခြင်း ဖြင့်။ နှစ် ခေါက် သုံး ခေါက် ထိုမှ ဤမှ စင်္ကြံ ကြွတော်မူ၍။ ထိုနေ့ကား ထွက်သွားရာ အခွင့် မရသဖြင့်။ နန်းတော်တွင်ပင် တညဉ့် တည်းနေ တော် မူရ၏။ နံနက် မိုဃ်းသောက် ရောက်လတ်၍။ နေ အရုဏ် တက် လတ်သောအခါ၌။ နန်းတော် အထက်ဘုံဆင့်မှ ဆင်းသက်၍။ တောသို့ကြွတော်မူအံ့ဟုပြင်တော်မူလေ၏။

ထိုအခါ။ အိမ်ရှေ့မင်း မယ်တော်သည်။ မင်းကြီး၏နှုတ်အ ကြံကိုအတပ်သော်လည်းမသိ။ မရိပ်မတွေးမိသော်လည်းမဆို ရ။ စိတ်ချ၍မနေနိုင်သဖြင့်။ မင်းကြီးမြတ်နိုးတော်မူသော မိဖု ရားငယ် ခုနစ်ရာတို့ကိုခေါ်ပြီးလျှင်။ အမယ်တို့။ သင်တို့ငါတို့ သခင်ကို မမြင်မဖူးရသည် ယခုလေးလကျော်ရှိပြီ။ ရာဇပလ္လင် ဥကင်ထီးနန်းကို သိမ်းမြန်းတော်မူသည်မှစ၍။ အနှစ် ခြောက် ထောင်ကျော် ခုနစ်ထောင်ခန့် ရှိပြီ။ အဘယ်ကာလတွင်မှ။ ငါ နှင့်ခွဲ၍ အခြားပျော်တော်မူသည်မရှိဘူးဘဲလျက်။ ယခုလေးလ ကျော်။ ကိုယ်တော် တပါး တည်းသာ ပျော်မွေ့ တော် မူသည် မှာ။ ဖောက်လွဲသော အကြံ ရှိတော် မူသည် ဖြစ်ရာ၏။ ယခုအ ဖူး အမြင် ပြည့်ကြီး သခင် ရှိရာသို့ သွား ကြ ကုန် အံ့။ သင် တို့ သည် မင်းကြီးမြတ်နိုးတော်မူသည်လည်းဖြစ်ကြ၏။ အရွယ်အ

ဆင်းလည်း ရှိကြ၏။ ငါး တခုကို ကွန် ကြီး ကြီးဖြင့် မပြေး မထွက်နိုင်အောင် ဖွဲ့ရစ်ပိုက်ခြုံသကဲ့သို့။ မင်းကြီး စိတ်တော်ကို ပြင်သို့မထွက်ရအောင်။ ဖွဲ့ရစ်ပိုက်ခြုံကြရမည်။ သင်တို့အား။ ထိုက်ရာ နံ့သာအမွှေး အထုံ အဝတ်တန်ဆာကိုတို့ဝတ်ဆင်ပြီး လိမ်း၍။ ငါနှင့်လိုက်ခဲ့ကြဟုဆိုလျက်။ ပြင်ဆင်ဝတ်စားစေပြီးသော်။ အိမ်ရှေ့မင်း မယ်တော် သည်။ မိဖုရားငယ် ခုနစ်ရာ ခြံရံလျက်။ မင်းကြီးရှိရာ အထက်ဘုံဆင့်သို့တက်လေ၏။ ဘုရားလောင်း မင်းကြီးလည်း။ ဟိမ ဝန္တာသို့ သွားအံ့ ဟု နန်းတော် အထက် ဘုံဆင့်မှ ဆင်း သက် မည် အပြုတွင်။ ရှေးရှု တက် လာလတ်သော မိဖုရားခုနစ်ရာတို့သည်။ ရဟန်းအသွင်ဖြင့်။ ဆင်းသက် အံ့ဟု ပြုသော ဘုရား လောင်း ကို ရှောင် တခင် မြင်လေသော်။ အသွင်ခြားသည်ဖြစ်၍။ မင်းကြီးဟု တယောက်သော မိဖုရားမျှ အမှတ် မရှိဘဲ။ အရှင် ပစ္စေကဗုဒ္ဓါ အရှင်မြတ်သည်။ ငါတို့အရှင် မင်းကြီးအား အဆုံးအမပေး၍။ ယခု ဆင်းသက်တော် မူလာသည် ထင်၏ဟု အမှတ်ရှိကြ သဖြင့်။ လမ်းလွှဲကာ သင့်ရာက ထိုင်လျက် ရှိခိုး၍ နေကြကုန်၏။ ဘုရားလောင်းမင်းကြီးသည်လည်း။ ရဟန်းအသွင်ဖြင့်။ ငြိမ်သက်တည်ကြည်စွာ နန်းတော်အထက်ဘုံဆင့်မှဆင်းသက်တော်မူလေ၏။

မိဖုရား ခုနစ်ရာတို့သည်လည်း။ အထက်ဘုံဆင့်သို့တက်၍ ဘုရားလောင်းကို ကြည့်ရှုကြလေသော်။ စက်တော်မူရာရွှေသလွန်ပေါ်၌။ ဝတ်ဆင်တော် မူသော ဝတ်လဲတော်တန်ဆာ အဆောင်အရွက်တို့ကို ရပုံလျက်။ ထိုဝတ်လဲတော်၏ အပေါ်၌။ ခွေလျက် တင်ထားခဲ့သော ပိတုန်းတောင် အဆင်းကဲ့သို့သော ဆံတော်တို့ကိုမြင်ကြသတ်လျှင်။ ရဟန်းအသွင်ဖြင့်။ ယခုတွင် ဆင်းသက် တော်မူသော သခင်ကို။ ငါတို့ကား အရှင် ပစ္စေကဗုဒ္ဓါဟု အမှတ်များဘိ၏။ အရှင် ပစ္စေကဗုဒ္ဓါမဟုတ်။ ငါတို့အရှင်ဖြစ်ခဲ့၏တကား။ ယခုသွား၍ တောင်းပန်ကြကုန်အံ့ဟု။ အထက် ပြာသာဒ် ဘုံဆင့်မှ ဆင်း သက် ခဲ့ကြ ပြီးသော်။ ဘု ရား

လောင်း အရှေ့စမုတ်ဝသို့ ရောက်တော်မူစည် မှိုကြလေ၏။ ထို မှိုကြသော အခါ။ ခုနစ်ရာ သော မိဖုရား တို့သည်။ ဆံပင် ဖြန့် ကြဲလျက်။ လက်အစုံဖြင့်။ ရင်အုံကိုခတ်တီး၍။ အရှင်မင်းကြီး။ ကျွန်မတို့နှလုံး။ ဆုံးရှုံးကြကွဲအောင်။ အဘယ်ကြောင့်ဤသို့ပြု ရသနည်းဟု။ သနားစဘွယ်။ အသွယ်သွယ်ငိုကြွေးလျက်။ ဘု ရားလောင်းနောက်သို့ အစည်တစိုက် လိုက်ကြကုန်၏။ မှူးမတ် ပြည်သူလူအပေါင်းတို့သည်လည်း။ ငိုဗိလာပြည်အလုံးချောက် ချားလျက်။ ငါတို့ အရှင်မင်းကြီး ရဟန်းပြုတော်မူခဲ့သော်။ ငါ တို့အရှင်နှင့် ဘုန်းအာဏာ ပညာသိတင်း တူမျှသောမင်းကိုအ ဘယ်မှာ ငါတို့ရနိုင် ပါအံ့ နည်းဟု ငိုကြွေး လျက်။ မင်း ကြီး နောက်တော်သို့ အစည်တစိုက် လိုက်ကြကုန်၏။ ထိုအခါ၌။ မိ ဖုရား ခုနစ်ရာတို့၏ သနားစဘွယ် ငိုကြွေးလျက် နောက်တော် သို့လိုက်ကြောင်း။ ထိုသို့လိုက်သည်ကိုပင် ငဲ့ကွက်ခြင်း မရှိမူ ၍။ လွတ်လွတ် ထွက်ကြွတော် မူကြောင်းကို ထင်ရှားပြတော် မူလိုသောမြတ်စွာဘုရားသည်။ ။တာစသတ္တာသတာဘရိ ယာ။ အစရှိသောခြောက်ဂါထာဖြင့်ဟောတော်မူ၏။

အဓိပ္ပာယ်ကား။ ရဟန်းတို့။ မဟာဇနကမင်း ငါဖြစ်တော် မူသောအခါ။ ရဟန်းပြု၍ နန်းတော်မှ ဟိမဝန္တာသို့ ထွက်လတ် သော်။ ခပ်သိမ်းသော တန်ဆာတို့ဖြင့် တန်ဆာ ဆင်အပ် ကုန် သော ထိုမိဖုရား ခုနစ်ရာတို့သည်။ မောင်းနှစ်ဘက်တို့ကို ထိပ် ထက်၌ချီလျက်။ အရှင်မင်းကြီး။ အဘယ်အပြစ်ရှိသဖြင့်။ ကျွန်မ တို့ကိုစွန့်ပစ်၍ ကြွတော်မူရက်ဘိသနည်းဟု ငိုကြွေးကာလိုက် ကြကုန်၏။ ထိုအခါ။ လုံးရပ်သဏ္ဍာန်။ ကိုယ်ဟန်နုနယ်။ ငယ် သောခါးရှိကုန်သော မိဖုရား ခုနစ်ရာတို့သည်။ အရှင်မင်းကြီး။ ကျွန်မ တို့ကို စွန့်ပစ်တော် မူလို သော်လည်း။ အပြစ်ကို သိသိ သာသာ။ ထင်ရှားပြ၍ စွန့်ပစ်တော်မူကောင်းပါလျက်။ တခွန်း သော အမိန့်တော်မျှ မပြန်ခဲ့ဘဲ။ နှလုံးကွဲ၍သေလေအောင်။ အ ဘယ် ကြောင့် ကျွန်မ တို့ကို စွန့်ပစ် တော် မူ ရက် ဘိ သ နည်း

ဟု။ မျက်ရည်ယိုစက်။ ထိပ်ထက်လက်ချီ။ တိမ်းဘိတိမ်းပါး။ သနားစဘွယ်။ ကိုးကွယ်ရာမရ။ငိုကြွေး၍လိုက်ကြကုန်၏။ ထိုအခါ။ လင်၏အလိုသို့သာ လိုက်လျက်။ ချစ်ဘွယ်သောစကားကို ဆိုတတ် ကုန်သော မိဖုရား ချနစ်ရာ တို့ သည်။ အရှင် မင်းကြီး။ ကျွန်မတို့၏ အသည်းအဒှု။ လှိုက်ဆူပူပန်ခြင်းကို ကယ်တော် မမူပါပြီလော။ အဘယ် ကြောင့် ကျွန်မ တို့ကို ပွန့်ပစ်၍ တွေဘော်မူရက်ဘိသနည်းဟု။ လက်ဝဲလက်ျာ။ နောက်ပါထက်ကြပ်။ မရပ်မတည်။ ဝန်းလည် ညွှတ်ပျောင်း လျက်။ ဦးခေါင်းထက်လက်ချီ။ အလီလီသျှောက်ထားခြင်းဖြင့်။ သနားစဘွယ်ငိုကြွေး၍ လိုက်ကြကုန်၏။ ရဟန်းတို့။ ထိုမဟာဇနက မင်းကြီးသည်။ရဟန်းအဖြစ်သို့ရှေ့ရှုခြင်းဟုဆိုအပ်သောနိက္ခမပိတက်သျှင်။ မြန်စေထက်ကြပ်။ ကပ်၍နှိုးဆော်လေသောကြောင့်။ သိကြား စံဘက်ကဲ့သို့။ နှစ်သက်ဘွယ် အတူတူဖြစ်သော နန်းသူချနစ်ရာတို့၏ တဖျောင်ကျော့ကွင်း။ ချိတ်ငင်ခြင်းကို။ နှိပ်နင်းချိုးဖဲ့၍။ ငဲ့ကွက်ခြင်းမရှိသော သမာဓိဘိသိက်ကို ရှေးဦးစွာ ခံပြီးမှ။ ပိုလ်နှန်မှုန် တရာရှိသော ရွှေလင်ပန်းကို ပွန့်ပယ်လေ၍။ မြေသစိတ်လွှယ်။ စံပယ်တင် သက်နှန်း။ ရဟန်း အဖြစ် တည်း ဟူသောအဘိသိက်ကို။ နှစ်ကြိမ်မြောက် ခံယူနိုင်လေ၏ဟု ဟောတော်မူ၏။

သိဝလိဒေဝီ မိဖုရားကြီး မူကား။ မိမိအရွယ် ကြီးပြီ ဖြစ်၍။ အရွယ်ရှိမိဖုရားများကဲ့သို့။ လျှမ်းလျှမ်းတက်မှုမပြုဘဲ။ မိဖုရားငယ်ချနစ်ရာတို့ကိုသာ။ သင်တို့သည်။ မင်းကြီးစိတ်ကို။ ညိတ်၍ ပါအောင်။ များစွာ သနားဘွယ်ဖြင့် ဖြားယောင်းကြဟု နှိုးဆော်ကာ။ သိမ်မွေ့ နူးညံ့သော ရှုချေဖြင့်။ မင်းကြီးနောက်ကသာငိုကြွေးလျက်။ နန်းတော်သို့ ပြန်ပါမည် အကြောင်းကို အသာအယာတောင်းပန်၍ လိုက်၏။ ထိုသိဝလိဒေဝီ မိဖုရားကြီးသည်။ အသွယ်သွယ် အပြားပြား။ များစွာ အကြောင်း ရှာ၍ တောင်းပန် ပါသော်လည်း။ ဘုရားလောင်းကို စကားတုံ့ပြန်၍

ဆိုမိမ့်သောဌာမျှ မတတ်နိုင်ရှိလေလျှင်။ တရသော ဥပါယ်တ
မျည်ဖြင့်။ မင်းကြီးကိုနန်းတော်သို့ပြန်စေအံ့ဟုကြံပြီးသော်။စစ်
သူကြီးအမတ်ကိုခေါ်၍။အမေါင်စစ်သူကြီး။ယခုမင်းကြီးသွား
လတံ့လမ်း မနီး မဝေးမှာ အိမ်ဆိုး စရပ်ဆိုး ရှိသမျှတို့ကို မင်း
ကြီးမြင်သာအောင်။ ရှေ့ကဆီး၍မီးတိုက်ချေ။ မြက်ကောက်ရိုး
သက်ငယ်။ လောင်လွယ်သည်များကိုလည်း။ အခိုးဖြစ်အောင်
ရေဆွတ်၍ မီးပုံမှာထည့်။ အခိုးအလျှံ ပြင်းစွာထစေဟု ဆို၍
စေလိုက်၏။ စစ်သူကြီး သည် လျင်စွာ သွားနှင့်၍။ မိဖုရားဆို
တိုင်း။ အိမ်ဆိုး စရပ်ဆိုး တို့ကို ရပုံ၍ အခိုးအလျှံ ကြီးစွာ ထ
အောင် မီးတိုက်နှင့် လေ၏။ ထိုမီးအခိုးအလျှံ ထလတ်သောအ
ခါ။ သီဝလီဒေဝီမိဖုရားသည်။ ဘုရားလောင်း၏ နံပါးသို့တက်
၍။ရှေ့ဇာ့ရှုမြေရင်း၌ဆံပင်ဖြန့်ကြဲလျက်။ လက်အုပ်ချီကာတုပ်
ဝပ်ပြီးသော်။ ။ဘိသာအဂ္ဂိသမာဇာလာ။အစရှိသောနှစ်
ဂါထာခွဲဖြင့်လျှောက်၏။

အဓိပ္ပါယ်ကား။ အရှင်မင်းကြီး။ ယခုကိုယ်တော်မြို့ပြင်သို့
မျှမရောက်မှီကပင်။ ပြည်သားပြည်သူတို့သည်။ မင်းရေးမင်း
ဝတ်၌ ခန့်ညားခြင်းမရှိပြီ။ မိမိတို့မီးကိုမျှ လုံအောင် မထိန်းဘဲ။
မြောက် တံခါးနားက မီးထလဲ့ပြီ။ ကိုယ်တော် ရှုစမ်း ပါလော့။
ထိုမီးကို ကိုယ်တော်အုပ်ချုပ်၍ ငြိမ်းစေတော်မူပါမှ။ ထီးနန်း
စည်းစိမ် မပျက်မစီး ရှိပါမည်။ အကယ်၍ ကြည့်ရှုတော် မမူ
ချေလျှင်။ နန်းတော်၌ ရွှေတိုက်။ ငွေတိုက်။ ပုလဲ ကျောက် မျက်
ရွဲ။ ပတ္တမြားမျိုး။ ခရုသင်းကဲ့သို့ဖြူစင်စွာသောပုလဲ။ ဖြူစင်စွာ
သော မျက်မျိုး ထားရာ ရတနာ တိုက်။ အဘိုး များ စွာ ထိုက်
သော ဝတ်ကောင်း တန်ဆာကောင်း။ သစ်နက်ရေ။ စန္ဒကူးနှီ
ထားရာတန်ဆာတိုက်။ ဆင်စွယ်။ ကြေးနီ။ကြေးစင်။ ကြေးဝါ။
ခနောက်စိမ်း။ သလွဲစင်။ သံကောင်းထားရာ ကြေးတိုက်။ ထီး
နန်းအဆက်ဆက် မပျက်မစီးဘူးသော ဤအလုံးရုံစည်းစိမ်တို့
သည်။ အရှင် မင်းကြီး မျက်မှောက် တွင်ပင် ပျက်စီးမည် ဟု

သော်။ မပျက်စီးသေးသင့်တကား။ ယခုနန်းတော်သို့ဝင်၍၊စစ်သူကြီးမှူးမတ်တို့ကိုအာဏာခွဲတော်မူလျက်။ ဤကြောက်မက်ဘွယ် ထလတ်သောမီးကို ငြိမ်းစေတော်မူပါဦးလော။ နောက်မှ ရဟန်း ပြုတော် မူလိုလည်း ပြုရပါ၏။ ယခုသာ မကြည့် မရှု ထွက် သွားတော် မူချေလျှင်။ မဟာဇနက မင်းကြီး သည် မိမိ ပညာရှိသူ ဖြစ်လျက်။ မီးကို သတ်သော သူအား ရဟန်း မ ပြု ကောင်းဟု ထုံးစံ ရှိလေ ယောင် ကဲ့သို့။ ရှေ့တွင် လောင်လတ်သောမီးကိုမျှ မသတ်မငြိမ်းစေပါလေဟု။ ပြည်သူပြည်သားမှစ၍။ ကြားတိုင်းကြားတိုင်းသောသူတို့သည်လည်းအပြစ်တင်ဘွယ်ရှိခဲ့၏။ အရှင်မင်းကြီးအားလည်း။ ဘုန်းပညာရှိ စင်စစ်ဖြစ်သူမှန်လျက်။ မိမိရှေ့မျှောက်တွင် သူတပါးတို့ ဖျက်ဆီး ရလေ သဖြင့်။ ကြီး စွာသော ရှက် ဘွယ် လည်း ဖြစ် ရာ ၏။ ထိုကြောင့်။ ယခု ရဟန်းပြု၍မသင့်ပါသေး။ ဤမီးကို ငြိမ်းစေပြီးမှ ရဟန်းပြုလိုလည်းပြုတော်မူပါတော့။ နန်းတော်သို့ဝင်တော်မူပါဦးဟုလျှောက်ထားတောင်းပန်၏။

ထိုစကားကိုကြားလျှင်။ဘုရားလောင်းသည်။ မိဖုရား။သင်အသို့ဆိုသနည်းဟုဆို၍။ ကိုယ်တော်ကို အလွတ်ရုန်းတော်မူခြင်းငှာ။  ။သုသုခံဝတဇီဝါမ။ယေသံနောနတ္ထိကိဉ္စနံ။မိထိလံဍယှမာနာယ။ နမေကိဉ္စိအဍယှထ။  ။ဟူသောဂါထာဖြင့်ဆိုတော်မူ၏။  ။ဒေဝိ။ မိဖုရား။ ယေသံနော။ အကြင်ငါတို့အား။ ကိဉ္စနံ။ ကြောင့်ကြ ခြင်းသည်။ နတ္ထိ။ မရှိ။ တေမယံ။ ထိုငါတို့သည်။ သု သုခံ ဝတ။ အလွန်ချမ်းသာစွာလျှင်။ ဇီဝါမ။ အသက်မွေး ရကုန်၏။ မိထိလံ မိထိလာယ။ မိထိလာ ပြည်သည်။ ဍယှမာနာယ။ မီးလောင်လေသော်လည်း။ မေ။ ငါ၏။ ကိဉ္စိ။ တစုံတခုသောဥစ္စာသည်။နအဍယှထ။မီးမလောင်။  ။ဤကားအနက်။

အဓိပ္ပာယ်ကား။ မိဖုရား။ ငါ့ အား ဝဋ္ဋ ကာမ။ ကိလေသကာမကိုမှီ၍။ တပ်မက်ခြင်းစသောအားဖြင့်။ကိလေသာဟုဆိုအပ်သော ကြောင့်ကြခြင်း မည်သည် မရှိ။ ထိုကြောင့်ကြခြင်း

ကိလေသာ ငြိမ်းပြီး ဖြစ်သောကြောင့်။ ယခု ငါ့စိတ်သည် အ
လွန် ချမ်းသာ စွာ၏။ ဤသို့ချမ်းသာသော အသက် မွေးခြင်းရှိ
သည်ဖြစ်၍။ ထီးနန်း စည်းစိမ်နှင့်တကွ။ တပြည်လုံးကိုပင် မီး
လောင်လေသော်လည်း။ ငါ၏စည်းစိမ်ကို လောင်သည်ဟူ၍အ
နည်း ငယ်မျှ ငါမြင်တော် မမူဟု ဆိုတော် မူလျက်။ မြို့မြောက်
တံခါး ဖြင့် ထွက် တော် မူ လေ ၏။ မိဖုရား ခုနစ် ရာ တို့ သည်
လည်း။ အသွယ်သွယ် အပြားပြား မြည်တမ်း ငိုကြွေး လျက်။
နောက်တော်သို့လိုက်ကြလေ၏။ သိဝလိဒေဝီမိဖုရားကြီးသည်
လည်း။ မှူးမတ် ပြည်သားပြည်သူအပေါင်းခြံရံလျက်။ ငိုကြွေး
ကာ နောက်တော်သို့လိုက်လေ၏။ ထိုမြို့ပြင်သို့ ရောက်သောအ
ခါ။ သိဝလိဒေဝီ မိဖုရား သည်။ တခုသော ဥပါယ် တမျည် ကို
ရှာကြံ ပြန်၍။ စစ် သူကြီး အမတ် ကြီး တို့ကို ခေါ်ပြီး လျှင်။ အ
မောင်တို့။ မြို့ရွာတိုင်းနိုင်ငံတို့ကိုလုယက်ဖျက်ဆီးသော လူဆိုး
လူပျက် ရန်မီးပေါ်ဟန်ကဲ့သို့ စီရင်လေဟု အာဏာထားလိုက်
၏။ စစ်သူကြီး အမတ်ကြီးတို့လည်း။ မိဖုရားဆိုတိုင်း။ ထိုခဏ
၌ ပင်လျှင်။ များစွာသော သူရဲတို့ကို လက်နက် စွဲစေလျက်။ မြို့
အနီး အစပ်ရှိသော ရွာငယ် နီဂုံးတို့ကို ထိုးကြကုန်။ သတ်ကြ
ကုန်။ ဘမ်းကြကုန် ဟူသောအသံဖြင့်။ မြို့ဝန်းကျင်၌ ကြောက်
မက်ဘွယ် ဖြစ်စေလျက်။ လုယက် ဖျက်ဆီး သကဲ့သို့ ပြုစေ၏။
မင်းကြီး မြင် လောက် ရာ အရပ်တို့ ၌ လည်း။ ရွာသား မြို့သား
ဖြစ်သော ယောက်ျားတို့၏ ကိုယ်ကို ချိပ်ရည်ဖြင့် လောင်းသွန်း
၍။ အချို့သောသူတို့အား ထားလှံထိသဖြင့်။ သွေး ယိုစီးလျက်
ပြေးလာ ယောင်ကဲ့သို့ လည်းကောင်း။ အချို့သော သူတို့ အား
ထားလှံထိ၍ သွေးအလိမ်းလိမ်း ကပ်သော ကိုယ်ဖြင့်။ သစ်ပင်
အကြား။ လမ်းနား လမ်းလယ် စသည်တို့၌ သေသော အခြင်း
အရာဖြင့် အိပ်စေခြင်း ကိုလည်းကောင်း။ ကြောက်မက်ဘွယ်
အသံဖြင့် တပြိုင်နက် ကြွေးကြော် ခြင်းကိုလည်းကောင်း ပြုစေ
၏။ ထိုအခါသိဝလိဒေဝီ မိဖုရားကြီးသည် မင်းကြီးထံသွား၍။

ခြေရင်း၌တုပ်ဝပ်ပြီးလျှင်။မြို့သို့ပြန်စိမ့်သောငှာရှိခိုးလျက်။ ။
အနုပီယောသမုပ္ပန္နော။ အစရှိသောဂါထာဖြင့်လျှောက်၏။

အဓိပ္ပါယ်ကား။ အရှင်မင်းကြီး။ တောအုပ်ကိုအမှီပြု၍ နေသော ခိုးသားထားပြတ်ရှိသည်။ ကိုယ်တော်ထင်ရှား ရှိစဉ်ပင် လျှင်။ ဤပြည်ကြီးကို ဖျက်ဆီးအံ့ဟု ရန်မီးယခုထလဲ့၏။ ဤရန် မီးကိုကိုယ်တော်ငြိမ်းအောင်မပြုလျှင်။ ပြည်သူတို့အားကြီးစွာ သော ပျက်စီးခြင်း ရောက်ရ တော့မည်။ ဤသို့သော သူပုန် ရန် မီးကို မျက် မှောက် ထင်ထင်။ ကိုယ်တော် တွေ့ မြင်သည် ဖြစ် လျက်။ မငြိမ်းစေဘဲ ကြွတော်မမူသင့်။ ရန်မီးငြိမ်းပြီးမှ ရဟန်း ပြုလိုလည်း ပြုတော်မူရပါ၏။ ယခု နန်းတော်သို့ ပြန်တော်မူပါ ဦးဟု လျှောက်ထား တောင်းပန် ပြန်လေ၏။ ထိုစကားကိုကြား လျှင်။ ဘုရားလောင်းသည်။ ငါ ထင်ရှား ရှိသေးလျက် အဘယ် သူတို့ ဤပြည်ကိုဖျက်ဆီးဝံ့အံ့နည်း။ ဤအကြံအစည်ကား။ မိဖု ရားကြီး အကြံအစည်သာဖြစ်မည်ဟုသိတော်မူ၍။ မိဖုရားကြီး အားစကားဆိုရာမဲ့အောင်ပြုတော်မူခြင်းငှာ။ ။သုသုခံဝတ ဇီဝါမ။ အစရှိသောနှစ်ဂါထာဖြင့်ဆိုတော်မူ၏။

အဓိပ္ပါယ် ကား။ မိဖု ရား။ ကိ လေ သာ တည်း ဟူ သော ကြောင့် ကြခြင်း ရှိသော သူအား သာလျှင်။ လုယက် ဖျက်ဆီး ခြင်းရန်မီးသည်ဖြစ်၏။ ကြောင့်ကြခြင်းကင်းပြီးသောငါ့အား။ လုယက်ဖျက်ဆီးခြင်းရန်မီးမရှိ။ မိထိလာပြည်အလုံးပင် ရန်သူ ဖျက်ဖြုန်း၍ ဆုံးလေ သော်လည်း။ မက်မောခြင်း ကင်း လျက်။ ချမ်းသာ စွာ အသက် မွေးခြင်း ရှိသော ငါ့ အား အဘယ် ပြုအံ့ နည်း။ ငါသည်အလုံးစုံသောပြည်စည်းစိမ်ကို။ စွန့်လေပြီးသော ထုံ တွေး ကဲ့ သို့ ထင်၍။ တပ်ငြိ ခြင်း ကင်း လေ သ ဖြင့်။ အာ ဘဿ ရ ဘုံ ၌ ဖြစ် သော နတ် တို့ ကဲ့ သို့။ ပီ တိ သာ လျှင် အ စာ ရှိလျက်။ ချောင်း၍ မွေ့လျော် ခြင်းဖြင့် မွေ့ လျော် ၍သာ ကာ လ ကို လွန် စေ အံ့ဟု ဆို တော် မူ လျက် ကြွ တော် မူ ပြန် လေ ၏။ သီ ဝ လိ ဒေ ဝီ မိ ဖု ရား ကြီး လည်း။ များ စွာ သော ဝိုလ်

ခြေပရိသတ်အပေါင်း ခြံရံလျက်။ နောက်တော်သို့လိုက်
ပြန်လေ၏။ ထိုအခါ ဘုရားလောင်းသည်။ မိဖုရားပြည်သား
ပြည်သူတို့ မပြန်လိုလတ်သော်။ ဤသူတို့ကို ငါ စိုးစည်း
မှု မဖြစ်မဆိုလျှင်။ ဟိမဝန္တာသို့ပင် ရောက်အောင်လိုက်၍။
ငါ့အား ရဟန်းပြုခြင်း၏ အန္တရာယ်ကို ပြုရာချေသည်။ ထို
ကြောင့်တရသောအကြောင်းဖြင့်။ ထိုသူတို့ကိုပြန်စေအံ့ဟုကြံ
ပြီးလျှင်။ မိထိလာနေပြည်တော်မှ ခရီးတာ ဥသဘလေးဆယ်မျှ
လောက်ကွာသော အရပ်သို့ ရောက်သောအခါ။ ခရီးမန္ဒ
နောက်သို့လှည့်လည့်ရပ်တော်မူလျက်။ အမတ်တို့ကိုဤသို့မေး
တော်မူ၏။ အမတ်တို့။ ဤမိထိလာပြည်သည်အသူ့ပြည်နည်းဟု
မေးတော်မူ၏။ အမတ်တို့လည်းအရှင်မင်းကြီး။ ဤပြည်တော်
သည် အရှင်မင်းကြီး၏ ပြည်တော် တည်းဟု လျှောက်ကြကုန်
၏။ မင်းကြီးလည်း အမတ်တို့။ ဤပြည်သည် သင်တို့ လျှောက်
ချက်အတိုင်း ငါ အစိုးရသော ပြည်မှန်လျှင်။ တယောက် သူမျှ
ကျော်နင်း၍ မလိုက် စေခြင်းငှာ။ ဤလမ်း၌ ဗိလာဖြတ် အရေး
သား တော်မူခဲ့မည်။ ငါ သားတော်မူသော အရေးကို ကျော်
နင်းဖျက်ဆီးလျှင်။ ရာဇဒဏ် ထင်ရှားအောင်ပေးဟု အာဏာ
ထားတော်မူပြီးသော်။ လက်စွဲတော်တောင်ဝေးဖြင့်။ ထိုခရီးမ
န္ဒ ဗိလာဖြတ် အရေးသားတော်မူ၍။ ပရိသတ်ကို ကျောထား
ကာကြွတော်မူလေ၏။ မှူးမတ်အပေါင်းတို့သည်လည်း ဘုရား
လောင်း၏ဘုန်းတော်ကြောင့်။ ထိုအရေးကို တရံတယောက်မျှ
မကျော်နင်းဝံ့သည် ဖြစ်၍။ ဘုရား လောင်းကို မျှော်ကြည့်ကာ
သာလျှင်။ ထိုသားကြောင်းကိုဦးခိုက်လျက် ငိုကြွေးကြကုန်၏။
ဒိဗ်ရှေ့မင်း မယ်တော်လည်း။ မိမိကိုယ်ကို မဆောက် တည်
နိုင်သည်ဖြစ်၍။ ဘုရားလောင်းကိုမျှော်ကြည့်ကာပြင်းစွာရင်ကို
ခတ်တီးလျက်။ ထိုသားကြောင်းကိုဦးခိုက်၍။ မြေ၌လူးလည်း
ကာ ငိုကြွေးလေသော်။ မိမိရောက်မှန်း မသိ ထိုသားကြောင်း
၏ အတွင်းသို့ရောက်သဖြင့်။ တဖန်ထ၍ ဘုရာလောင်း နောက်

တော်သို့လိုက်ပြန်လေ၏။ မှူးမတ်ပရိသတ်အပေါင်းတို့လည်း။
မိဖုရားလူးလည်း၍ သားကြောင်း ပျက်လေလျှင်။ ဤအရေးကို
တပါးသူမဖျက်။ အရေးရှင်ပင် ဖျက်သည် ဖြစ်သောကြောင့်။
ရာဇဒဏ်မရှိပြီဟု မိဖုရားကြီး နောက်သို့ လိုက်ကြပြန် လေ၏။
ဘုရားလောင်းသည်။ မိဖုရား မှူးမတ် ပြည်သူ တို့ကို ပြန်စိမ့်
သောငှါ လှုံ့လ ပြုပါသော်လည်း မတတ် နိုင်သည် ဖြစ်၍။ အ
နှောင်အဖွဲ့မှ မလွတ်မရှင်း နိုင်သေးသော ကိုယ်တော် ဖြင့်ပင်
လျှင်။ မြောက် ဟိမ ဝန္တာ သို့ ရှေ့ရှု ယူဇနာ ခြောက်ဆယ် တိုင်
အောင် ကြွတော်မူရ၏။ အိမ်ရှေ့မင်း မယ်တော်လျှင် အုပ်ချုပ်
ခြင်းရှိသော မှူးမတ်ပြည်သား ပြည်သူ လူအပေါင်း တို့လည်း။
သ နား ဘွယ် သော ငို ကြွေး ခြင်း ဖြင့် ငို ကြွေး လျက်။ ဘုရား
လောင်း နောက် တော် သို့ ယူ ဇနာ ခြောက် ဆယ် တိုင် အောင်
လိုက်ကြ လေ၏။ ညည့် အခါ ရောက်တိုင်း။ အိမ်ရှေ့ မင်း မယ်
တော်မှာသစ်တပ်တည်စေ၍ တဲစားခန်းချ၏။ ဘုရားလောင်းမူ
ကား။ ထိုသစ်တပ်တဲနန်း၌မနေမူ၍။ လွတ်ရာတခုခုသော သစ်
ပင် ရင်း၌ သာလျှင်။ တပါးတည်း ကျိန်းစက်တော်မူ၏။ ဤသို့
နည်း ဖြင့် နေ့ တိုင်း ကြွ တော် မူ၍။ မိ ထိ လာ ပြည် မှ ယူ ဇ နာ
ခြောက်ဆယ်ကွာသောအရပ်သို့ရောက်တော်မူလေ၏။

ထိုအခါ နာရဒ အမည် ရှိသော ရှင်ရသေ့သည်။ ဟိမဝန္တာ
ဝယ်တခုသောရွှေဂူ၌။ အဘိညာဉ်ငါးပါး ဈာန်သမာပတ်ချမ်း
သာတို့ကို ခံစားလျက်နေ၏။ ထိုနာရဒရသေ့သည်။ ခုနစ်ရက်
လွန်၍ ဈာန်သမာပတ်မှ ထပြီးသော်။ ဩ ချမ်းသာ ဘွ ချမ်းသာ
ဘွဟု နှစ်သက်ဝမ်းမြောက်စွာ ဥဒါန်း ကျူးလျက်။ ဤဇမ္ဗူဒိပ်
ကျွန်းအပြင်၌။ ဤသို့သော ဈာန် ချမ်းသာကို ရှာသောသူ တရုံ
တယောက် ရှိလိမ့်အံ့လောဟု။ ဒိဗ္ဗစက္ခုဉာဏ်ဖြင့် ကြည့်ဆင်
ခြင် လေသော်။ ဘုရားလောင်း အညွန့် ဖြစ်သော မဟာဇနက
မင်းကြီး တောထွက်တော်မူသည်ကို မြင်လေ၏။ ထိုအခါနာရ
ဒရှင်ရသေ့သည် ဤသို့ကြံ၏။ ဤမင်းကား ကြီးစွာသောပြည်

စည်းစိမ်ကိုစွန့်၍။ မြတ်သောတောထွက်ခြင်းဖြင့် ရဟန်းပြုပါ
သည်ကို။ သီဝလိဒေဝီအမှူးရှိသော မှူးမတ်ပရိသတ်အပေါင်း
တို့သည်နောက်ကဝန်းရံ၍လိုက်ကြကုန်၏။ထိုမင်းလည်းမိမိပရိ
သတ်ကိုပြန်စေခြင်းငှာ မတတ်နိုင်လေ။ ဤသို့မိဖုရားပရိသတ်
တို့လိုက်သဖြင့်။ ထိုမင်းသည်ဝိက္ခမ္ဘဏပဟာန်ကိုမရသေးသူ
ဖြစ်ခြင်းကြောင့်။တဒင်္ဂပဟာန်တည်းဟူသောငယ်နုလှစွာသော
အတောင်ဖြင့်။ မိဖုရားမှူးမတ်တို့၏ဖြားယောင်းခြင်းတည်းဟူ
သော ညွတ်ကွင်းမှ လွတ်မြောက်အောင် မပျံနိုင်ဘဲ ရှိခဲ့သော်။
ရဟန်းပြုခြင်း၏ အန္တရာယ်သည် ဖြစ်လေရာ၏။ ထိုကြောင့်ပ
ရငါသွား၍။စိတ်တချောင်းတည်းဖြင့်ကောင်းစွာစွဲယူပြီးသော
အယူကို။ တပါး သူ လှုပ်ရှား၍ မပျက် နိုင် အောင်။ မြဲမြံ နိုင်နှံ့
စေခြင်းငှာ။ အဆုံးအမ ပေးချေ ရသော် ကောင်း၏ ဟု ကြံပြီး
လျှင်။ ထူဏ္ဍိပိဓအတိညာသည်တန်ခိုးဖြင့်။ ထိုရွှေဂူမှဘုရားလောင်း
ရှိရာသို့ ကောင်းကင် ခရီးဖြင့် လာလတ်၍။ ဘုရား လောင်း ရှေ့
ဖြစ်သော ကောင်းကင်၌ ရပ်လျက်။ အားထုတ်ပြီးသော လုံ့လ
ကိုမလျော့စေခြင်းငှာတိုက်တွန်းလို၍။ ။ကိမှေသောမဟ
တောဃောသော။ အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ ရှင်ရဟန်း အသို့နည်း။ တပါး ရဟန်း မှာ
ကဲ့သို့မဟုတ်။ သင့်မှာ အသံများလှ စွာ၏တကား။ ရွာကြီး မြို့
ကြီးကဲ့သို့ အဝတ်ကောင်း တန်ဆာ ကောင်း ဆင် ယင် ဝတ်
စားကာ။ သမီးပျိုသားပျိုမြူးထူးကြသောအသံဖြင့်။ မြေပြင်ထိန့်
မျှ ဖြစ်ခဲ့၏ တကား။ သင့်ကိုပင် ငါမေးရတော့သည်။ ဤအသံ
များစွာဒရတ်ဒရတ်ကျက်ကျက်ဖြစ်ခြင်းကား အကြောင်းအသို့
နည်းဟု ဆို၏။ နာရဒ ရှင်ရသေ့ စကားကိုကြားလျှင်။ ဘုရား
လောင်းသည်အကြောင်းကိုပြန်ကြားလို၍။ ။မမံဒြိဟာယ
ဂစ္ဆန္တံ။ အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ ရှင် ရသေ့။ ကိလေသာ တည်း ဟူ သော
စောင်ရန်းဖြင့် ဆီးတား ပိုင်းခြားအပ်သော လူတို့၏ ဘောင်မှ

ထိုအဆီးအတားကို ဖျက်ဆီးနှိပ်နင်း၍။ ကိလေသာစောင်ရန်းမရှိသော ရဟန်းဘောင်သို့ ကျွန်ုပ်ထွက်လာသတ်သည်ကို။ ဤပရိသတ်တို့သည် နောက်သို့ထက်ကြပ်ကပ်လျက်လိုက်လာဘိ၏။ ထိုပြည်စည်းစိမ်၌ ငြိတွယ်ငဲ့ကွက်ခြင်းမည်သည် ကျွန်ုပ်၌မရှိ။ ရှင်ရသေ့တို့ကဲ့သို့ဈာန်သမာပတ်၌ မွေ့လျော်ခြင်းကိုသာလျှင် အလွန်နှစ်သက်သည်ဖြစ်၍။ ငါကားကိလေသာကွန်ရက်မှလွတ်မြောက်သဖြင့်။ ယခုရဟန်းအဖြစ်ကို ရတော့သည်ဟူ၍သာ အဖန်တလဲလဲအောက်မေ့လျက်။ ဟိမဝန္တာသို့ထွက်လာခဲ့၏။ ထိုသို့ရဟန်းပြုသော ကျွန်ုပ်ကို ရှင်ရသေ့သည် သိလျက်တည်းမေးတော်မူသလော။ မသိ၍တည်းမေးတော်မူ သလော။ ဝိဒေဟရာဇ် တိုင်းကြီးကိုစွန့်၍။ မဟာဇနကမင်း တောထွက်သည်ဟူ၍ ကြားတော်မူကောင်းပါလေ၏တကားဟုဆို၏။ ဘုရားလောင်း စကားကို ကြားလျှင် နာရဒ ရှင်ရသေ့ သည်။ မင်းကြီးအား ရဟန်းအဖြစ်၌ မြဲမြံစွာတည်စေခြင်းငှာ။ ။မာသုတိဏ္ဏော အမညိတ္ထ။ အစရှိသော ဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ ရှင် ရဟန်း။ ဖန် ရည် စွန်း သော သင်္ကန်းကိုဝတ်ကာမျှဖြင့်။ ကိလေသာ တည်းဟူသော စောင်ရန်းကို ဖျက်ဆီးနိုင်ပြီ သင်မှတ်သလော။ ရဟန်းပြုကာမျှဖြင့်။ ကိလေသာ တည်း ဟူသော စောင် ရန်းကို မဖျက်ဆီး နိုင်သေး။ နတ်ပြည် ခရီးသို့ မရောက် နိုင်အောင် ဆီးကာ မြှေးရစ်တတ်သော ကိလေသာ ဘေးရန် တို့သည်။ နောက်က ထက်ကြပ် ဝန်းရံ၍ လိုက်လာကုန်၏။ ထိုရန်သူတို့ဆွဲငင်၍ မပါနိုင်အောင် ညွတ်ပြီးသော ရဟန်းအဖြစ်ဟု ဆိုအပ်သော တိုင်၌။ အဖန်တလဲလဲ နှစ်သက်ခြင်းသက်ဝင်ခြင်းတည်းဟူသောကြိုးဖြင့်။ စိတ်ကိုမြဲစွာဖွဲ့နှောင်နိုင်သောသူမှသာလျှင်။ ကိလေသာတည်းဟူသော စောင်ရန်းမှ လွတ်မြောက်ရာသည်ဟုဆို၏။ နာရဒရှင်ရသေ့စကားကို ကြားလျှင်။ ဘုရား လောင်း သည် ကိုယ်တော် ၏ စင်ကြယ် ကြောင်းကိုပြ၍။ ကိလေသာ တည်းဟူ သော ဘေးရန်

ကိုမေးတော်မူပြန်ခြင်းငှာ။ ။ကောသနုမေပရိဗဇ္ဇသသ။ အစရှိသောဂါထာဖြင့်ဆိုတော်မူပြန်၏။

အဓိပ္ပါယ်ကား။ ရှင် ရသေ့။ ယခု ကျွန်ုပ်သည် လူပြည် ၌ ဖြစ်သော ကာမဂုဏ်ကိုလည်း တောင့်တခြင်းမရှိ။ နတ်ပြည်၌ ဖြစ်သော ကာမဂုဏ် ကိုလည်း တောင့်တခြင်းမရှိ။ ထိုကိလေသာ တည်း ဟူသော တောင့်တခြင်း ကင်း ပြီးသော ကျွန်ုပ်ကို။ အဘယ် ဘေးရန် ခြံရံ၍ နှိပ်စက် နိုင်အံ့နည်း။ ကျွန်ုပ်၌ အနီးရှိသောဘေးရန်ကိုရှင်ရသေ့ဆိုတော်မူပါလော့ဟုဆို၏။ ဘုရားလောင်း စကားကို ကြားလျှင်။ နာရဒ ရှင်ရသေ့သည်။ ဘုရားလောင်း၌အနီးရှိသောဘေးရန်ကိုပြလို၍။ ။နိဒ္ဒါတန္ဒီ ဝိဇမ္ဘိတာ။ အစရှိသောဂါထာဖြင့်ဆိုပြန်၏။

အဓိပ္ပါယ် ကား။ ရှင် ရ ဟန်း။ အကြင် သူ တို့သည် ကာမဂုဏ်အနှောင်အဖွဲ့မှ လွတ်မြောက်၍။ ရဟန်းအဖြစ်သို့ ရောက်တုံ သော်လည်း။ မိမိတို့ ကိုယ်၌ နေ့တိုင်း မပြတ် ဖြစ်ကုန်သော ဘေးရန် တို့သည် ခြံရံ ကုန်၏။ ထို ဘေးရန် တို့ကား အိပ်ကြူးခြင်း။ ပျင်းရိခြင်း။ ကိုယ်လက်တဆန့်ကျင်ကျင်ရှိခြင်း။ ရဟန်းတရား၌ မမွေ့လျော်ခြင်း။ အစာ၌ အတိုင်းအရှည်ကို မသိ၍ မိမိ စားသော အစာယစ်ခြင်း စသော အားဖြင့်။ များစွာ သော ဘေးရန်ရှိတုံသေး၏။ သင်သည်လည်းသူခပ်သိမ်းတို့မြင်လျှင် ကြည်ညို ဘွယ်သော အဆင်းလည်း ရှိ၏။ ပြည်ကြီး စည်းစိမ် ကိုစွန့်၍ရဟန်း ပြုနိုင်ပေသည်ဟူ၍လည်း။ သူခပ်သိမ်းတို့ကြား လျှင်မြင်လျှင်။ အလွန် ကြည်ညို နှစ်သက်ဘွယ် ဖြစ်၏။ ထိုသို့ သောအကြောင်းတို့ဖြင့်။ သူခပ်သိမ်းတို့သည် အလွန်ကြည်ညို သည်ဖြစ်၍။ မွန်မြတ်သော ခဲဘွယ် ဘောဇဉ်တို့ကို သင့်အား လှူလတံ့။ ထိုသူဘပါးတို့ လှူသော ဘောဇဉ်ခဲဘွယ် အရသာ ကောင်းတို့ကို သပိတ်အပြည့်ခံယူ၍။ အလိုရှိသမျှ ဝစွာစားပြီး လျှင်။ ကျောင်းသင်္ခမ်းသို့ ဝင်လျက်။ သစ်ပျဉ်အခင်း၌ခြေဆစ် လက်ပစ်။ ကြောင့်ကြမဲ့ အလို ရှိတိုင်း။ ပေါက်တုံ ယောင်တုံ

ဘယ်ပြောင်း ညာပြန်အိပ်လတ့်။ အိပ်၍နိုးသော အခါ၌လည်း။ အိပ်ရာမှမထဦးဘဲ။ လူးလည်းကာ ခြေပစ်လက်ပစ်။ အရှည်အကြာ နေပြီးမှ။ ထပါ တုံသော်လည်း။ အရသာ ကောင်း ယစ်၍ ပျင်းရိခြင်းကြောင့်။ ကျောင်း၌ တန်မြက်လှည်းခြင်း။ သောက်ရေ သုံးဆောင်ရေ တည်ထားခြင်း။ ကမ္မဋ္ဌာန်း၌ လုံ့လပြုခြင်းတို့ကို မပြုဘဲ။ တဖန် ထို အိပ်ရာ၌ပင် အိပ်ပြန် လတ့်။ ဤသို့စသော အားဖြင့်။ ဘေးရန် ဟူသည် ကား ကိုယ်၌ ပင်လျှင် များစွာ ရှိတုံ သေး၏။ ကာမဂုဏ်ကို စွန့်ပစ် ရုံမျှ နှင့် ရဟန်း တို့ ၏ ဘေးရန် ကုန်သည် မဟုတ်။ သင် သည်လည်း။ ငါကား ကာမဂုဏ်ကို လွန်မြောက် သဖြင့်။ ရဟန်းဖြစ်ပြီး တော့သည် ဟူ၍ သာ လုံ့လကို လျော့ချဖြေးအံ့။ ယခုငါဆိုခဲ့သော ဘေးရန်တို့သည် သင့်ကိုနှိပ်စက် သဖြင့်။ ကာမဝိတက်သာလျှင်များ၍။ ရဟန်းတရား၌ တဖန်မမွေ့လျော်ခြင်း ဖြစ်ပြန်လတ့်ဟုဆို၏။ ရှင်ရသေ့ စကားကို ကြားလျှင်။ ဘုရား လောင်း သည် အလွန် နှစ်သက်သဖြင့်ကောင်းကြီးပေးလို၍။ ။ကလျာဏံဝတမံဘာဝံ။ အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ ရှင်ရသေ့။ အရှင်သံ့သည် ကျွန်ုပ်ကို မြင့်ရာ တွင်မြတ်စေခြင်းငှာ။ ကောင်းသောစကားဖြင့်သာအဆုံးအမ ပေးတော်မူပေ၏။ ရှင်ရသေ့သည်အကျွန်ုပ်၏ဆရာပေတည်း။ မသိသော အလျောက် အကျွန်ုပ် လျှောက်မေးပါအံ့။ ရှင်ရသေ့၏ အမည်ကိုအသူဆိုပေသနည်းဟုမေး၏။ ထိုစကားကိုကြားလျှင်။ နာရဒ ရှင်ရသေ့ သည် အမည် ကို ကြား လျက်။ ဘုရား လောင်းအားအဆုံးအမပေးလို၍။ ။နာရဒေါဣတိနာမေန။ ကဿပေါဣတိမံဝိဒူ။ ဘောတောသကာသမါဂစ္ဆိံ။ သာဓုသဗ္ဗိ သမာဂမော။ ။တဿတေသဗ္ဗောအာနန္ဒော။ဝိဟာရောဥပဝတ္တတု။ ယံဦနံပရိပူရေဟိ။ ခန္တိယာဥပသမေနစ။ ။ပသာရယသန္နတဥ္စ။ ဥန္နတဥ္စပသာရယ။ ကမ္မံဝိဇ္ဇဥ္စဓမ္မဥ္စ။ သက္ကတွာနပရိဗ္ဗဇ။ ။ဟူသောသုံးဂါထာတို့ဖြင့်ဆို၏။

သမဏာ၊ ရှင်ရဟန်း။ မံ။ ငါ့ကို။ နာမေန။ အမည် အားဖြင့်။ နာရဒေါဣတိ။ နာရဒဟူ၍။ ဝိဒူ။ လူတို့သိကုန်၏။ ဂေါတ္တေန။ အနွယ်အားဖြင့်။ မံ။ ငါ့ကို။ ကဿပေါဣတိ။ ကဿပဟူ၍။ ဝိဒူ။ လူတို့သိကုန်၏။ သဗ္ဘိ။ သူတော် ကောင်း တို့နှင့်။ သမာ ဂမော။ ပေါင်းဘော်ရခြင်းသည်။ သာဓု။ ကောင်း၏ဟု။ ဘောတော။ ရှင်ရဟန်း၏။ သကာသံ။ အထံသို့။ အာဂန္တွာ။ လာခဲ့၏။

သမဏာ။ ရှင်ရဟန်း။ တဿ။ ထိုသင့်အား။ သဗ္ဗော။ အလုံးစုံသော။ အာနန္ဒော။ ရဟန်း အဖြစ်၌ နှစ်လို ခြင်းသည်။ ဟောတု။ ဖြစ်စေသတည်း။ ဝိဟာရော။ လေးပါးသောဝိဟာရ ဖြင့်နေခြင်းသည်လည်း။ ဥပဝတ္တတု။ ဖြစ်စေလော့။ ယံဦနံ။ အကြင် ယုတ်သော အရာ သည်။ အတ္ထိ။ ရှိ၏။ တံဦနံ။ ထို ယုတ်သော အရာကို။ ခန္တိယာစ။ သည်းခံ ခြင်းဖြင့် လည်း ကောင်း။ ဥပသမေနစ။ ဈာန်ကို ဆုံးမခြင်းဖြင့်လည်းကောင်း။ ပရိပူရေဟိ။ ပြည့်စေလော့။

သမဏာ။ ရှင်ရဟန်း။ သန္နတဉ္စ။ ကိုယ်နှင့်တန်ရုံထောင်လွှား တတ်သောမာန်ကိုလည်း။ ပသာရယ။ စွန့်တိလော့။ ဥန္နတဉ္စ။ ကိုယ်နှင့်မတန် လွန်စွာထောင်လွှားတတ်သော မာန်ကိုလည်း။ ပသာရယ။ စွန့်တိလော့။ ကမ္မဉ္စ။ ကုသိုလ်ကမ္မပထအစရှိသော ကောင်းမှု ကိုသည်း ကောင်း။ ဝိဇ္ဇဉ္စ။ ဈာန်အဘိညာဉ် အစရှိ သော ပညာကိုလည်းကောင်း။ ဓမ္မဉ္စ။ ကသိုဏ်း ပရိကံအစရှိ သောအကျင့်ကိုလည်းကောင်း။ သက္ကတွာန။ အရိုအသေပြု၍။ ပရိဗ္ဗဇ။ ကျင့်သလော့။ ။ဤကားအနက်။

အဓိပ္ပါယ်ကား။ ရှင်ရဟန်း။ ငါ့ကိုအမည်အားဖြင့် နာရဒ ရသေ့ဟု လူတို့ ခေါ်ဝေါ်ကြ၏။ အမျိုး အနွယ်အားဖြင့်လည်း။ ငါ့ကိုကဿပဟုလူတို့သိကြကုန်၏။ ငါသည်ဟိမဝန္တာဝေးစွာ အရပ်၌ ဈာန်၏ ချမ်းသာ ခြင်းဖြင့် နေလျက်ပင်လျှင်။ သူ တော် ကောင်းတို့နှင့် တခဏမျှအတူနေရသော်လည်း။ များစွာသော အကျိုး စီး ပွား ရှိသည် ဖြစ်၍။ မြတ် ၏ ဟု အောက် မေ့ သ ဖြင့်

သင့် ထံသို့ ငါလာ ခဲ့ သတည်း။ သူတော် ကောင်း ဟု ငါ မှတ် သည်နှင့်အညီ။ သင်သည်လည်း မြတ်သောအကျင့်ကိုသာ အလိုရှိသည်ဖြစ်၍ လည်းကောင်း။ ပညာရှိသောသူတို့၏ အကျိုးစီးပွားနှင့် ယှဉ်သောစကားကို နာယူလွယ်သည် ဖြစ်၍လည်းကောင်း။ သင်သည် စင်စစ် သူတော် ကောင်း မှန်ပေ၏။ ယာရသင်နှလုံးသွင်းသည်အတိုင်း။ အသက်ထက်ဆုံး ရဟန်းတရား၌သာ နှစ်သက်ခြင်း ရှိသည်ဖြစ်၍။ မဖေါက်လဲသည်ဖြစ်စေသတည်း။ မြတ်သော သူတို့ ၏ နေခြင်းဟု ဆိုအပ် သော မေတ္တာ။ ကရုဏာ။ မုဒိတာ။ ဥပေက္ခာ။ ဤဗြဟ္မဝိဟာရလေးပါးဖြင့်ချမ်းသာစွာ နေသည်ဖြစ်စေသတည်း။ လောက၌ သူတော်ကောင်းဟု ပြကြကုန်သောသူအချို့တို့သည်။ မိမိတို့၌ပြည့်စုံသောတရချသောဂုဏ်ကျေးဇူးကိုမှီ၍။ ငါကားအလှူဒါယကာတည်း။ ငါကား ပဉ္စင်္ဂသီလ။ အဋ္ဌင်္ဂသီလ။ ဒသင်္ဂသီလနှင့် ပြည့်စုံသော သူတည်း။ ငါကား ကသိုဏ်းပရိကံ ဈာန် အဘိညာဉ်နှင့် ပြည့်စုံသောသူတည်း။ ငါကားမင်းမျိုး။ ပုဏ္ဏားမျိုး။ သူဌေးမျိုးတည်းဟု၍လည်းကောင်း။ ယုတ်သောမာန်မူခြင်းကိုပြုတတ်ကုန်၏။ ထိုသို့သောအယုတ်မာန်ကို နှိမ့်ချသည်းခံခြင်းဖြင့်လည်းကောင်း။ မိမိ၌ ထင်ရှား ရှိသော ထို သီလ ပညာဖြင့် လည်း ကောင်း။ နှိပ်ကွပ် ဆုံးမခြင်းကိုပြု၍ကောင်းစွာကျင့်လော့။ ဤလောက၌ တရုံတချသောဂုဏ် ရှိကုန်သော သူတို့သည်။ ထိုမိမိတို့၌ ပြည့်စုံသောဂုဏ်ကိုအမှီပြု၍။ ကိုယ်အောက်ညံ့သောမာန်။ ကိုယ်နှင့်အင်တန် ရုံသောမာန်။ ကိုယ်နှင့် အင်မတန် လွန်စွာသောမာန်။ ဤမာန်သုံးပါးတို့တွင် တပါးပါးဖြင့် ထောင်လွှားတတ်ကုန်၏။ ထို ထောင်လွှား တတ်သော မာန် အပေါင်းကို နှိပ်ကွပ် ဆုံးမ၍ ကုသိုလ်ကမ္မပထဆယ်ပါးကိုလည်းကောင်း။ အဘိညာဉ်သမာပတ် ဥာဏ်ဟု ဆို အပ် သော အတတ် ကို လည်းကောင်း။ ကသိုဏ်းပရိကံ အစရှိသောကောင်းမြတ်သော အကျင့်ကိုလည်းကောင်း။ မစောင်းမတိမ်း ဖြောင့်ဖြောင့် ပြည့်စုံစေလျက်။ အ

သက်ထက်ဆုံး ရဟန်း တရားကို အားထုတ် လေလေ့ဟု ဘုရား လောင်း အား အဆုံးအမ ပေး ပြီး လျှင်။ နာရဒ ရှင်ရသေ့ သည် ကောင်းကင်ခရီးဖြင့်။ မိမိနေရာရွှေဂူသို့ ပြန်သွားလေ၏။ နာရဒ ရှင်ရသေ့ သွား ပြီး သော်။ ဘုရား လောင်း သည်လည်း။ မြောက် ဟိမဝန္တာသို့ ရှေ့ရှု ပင်လျှင် သွားပြန် လေ၏။ အိမ်ရှေ့မင်း မယ်တော်မှစ၍ မှူးမတ် ပရိသတ်တို့သည်လည်း။ နောက်တော်သို့လိုက်ကြပြန်လေ၏။

ထိုအခါ ဟိမဝန္တာဝယ် တရသော ရွှေဂူ၌။ ဈာန်သမာပတ် စည်းစိမ်ကို ခံစား ၍ နေ သော မိဂါဇိန် အမည် ရှိသော ရှင်ရသေ့ သည် ခုနှစ်ရက် မြောက်၍။ ဈာန်မှ ထသော အခါ။ နာရဒ ရှင် ရ သေ့ ကဲ့ သို့ ပင် လော က ကို ကြည့် လေ သော်။ ဘု ရား လောင်းကို မြင်သဖြင့်။ မဟာဇနကမင်း တောထွက် ပါသည်ကို။ မိဖုရား ပြည် သူ တို့ သည် လွတ် လွတ် မသွား ရ အောင် နောက်က ထက်ကြပ်ကပ်၍လိုက်ဘိ၏။ ထိုမင်းအား ရဟန်း၏ အန္တရာယ် မဖြစ်စေခြင်းငှါ။ ငါသွား၍အဆုံးအမ ပေးရသော် ကောင်း၏ဟုကြံပြီးလျှင်။ ရှေးနည်းအတူ။ကောင်းကင်ခရီးဖြင့် လာလတ်၍။ ဘုရားလောင်း ရှေ့တူရူ ကောင်းကင်ပြင်၌ ရပ်နေ လျက်။ အမည်အမျိုးကို မေးမြန်းပြောဆိုပြီးလျှင်။ ။ဗဟူ ဟတ္ထိစ အဿေစ။ အစရှိသောနှစ်ဂါထာဖြင့်ဆို၏။

အဓိပ္ပါယ်ကား။ မဟာဇနကမင်း။ ရွာနိဂုံး မြို့ငယ် များစွာ တို့၏ အခွန်ဆက်ရာဖြစ်၍။ ဆင်။ မြင်း။ ရထား။ ခြေသည်။ သူ ဌေး။ သူကြွယ်။ အမတ်ပုရောဟိတ်။ မင်းဆွေ။ မင်းမျိုးတို့ဖြင့် ပြွမ်းသောမိထိလာပြည်ကြီးစည်းစိမ်ဝယ်။ အဘိုးများစွာထိုက် သော အဝတ်တန်ဆာတို့ကိုလည်းကောင်း။ ပိလ်တရာအချိန်ရှိ သော ရွှေလင်ပန်း ကိုလည်း ကောင်း စွန့်ပစ်၍။ အဘိုး မထိုက် သော ဤသင်္ကန်းကိုဝတ်လျက်။ အဘိုးမထိုက်သော ဤမြေသ ပိတ်ကို လွယ်ပိုက်ကာ ထွက်လာ ခဲ့ရ သည်မှာ အကြောင်း အ သို့နည်း။ သင့်ကိုဆွေတော်မျိုးတော်။ မှူးမတ်ပြည်သူတို့သည်

မနှစ်မြို့၍။ ပြည်တိုင်းကားမှ ဟိမဝန္တာတောအရပ်သို့ပို့ဆောင်ထုတ် နှင်လိုက်ခြင်းကြောင့်။ ပြည်သူတို့ကို မလွှန်နိုင်သဖြင့်။ ဤမြေခွက်ကို နှစ်သက်ရလေသလောဟု မေး၏။ ထိုစကားကို ကြားလျှင်။ ဘုရားလောင်းသည် အဖြစ်မရှိသော အဖြစ်ကိုပြလို၍။ ။နမိဂါဇိနဇာတုရွှေ။ အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ သစ်နက်ရေသက်န်းကို ဝတ်ရုံတော်မူသော ရှင်ရသေ့။ ကျွန်ုပ်သည် မိဓိလာ ပြည်ကြီး၌ အနှစ်ခုနစ်ထောင်ပတ်လုံး မင်းပြု၏။ ကျွန်ုပ်မင်းပြုသည်ကာလ၌။ အဆွေအမျိုးကိုလည်းကောင်း။ မှုးမတ်ပြည်သူ့တို့ကိုလည်းကောင်း။ မည်သည့်အခါ။ မည်သည့်အမှုတွင်မှ။ မတရားသဖြင့်ကျွန်ုပ်မအောင်စဘူး။ ဆွေမျိုး မှုးမတ်တို့ သည်လည်း။ ကျွန်ုပ်ကို မည်သည့်အခါ။ မည်သည့်အမှုတွင်မှ။ မတရားသဖြင့်မအောင်ရစဘူး။ တရားသဖြင့်သာလျှင် ဆွေမျိုး မှုးမတ် ပြည်သူ တို့ကို စိုးအုပ်သည်ဖြစ်၍။ တစုံတယောက်မျှ ကျွန်ုပ်ကိုပြစ်မှားမည့်သူမရှိဟု ရှင်ရသေ့ စကားကို ချေဆို ပြီးလျှင်။ မြတ်သော တောထွက်ခြင်းကိုပြတော်မူလိုပြန်၍။ ။ဗိသွာနလောကဝတ္တန္တံ။ အစရှိသောဂါထာခွဲဖြင့်ဆိုတော်မူ၏။

အဓိပ္ပာယ်ကား။ သစ်နက်ရေသက်န်းကို ဝတ်ရုံတော်မူသော ရှင်ရသေ့။ ဤလောက၌ လူအပေါင်းကို။ ဝတ္ထုကာမ။ ကိလေသကာမဟု ဆိုအပ်သော ပိုးသည် မပြတ် ကိုက်ခဲအပ်၏။ ထိုကိလေသာ တည်းဟူသော ညွှန်ပျောင်းသည် မပြတ် လိမ်းကျံအပ်၏။ ကိလေသာ တည်းဟူသော ကြိုးဖြင့် မပြတ် နှောင်ဖွဲ့အပ်၏။ ထိုကိလေသာတည်းဟူသောပိုး။ ကိလေသာတည်းဟူသောညွှန်ပျောင်း။ ကိလေသာတည်းဟူသောကြိုးအနှောင်အဖွဲ့တို့၌ သာလျှင်။ မလိမ္မာသော ပုထုဇဉ်တို့သည် နှစ်သက်ခြင်းဖြင့် မွေ့လျော်ကုန်၏။ ထိုသို့မွေ့လျော်ကုန်သော ပုထုဇဉ်တို့အား။ သီသရာဝတ်ဆင်းရဲတည်းဟူသော ဘေးရန်

တို့သည် မပြတ်နှိပ်စက် အပ်ကုန်၏။ ထိုသို့မလိမ္မာသော ပုထုဇည်တို့၏ ကျင့်စည်။ ပြုစည် ပဝေနီဟု ဆိုအပ်သော လောကဝတ်၌။ အပြစ်ကိုမြင်သောကြောင့်။ ဝဋ်တရားမှထွက်မြောက်လွယ်ခြင်းငှာ။ ဤအဝတ်ကို ဝတ်လျက်။ ဤခွက်ဖြင့် အသက်မွေး၍။ တရားကိုပွားစေအံ့ဟုကျွန်ုပ်ရဟန်းပြုသတည်း။ သံသရာ ဘေးဖြင့် မလန့်ဘဲ။ အပြစ်ဒဏ်သင့်၍ ရဟန်းပြုသူမဟုတ်ဟုဆို၏။ ဘုရား လောင်း စကားကို ကြားလျှင်။ မိဂါဇိန် ရှင်ရသေ့သည် နှစ်သက်သောနှလုံး ရှိသည်ဖြစ်၍။ ဘုရားလောင်းစကားကိုအကျယ်အားဖြင့်နာလိုပြန်သောကြောင့်။ ။ကောနုတေဘဂဝါသတ္ထာ။အစရှိသောတဂါထာခွဲဖြင့်ဆိုပြန်၏။

အဓိပ္ပာယ်ကား။ ဝိဒေဟရာဇ် တိုင်းကြီးရှင် ဖြစ်သော မင်းမြတ်။ ယခုသင်ဆိုသောစကားသည်အလွန်ခဲခက်၏။ အဘယ်ဆရာအထံမှ ရအပ်သောစကားနည်း။ သင်၏ဆရာကားအသူနည်း။ သင် ဆိုသော စကား ကား အလွန် သန့်ရှင်း စင်ကြယ်သော စကားတည်း။ ဤစကားကို ဈာန်အဘိညာဉ်နှင့် ပြည့်စုံသော ကမ္မဝါဒီ ရသေ့။ အာသဝက္ခယ ဝိဇ္ဇာဉာဏ်နှင့် ပြည့်စုံသော ရှင်ပစ္စေကဗုဒ္ဓါ တို့မှတပါး။ အစမှု၍မဟော မပြနိုင်ရာ။ ထို ဘုရား ရသေ့ တို့ ကို အမှီ မ ရ ဘဲ လည်း။ သင် ဆို သော ကျင့်ဝတ်တရားကိုမကျင့်နိုင်ရာ။ မင်းကြီး။ သင်ဆိုတိုင်း။ အကြင်ပုဂ္ဂိုလ်သည် ဝတ်တရားကို လွန်မြောက်နိုင်သည် ဖြစ်အံ့။ ထိုသူကိုသမဏဟုဆိုစအပ်၏။ ဘုရားတို့၏အရာဖြစ်သော စကားကို သင်ဆိုသည် ဖြစ်သော ကြောင့်။ သင်၏ ဆရာ သည် ဘုန်းကြီးသော ဘုရားဖြစ်ရာ၏။ ဟုတ်မှန်တိုင်းဆိုလော့။ သင်၏ဆရာ အသူနည်းဟု မေး၏။ ဤသို့ မိဂါဇိန် ရှင်ရသေ့ သည်။ ဘုရားလောင်းအား။ သင့်အလိုအလျောက်ပင်ကာမဂုဏ်ကို စွန့်ရှာ၍ ရဟန်းပြုသလောဟူ၍သာ။ အိုးတန်ဆန်ခတ် စကားကို မမေးဘဲ။ အရိုးကိုဖြတ်လိုးမှ။ အသီးအနှံပါမည် အရည်ရှိသဖြင့်။ ဘုရား လောင်း၏ တော ထွက် သော အခြင်း အရာကို အ

ကျယ်နားထောင်လိုသောကြောင့်။ ဘုရားလောင်းစကားကိုချီးမြှောက်လျက်။ကောက်ပင်ရိတ်ဖြတ်စကားမျိုးဖြင့်။နားထောင်လိုရင်း မဟုတ်သော အရာကို အလေးပြု၍ မေးလေသတည်း။ ရှင်ရသေ့ စကားကို ကြားလျှင်။ ဘုရားလောင်း သည် အမေးနှင့်တန်ရုံရှေးဦးစွာပြန်ကြားလို၍။ ။နမိဂါဇိနဇာတရုပ္ပ။အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ မိဂါဇိနရှင်ရသေ့။ ကျွန်ုပ်သည် ရဟန်း ပြုခြင်း၏ဂုဏ်ကျေးဇူးကိုလည်းကောင်း။ ရဟန်းတို့၏ကျင့်ဝတ်တရားကိုလည်းကောင်း။ သိလိုမေးလျှောက်လိုသဖြင့်။ ပူဇော်သက္ကာရအထူးနှင့် မည်သည့်ဆရာထံသို့မျှ မဆည်းကပ်စဖူး။ မည်သည့်ဆရာမျှလည်း။ ကျွန်ုပ်အားရဟန်းကျင့်ဝတ်။ ရဟန်းတို့၏ ဂုဏ်ကျေးဇူးကို ပြည်စွန် ဟောကြားဖူးသည် မရှိပါ ဆိုပြီးလျှင်။ ရဟန်း ပြုသောအကြောင်းကိုအရင်းကစ၍ အကျယ်ပြန်ကြားခြင်းငှာ။ ။မဟာတာစာနုဘာဝေန။ အစရှိသောရနစ်ဂါထာဖြင့်ဆိုတော်မူ၏။

အဓိပ္ပာယ်ကား။ မိဂါဇိနရှင်ရသေ့။ စင်စစ်သော်ကား။ သရက်နှစ်ပင်သာလျှင် ကျွန်ုပ်ဆရာဖြစ်တော့သည်။ အသို့ဖြစ်သနည်းဟူမူကား။ တနေ့သ၌။ ဆင်။ မြင်း။ ရထား။ ခြေသည်။ မှူးမတ်။ ပုရောဟိတ်။ မင်း ညီ မင်း သား အ ပေါင်း ခြံ ရံ လျက်။ မြှောက်စည်။ ထက်စည်။ ခရာ။ စောင်း။ ညှင်း။ မောင်းကြေးနင်း။ ခုံမင်း။ ပတ်သာ။ များစွာသောတီးမှုတ်မျိုးတို့ဖြင့်။ မြေပြင်ထိန်မျှတီးမှုတ်၍။ ဥယျာဉ်သို့ကျွန်ုပ်ထွက်စံသောအခါ။ ဥယျာဉ်တံခါးဝတွင် စောင်ရန်းတွင်း၌။ အမြစ်အပင် ရောက်၍။ အခက်အလက် စောင်ရန်း ပြင် သို့ ထွက် လျက်။ သရက် နှစ် ပင် တို့သည်ရှိကုန်၏။ ထိုသရက် နှစ်ပင် တို့တွင် တပင်ကား အခက်အရွက် ပြည့်ရုံစွာ စိမ်းစိမ်း ဖတ်ဖတ်။ တပင်ကား အခက် အရွက်မပြည့်ရုံ စနောင် စနင် ရှိသည်ကို မြင်သောကြောင့်။ ထိုနှစ်ပင်သည် ရေမြေ အပြုအရ မခြားဘဲလျက်။ ခက်ရွက် အနှ

အပျို မတွေ့ကြသည်မှာ အကြောင်း အသို့နည်းဟု ကြံမိသဖြင့်၊ ဆင်ပေါ်မှ ဆင်း၍၊ သရက်ပင်ရင်းသို့ ချည်းကပ်ကြည့်ရှုလျှက်၊ ထိုအကြောင်းကိုအမတ်တို့အားကျွန်ုပ်မေးလျှင်၊ ဤအပင်ကားအသီးသီးသောကြောင့်၊ လူညှဉ်းဆဲ၍၊ခက်ရွက်ပျက်စီးသဖြင့် စနောင်စနင်ရှိပါသည်။ ဤအပင်ကား အသီးမသီးသောကြောင့်၊ အပျက် အဆီး လွတ်သဖြင့်၊ ခက်ရွက်ဝေဝေဖားဖား ရှိပါသည်ဟု လျှောက်ထား ကြသော စကားကိုကြားရသော ခဏ၌ပင်၊ မင်း စည်းစိမ် ကို အသီးသီးသော သရက်ပင်နှင့်တူ၏ဟု ဥပမာ ထား၍၊ ရဟန်း အဖြစ်ကို အသီး မသီးသော သရက်ပင်နှင့်တူ၏ဟုဥပမာထား၍၊ ထိတ်လန့်ခြင်းဖြစ်သဖြင့်၊ ကျွန်ုပ်ရဟန်းပြုသတည်း။ မိဂါဇိန်ရှင်ရသေ့၊ သင်ကိုလည်း အရေကို လိုသောကြောင့် သတ်ကုန်၏၊ ဆင် ကိုလည်း အစွယ်ကို လိုသောကြောင့်သတ်ကုန်၏။ အစိုးရကုန်သောသူတို့ အား လည်း စည်းစိမ် ကြောင့်၊ များစွာ သော ရန် သူ ရန်ငြောင့် ရှိသဖြင့်၊ ရန်သူ တို့သည် ပျက်ဆီး ကုန်ရာ၏၊ အိမ်ရာစည်းစိမ် မရှိ၊ ကိလေသာဖြင့် အဆွေ ခင်ပွန်း ဖွဲ့အပ်သော အဘော်လည်းမရှိ။ တယောက် အထီးတည်း နေရသော သူအားကား။ အဘယ်ရန်သူ ညှဉ်းဆဲပါအံ့နည်းဟုကြံ၍၊ ရဟန်းအဖြစ်သို့ အခါမပြတ်ညွတ်လျက်၊ ထို သရက်နှစ်ပင်လျှင် ဆရာရှိသဖြင့်၊ယခုကျွန်ုပ်တောထွက်ခဲ့ပါသည်ဟုဆို၏။

ဤ အရာ၌ ဘုရား လောင်း သည်၊ အရှင် ပစ္စေ က ဗုဒ္ဓါ တို့အား မပြတ်ဆွမ်းလုပ်ကျွေးသော ဥပသကာစင်စစ် မှန်လျက်၊ ဤ ရဟန်းပြုခြင်း၌ ကျွန်ုပ်မေးမြန်း ဆည်းကပ်သော ဆရာမရှိဟုဆိုလေသည်ကား။ ။နကာဒါစိဥဒ္ဒိသာဝသေနပစ္စေကဗုဒ္ဓါယဂုဏောပုဋ္ဌိတဗ္ဗော။ ဟုအဋ္ဌကထာ ဖွင့် သော ကြောင့်၊ အရှင်ပစ္စေက ဗုဒ္ဓါ တို့ကို မပြတ် လှူဒါန်း ဆည်း ကပ် လျက် တရားတော်ကို နာ သော်လည်း။ ရဟန်း ပြုခြင်း၏ ဂုဏ် ကျေးဇူးကိုရည်မှတ်၍ မလျှောက်မထား ဘူးသည် ဖြစ်သောကြောင့်၊ ဆ

ရာမရှိ ဆိုလေသည်ဟု သိအပ်၏။ ။ထိုသို့ဘုရားလောင်းစ
ကားကိုကြားလျှင်။ မိဂါဇိန် ရှင်ရသေ့သည်။ နှစ်လိုသော စိတ်
ရှိသဖြင့်။ မဟာဇနကမင်း။ ကောင်းစွကောင်းစွ။ ယခုစွဲယူမိ
သည့်စိတ်ကို ရန်သူမဖျက်ဆီးရအောင် လုံ့လပြု။ မမေ့မလျော့
စေနှင့်ဟု အဆုံးအမပေးပြီးလျှင်။ မိမိနေရာ ဟိမဝန္တာ ရွှေဂူသို့
ပြန်သွားလေ၏။ ထိုမိဂါဇိန်ရှင်ရသေ့ သွားသည်၏ အခြားမဲ့၌။
အိမ်ရှေ့မင်းမယ်တော်သည် ထိပ်ထက်လက်ရုံ ရှိခိုးလျက်။ ဘု
ရားလောင်း၏ ခြေဖမိုးတော် အရံကို ဦးခိုက်၍။ ။သဗ္ဗောဇ
နော သ ဗျာ မိ တော။ အစ ရှိ သော နှစ် ဂါ ထာ ဖြင့် လျှောက်
တောင်းပန်ပြန်၏။

အဓိပ္ပာယ်ကား။ အရှင်မင်းကြီး။ ယခု ကိုယ်တော် ရဟန်း
ပြုသည့်မှာ။ သိကောင်းသိရာသူ တစုံတယောက်ကိုမျှ တိုင်ပင်
ပြော ဆို တော် မမူ ဘဲ။ သူ ခပ်သိမ်းတို့ အရိပ် ခိုရာ ဖြစ် သော
ပဒေသာပင်ကြီး။ ထီးဗိတာန်အချက်ကို။ ငှက်ဂဠုန်သိမ်းခတ်
၍။ လတ်တလောချင်း ပါလေသကဲ့သို့။ ကိုယ်တော် စိတ်အကြံ
နှင့်သာ ခဏချင်းရဟန်းပြုတော် မူခဲ့သောကြောင့်။ ဆွေတော်
မျိုးတော်မှူးမတ်ပြည်သူလူအပေါင်းတို့သည်။ရင်ထုမနာ။ကိုးရာ
မရ။ ခဏချင်း ဥပဒ်ကြိမ်၍။ ညှိုးပိန်သောစိတ်ဖြင့်။ အရိပ်ခိုရာ
မတွေ့။ ရန်ငွေ့ ပူလောင်မည့် နောင်အရေး များကို တွေး တိုင်း
ကြံတိုင်း ထိတ်လန့် ခြင်း ပြင်းစွာနှင့် တစေ ရှိကြ ပါသည်။ ရ
ဟန်း ပြုတော် မူလိုလျှင်။ အထက်ကပင် မြှောက်တန် နှိမ့်တန်
သည့်သူတို့ကိုအရာနှင့်လျော်အောင်။ အသင့်အတင့်ထုံးဖွဲ့စီမံ
တော် မူလျက်။ အမှာအထား အဆုံးအမ ပေးတော် မူပြီးမှ ရ
ဟန်း ပြုပါလေသော်။ နေရောင် ပျောက်လျှင်။ လရောင် ရောက်
လာသကဲ့သို့။ ဘုန်းရောင် မပြတ်။ ငြိမ်ဝပ်ခြင်း ဖြစ်ပါကောင်း
လေ၏။ ထိုသို့သော်လည်း။ လွန်ပြီးသည်ကိုတ၍ ရနိုင်တော့မည်
မဟုတ်။ ယခုသာ သူခပ်သိမ်းတို့၏ ချမ်းသာကို ဆောင်လေ့ရှိ
တော် မူသည်နှင့် အညီ။ နေပြည်တော်သို့ ပြန်လည်တော် မူ၍။

သားတော် ဒီဃာဝုကို မင်းစည်းစိမ်၌ ရွှေလက်တော်ဖြင့် အပ်နှင်းချီးမြှောက်တော်မူလျက်။ ပြည်သူအပေါင်းတို့၏ကိုးကွယ်ရာကိုပြုတော်မူပြီးမှ။ ပြည်ထဲရေးအမှုလုကိစ္စကို နားမထောင်ဘဲ။ နန်းတွင်း မှာပင် နေလိုလည်း နေတော် မူရပါ၏။ ဥယျာဉ်တော်မှာ ရဟန်းပြု၍ နေလိုလည်း နေတော် မူရပါ၏။ ယခု ကြွတော်မူရာ ဟိမဝန္တာသို့ကြွ၍ နေမည်ဆိုသော်လည်း နေတော်မူရပါ၏။ ထိုသို့ ပြည့်ထဲရေးကိစ္စကို ထုံးဖွဲ့ စိမံတော် မူပြီးမှဖြစ်လျှင်။ အလိုရှိတိုင်းပင် ပြုတော်မူရပါ၏။ ယခု မူကား အခွင့်မကြေသေးဖြစ်သောကြောင့်။ ပြည်တော်သို့ပြန်တော်မူဦးမှသင့်ပါမည်ဟုလျှောက်၏။ဘုရားလောင်းလည်းပြကတေ့သောသွားမြဖြင့်မရပ်မူ၍။ မိဖုရား စကားကို ကြားလျှင်။ တခုခုသော ဗလိဗောဓကိုမျှ ငဲ့ကွက်ခြင်း မရှိလေပြီးသော အဖြစ်ကို ပြတော်မူလို၍။ ။ဧတ္တာမယာဇနပဒါ။အစရှိသောဂါထာခွဲဖြင့်ဆိုတော်မူ၏။

အဓိပ္ပာယ်ကား။ ပြည်ထဲရှင်မ။ နိဂုံး မြို့ရွာ ဇနပုဒ် သားတို့ကိုလည်းကောင်း။ သင်မှစ၍ ဘုံနန်းနေ ခင်ပွန်း ရှိသမျှ တို့ကိုလည်းကောင်း။ သားသမီးချွေးမစသော အဆွေအမျိုး အပေါင်းကို လည်း ကောင်း။ စစ် သူကြီး မှူးမတ် ပုရောဟိတ် သူရဲ အပေါင်းတို့ကိုလည်းကောင်း။ တိုင်းကြီးပြည်ကြီး ထီးနန်းစည်းစိမ် ကိုလည်း ကောင်း။ ငဲ့ကွက်ခြင်းမရှိ စွန့်ပစ်တော် မူ၍။ ရဟန်း အဖြစ်၌ ယခု ငါ တည်တော် မူပြီး ဖြစ်သောကြောင့်။ ရဟန်းဖြစ်သောငါ့အား သားသမီးဟူ၍မရှိပြီ။ ဝိဒေဟရာဇ်တိုင်းကြီး သူတို့၏ နေ့တိုင်းမျက်ရှု။ သားဟုမှတ်၍။ ချစ်မြတ်နိုးအပ်သော ဒီဃာဝု သတို့သား သည့်ကား။ ထီးနန်း ရှင်တို့၏ သားလည်းမှန်၏။ နှလုံးအသိ ပညာလည်း လိမ္မာယည်ကျေး၏။ မိမိစိုးပွား။သူတပါးစိုးပွားနှစ်ပါးကို။စည်းစားမြော်ချင့်၍။အသင့်စိမံ။ ဝေပန် ခွဲခြမ်းနိုင်သော ဗလစွမ်းအန် နှင့်လည်း ပြည့်စုံ၏။ သင်ရာတတ်ရာသည့် အတတ်မျိုး၌လည်း တတ်သိကျွမ်းကျင်

၏။ ထိုဒီဃာဝုသတို့သား သည်။ ငါကဲ့သို့ပင်ဝိဒေဟရာဇ်တိုင်းကြီး၏ အစိုးအပွားကို ဆောင်၍။ ပြည့်စည်းစိမ်ကို သိမ်းမြန်းစိုးအုပ် လတံ့။ ငါ မထုံးဖွဲ့ ခဲ့သည် ဟူ၍။ ပြည်သူတို့အား ကိုးကွယ်ရာမဲ့ မရှိနိုင်ပြီဟု ဆို၏။ ဘုရားလောင်း စကားကို ကြားလျှင်။ အိမ်ရှေ့မင်း မယ်တော် သည် ဘုရားလောင်း နောက်တော်က အစည် တစိုက် လိုက်လျက်။ အရှင်မင်းကြီး။ ကိုယ်တော်ရဟန်းပြုခဲ့လျှင်။ ဘုရားကျွန်မကား တယောက်တည်း အသို့နေရပါအံ့နည်း။ မကြံနိုင်အောင် ကိုယ်တော်ပြုခဲ့၏ တကားဟု လျှောက်၏။ ထိုစကားကို ကြားလျှင် ဘုရားလောင်း သည် အိမ်ရှေ့မင်း မယ်တော်အား အကြံပေးလို၍။ ။ဣ ဘိတံအနုသိက္ခာမိ။ အစရှိသောနှစ်ဂါထာဖြင့် အဆုံးအမပေးတော်မူ၏။

အဓိပ္ပာယ်ကား။ ပြည်ထဲ ရှင်မ။ ကောင်းပြီ။ သင် မကြံနိုင်လျှင်။ ဤသို့လာလှည့်၊ ငါအကြံပေးအံ့။ ယခု သင့်သား မင်းပြုလျှင်။ အမှုအခွင့်မျိုးကို သင်မစောင်မဘဲ မနေနိုင်ရာ။ ကြည့်ရှုစောင်မ ရ သဖြင့်လည်း။ မဖြောင့်သော အမှုကို အဖြောင့်ပြုခြင်း၌ အလွန် ခဲယည်း လှသည်ဖြစ်၍။ ကိုယ်နှုတ်နှလုံး သုံးပါးတွင်တပါးပါးဖြင့်။ထိုအမှုကိုမှီ၍ဒုစရိုက်ပွါးရာ၏။ ထိုဒုစရိုက်သည်ကောင်းသောဂတိသို့ပို့ဆောင်တတ်သည်မဟုတ်။ ယုတ်ညံ့ဆင်းရဲစွာ။ လေးဖြာသောအပါယ်သို့ ပို့ဆောင်တတ်သောသဘောသာဖြစ်၏။ ယင်းသို့ဖြစ်သောကြောင့်။ သားနှင့် အတူနေလျှင် မကောင်းမှုသာ များ၍ အပါယ် လား တော့မည်။ တအိမ်တလုပ်ရတတ် သမျှဆွမ်း။ ရတတ်သမျှသင်္ကန်းနှင့်။သပိတ်လက်စွဲလျက် ရဟန်းပြုပြီးလျှင်။ ကုသိုလ်ပွါးရာအရပ်၌သာ တယောက်တည်းချင်း ကမ္မဋ္ဌာန်းကို ရှေးရှု၍ နေလေတော့။ ထိုသို့နေခြင်း သည်လျှင်။ သူတော်ကောင်းတို့ ချီးမွမ်းအပ်သော ဓလေ့ဖြစ်တော့သည်ဟု အဆုံးအမ ပေးတော်မူ၏။ ဤသို့အချင်းချင်း စကား ပြောဟော ၍ သွား စည်ပင်။ ထိုနေ့ နေဝင် အချိန်ရောက် ခဲ့၍။ ရန အမည်ရှိသော မြို့သို့ မရောက် မှီ တွင်။ အိမ်

ရှေ့မင်း မယ်တော် လည်း။ သင့်ရာ အရပ်၌ သစ်တပ် တည် ၍ ညည့်တည်းနေလေ၏။ ဘုရားလောင်းလည်း လူပရိသတ်နှင့် မနီး မဝေးဖြစ်သော သစ်ပင် ရင်း၌ ညည့် တည်းနေတော် မူလေ၏။နံနက်မိုးယံသောက်ရောက်လတ်သော်။ ဘုရားလောင်းသည်။ ထိုစားခန်းမှကြွသွားတော်မူပြန်လေ၏။ အိမ်ရှေ့မင်းမယ်တော်လည်း။မှူးမတ်ဗိုလ်ပါတို့ကို။သင်တို့နောက်မှဖြည်းဖြည်းသာသာလာခဲ့ကြတော့ဟုဆို၍။ တယောက်တည်းချင်း။ ဘုရားလောင်းနောက် တော် သို့ အမှီ လိုက်လေ၏။ ထိုမင်း မိဖုရား နှစ်ပါး တို့သည်။ ခရီးအစည်အတိုင်းသွား၍။ ဆွမ်းခံဝင်အချိန်တွင် ရနုံမြို့သို့ ရောက်လေ၏။ ထိုအခါ မြို့တွင်း၌ ယောက်ျား တ ယောက်သည်အိမ်ဈေးမှအမဲသားကိုဝယ်၍။ တံရှိုနှင့်မီးကျီးရမှာကင်ပြီးလျှင်။ ဧစေ အံ့ဟု တရသော ပျဉ်စွန်း ပေါ်၌ ထား လျက်။ တပါးကိုနှလုံးမူ၍မိမိရပ်နေလေ၏။ ထိုအခိုက်တွင်။ ခွေးတခုသည် ထိုအမဲကင်ကိုချီလျက်။ တောင်တံခါးသို့ရှေ့ရှု ပြေးလေ၏။ ထိုယောက်ျားသည် ခွေးချီကြောင်းကိုသိလျှင်။ ထိုခွေးကိုတောင် တံခါး ဝ တိုင်အောင် လိုက်ပြီးမှ။ မမှီသဖြင့် ငြီးငွေ့၍။ ဆုံးပစေတော့ဟုပြန်ခဲ့၏။ ဘုရားလောင်းသည်လည်း။ အိမ်ရှေ့မင်း မယ်တော်နှင့်။ ထိုမြို့ တံခါးသို့ ရှေ့ရှု လာလတ်သဖြင့်။ ထိုခွေးနှင့် ရင်ဆိုင်တွေ့ကြုံလေသော်။ ခွေးသည် ကြောက်သောအားဖြင့်။ အမဲကင်ကိုပစ်ချ၍။ လွတ်ရာသို့ပြေးလေ၏။ ထိုအခါဘုရားလောင်းသည်။ ခွေး စွန့်ပစ်လေပြီးသော ထိုအမဲကင်ကိုမြင်လျှင်။ ထိုခွေးကား ငဲ့ကွက်ခြင်းမဲ့။ ဤအမဲကင်ကို ချ၍ပြေးလေပြီ။ တပါးအရှင်လည်း မရှိဖြစ်သောကြောင့်။ ဤအမဲကားပံ့သုကူဆွမ်းစင်လှ၏ဟုကြံတော်မူလျက်။ မြေသပိတ်ကိုအိတ်မှထုတ်တော်မူ၍။ အမဲကင်ကိုကောက်ယူတော်မူပြီးလျှင်။ ရေရှိရာအရပ်သို့ဘုန်းပေးအံ့ဟုကြွတော်မူလေ၏။

ထိုအခါ။ အိမ်ရှေ့မင်း မယ်တော် သည် ဤသို့ ကြံ၏။ မင်းကြီးသည် ပြည်စည်းစိမ်ကိုငဲ့ကွက်ခြင်းမရှိ၍။ ရဟန်းအဖြစ်၌

မခိုင်သေးသော နှလုံးရှိသည်မှန်လျှင်။ ဤ ရွံ့ရှာဘွယ် မြေမှုန့်အ
လိမ်းလိမ်းကပ်သောခွေးစားကြွင်းအမဲကိုမစားရာ။အကယ်၍
ဤအမဲကို စားချေလျှင်လည်း။ ငါတို့ကိုအုပ်ချုပ်လိုသော နှလုံး
တဆံခြည်မျှ ငြိတွယ်ခြင်း မရှိချေပြီဟု ကြံပြီးလျှင်။ အရှင်မင်း
ကြီး။ ဤစက်ဆုပ် ရွံ့ရှာဘွယ် မြေမှုန့် အလိမ်းလိမ်း ကပ်သော
ခွေးစားကြွင်းအမဲကိုသုံးဆောင်တော်မူမည့်ကိုယ်တော်အကြံ
ရှိသလော။ ရွှနှန်းရှင် စားတော်မဟုတ် မထိုက်ပါ တကားဟု
လျှောက်၏။ မိဖုရားစကားကိုကြားလျှင်။ ဘုရားလောင်းသည်
ပြည့်ထဲရှင်မ။ သင်ကား မလိမ္မာသောကြောင့်။ ဤအမဲကင်၏
သြဇာ ထူး ကို မသိ လေဟု ဆို တော် မူ ပြီး လျှင်။ ရေ ရှိရာ အ
ရပ်၌ ထိုင်တော်မူ၍။ ဤအမဲ၏ ခမ္မိယာလဒ္ဓ စင်သည့်၏ အဖြစ်
ကို ဆင်ခြင်တော်မူလျက်။ နတ်သုဓာဘုတ်ကဲ့သို့။ မြိန်မြိန်ရှက်
ရှက်ဘုန်းပေးတော်မူပြီး၍။ခမ္မခရိုင်ဖြင့်စစ်၍။ရေကိုသုံးဆောင်
တော်မူပြီးလျှင်။ နှုတ်ခမ်းတော် သပိတ်တော် လက်တော် တို့
ကိုဆေးတော်မူ၏။ ထိုအခါသီဝလိဒေဝီမိဖုရားကြီးသည်။ ဘု
ရားလောင်းအားကဲ့ရဲ့ပြစ်တင်ပြုလို၍။ ။ယောပိစတုတ္ထေ
ဘတ္တကာလေ။ အစရှိသောဂါထာခွဲဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ မဟာဇနကမင်း။ အမျိုးကောင်းသားဖြစ်
သော သူတော်ကောင်းသည်။ သုံးရက် လေးရက်။ အစာမမှိဝဲ
ရဘဲ ငတ်မွတ်ခွာရှိသော်လည်း။ ဤအမဲကင်ကဲ့သို့ ရွံ့ရှာဘွယ်
အစာကို ရသည်ဟူ၍ မစားရာ။ အသက်ကို အသေခံရာသည်
မဟုတ်လော။ ထိုသို့လျက်သခင်မှာမူကား။ သူကောင်းသားမ
ဟုတ်လေ။ ဤသို့ ရွံ့ရှာဘွယ်မြေမှုန့် အလိမ်းလိမ်း ကပ်သော
ခွေးစားကြွင်းအမဲကိုပင်။ ရင်ကိုခွဲဘိသကဲ့သို့ရှိအောင်။ ကျွန်မ
ကို ရှေ့တွင်ထား၍။ အားမှုမနာ မြိန်မြိန် ရှက်ရှက် ကိုယ်တော်
သုံးတော်မူဘိ၏။ အကြောင်းမဘွယ်ရာ တကားဟုဆို၏။ မိဖု
ရား စကားကို ကြားလျှင် ဘုရားလောင်း သည်။ ထိုအမဲကင်၏
မြတ်သော အစာဖြစ်ကြောင်းကိုပြတော်မူလို၍။ ။နစာပိ

မေသီဝလိသောအ ဘက္ခော၊ ယံဟောတိစတ္တံဂိဟိနောသုနဿ
ဝါ။ ယေကေစိဘောဂါ ဣဓဓမ္မလဒ္ဓါ။ သဗ္ဗော သောဘက္ခောအ
နဝယောတိဝုတ္တော။ ။ဟူသောဂါထာဖြင့်ဆိုတော်မူ၏။

သီဝလိ။ သီဝလိ။ မေ။ ငါ့အား။ သော။ ထိုဆွမ်းသည်။ နစာပိ
အဘက္ခော။ မစားကောင်းသည် မဟုတ်။ ကသ္မာ၊ အဘယ်
ကြောင့်နည်းဟူမူကား၊ ယံ။ အကြင်ဝတ္ထုကို။ ဂိဟိနောဝါ။ လူ
သည်လည်းကောင်း။ သုနဿ ဝါ။ ခွေးသည် လည်းကောင်း။
စတ္တံ။ စွန့်အပ်လေပြီးသည်။ ဟောတိ။ ဖြစ်၏။ တံ။ ထိုဝတ္ထုသည်။
ပံသုကူလံနာမ။ ပံသုကူဆွမ်းမည်၏။ သီဝလိ။ သီဝလိ။ ဣဓ။ ဤ
လူ့ပြည်၌။ ယေကေစိ။ ခပ်သိမ်းကုန်သော။ ဘောဂါ။ စည်းစိမ်
ချမ်းသာ တို့ကို။ ဓမ္မလဒ္ဓါ။ တရားသဖြင့် ရအပ် ကုန်၏။ သော
သဗ္ဗော။ ထိုအလုံးစုံသည်။ ဘက္ခော။ ခံစားကောင်းသည်ချည်း
တည်း။ အနဝယော။ အပြစ်မရှိ။ ဣတိ။ ဤသို့။ သပ္ပုရိသေဟိ။ သူ
တော်ကောင်းတို့သည်။ ဝုတ္တော၊ ဆိုအပ်၏။ ။ဤကားအနက်။

အဓိပ္ပါယ်ကား။ သီဝလိ။ သင်ကားကောင်းမွန်စွာအမွှေးအ
ကြိုင် အဆီအပြားဖြင့်စီရင်အပ်သောအစာကိုသာ သူကောင်း
သူမြတ်တို့အစာဖြစ်သည်ဟု မှတ်ထင်ဘိ၏။ ဤအမဲကင်၏သူ
ကောင်း သူမြတ်တို့ အစာ ဖြစ်ကြောင်း ကို သင် မသိလေ။ အ
ဘယ်ကြောင့် နည်းဟူမူ။ ဤ အမဲကင်ကို အရှင် ဖြစ်သော လူ
သည်လည်းကောင်း။ ခွေးသည်လည်းကောင်း။ စွန့်ပစ်လေပြီး
ဖြစ် သောကြောင့်။ ထိုအမဲကင်သည် ပံသုကူစင်စစ် မှန်လှ၏။
ထိုပံသုကူ ဖြစ်သောအစာကို ငါရခြင်းသည်လည်း။ တရားသ
ဖြင့်ရသည် စင်စစ်မှန်၏။ ထိုတရားသဖြင့်ရသော အစာသည်
သာလျှင်သူကောင်းသူမြတ်တို့၏အစာဖြစ်သည်။ သီဝလိ။ ဤ
အစားအသောက်၌သာမဟုတ်။ လောက၌အဝတ်တန်ဆာဖြစ်
စေ။ ရွှေငွေစသောဥစ္စာစည်းစိမ်ဖြစ်စေ။ အလုံးစုံလူတို့အသုံးအ
ဆောင်ဟူသမျှမှာပင်။ အတိုးထိုက်သည် မထိုက်သည်။ တင့်
တယ်သည်မတင့်တယ်သည်ကိုအမြတ်အယုတ်မခွဲဝေသာ။ တ

ရားသဖြင့် ရသည်မရသည်ကိုသာ အမြတ်အယုတ်ခွဲဝေထိုက်၏။ တရားသဖြင့်ရသောပစ္စည်းပရိက္ခရာ ဥစ္စာစည်းစိမ်သည်။ ပဲဝက်မျှပင် အဘိုးထိုက်စေကာမူ။ သူကောင်း သူမြတ်တို့ သုံးဆောင်သော ပစ္စည်း ဖြစ်တော့သည်။ မတရားသဖြင့် ရသောပစ္စည်းပရိက္ခရာဥစ္စာစည်းစိမ်သည်။ အဘိုးအသိန်းအသန်းပင်ထိုက်စေကာမူ။ သူယုတ်မာတို့၏သုံးဆောင်ခြင်းသာဖြစ်သောကြောင့်။ သူကောင်းသူမြတ်တို့ သုံးဆောင်ထိုက်သောပစ္စည်းမဟုတ် ဟူ၍။ ဓမ္မ ပညာ ရှိတို့ ဆိုတော် မူခဲ့သော စ ကား ထုံးဟောင်း။ လမ်းကြောင်းထင်ရှားရှိသည်ကို သင်မသိလော။ တရားသဖြင့် ရသည်ဖြစ်၍။ အလွန် မြတ်လှစွာသော ဤအမဲကင်ကို။ အဘယ်ကြောင့် သူယုတ်တို့၏အစာဖြစ်သည် သင်ဆိုဘိသနည်းဟု ဆိုတော်မူလျက်။ နေရာမှထ၍ ကြွတော်မူပြန် လေ၏။ အိမ်ရှေ့မင်း မယ်တော်လည်း နောက်တော်က အစည်တစိုက်လိုက်လေ၏။ ထိုသို့မင်းနှစ်ပါးတို့သည် စကားပြောဟောကာ သွားကြသဖြင့်။ ရုနမြို့ တောင်တံခါးဝသို့ ရောက်ကြလေ၏။ ထိုမြို့တံခါးဝ၌ကား။ သတို့သမီးငယ်တို့သည်။ အိုးဖုတ်ငယ် ခွက်ငယ် စံကောငယ်တို့ဖြင့်။ သဲကိုထမင်းချက်ဟန်။ ဆန်ခြင်ဟန်။စပါးလှေ့ဟန်။ ဆန်ပြာဟန် ကစား၍နေကြကုန်၏။ ထိုသတို့သမီးငယ်တရုတွင်။ တယောက်သောသတို့သမီးငယ်၌။ လက်ရာဘက်ဝယ် ရွှေလက်ကောက် နှစ်ဆင့်။ တဘက်မှာကား တဆင့်တည်းဝတ်ဆင်လျက်။ စံကောငယ်ဖြင့်သဲကိုဆန်ပြာဟန်ဗိုင်းဟန်ပြု၍ ကစားလေသော်။ လက်ကောက်နှစ်ဆင့် ဝတ်ရာလက်က။ လက်ကောက်ချင်းခတ်မိသဖြင့်အသံဖြစ်၏။ တဆင့်တည်း ဝတ်သော လက်ကကား။ ခတ်မိစရာ မရှိသောကြောင့်အသံမဖြစ်။ ထိုအခြင်းအရာကိုဘုရားလောင်းမြင်လေလျှင်။ ဤသို့ကြံတော်မူ၏။ ယခုသီဝလိဒေဝီသည် ငါ့နောက်သို့ အစည်တစိုက် လိုက်ဘိ၏။ မိန်းမ မည် သည် လည်း ရဟန်း တို့၏ အညစ်အကြေးဖြစ်ခဲ့သည်။ ငါ့ကိုသူတပါးမြင်သော်။ ဤသူကား

ရဟန်း ပြုသည့် တိုင်အောင် ပင်လည်း မယားကို မစွန့်ပစ်လေဟု ကဲ့ရဲ့ဘွယ် ရောက်ခဲ့၏။ ဤ ဓမ္မလက်ကောက်ရှင် သတ္တိသွီးငယ်သည့် ပညာရှိသူဖြစ်မှုကား။ ငါနောက်သို့ သီဝလိဒေဝီ မလိုက်စို့အောင် ဆိုနိုင်လိမ့်အံ့။ ထိုသတ္တိသွီးငယ်၏ စကားဖြင့်။ သီဝလိဒေဝီ လက်မှ ငါလွှတ်သင့် ကောင်း၏ဟု ကြံတော်မူ၍။ သတ္တိ သွီးငယ် ၏ အနီးသို့ ချည်းလျက်။ အကြောင်းကို မေးအံ့သောဌာ။ ။ကုမာရိကေ ဥပသေနိယေ။အစရှိသောဂါထာဖြင့်ဆို၏။

အဓိပ္ပာယ်ကား။ အဝတ်တန်ဆာ ဝတ်ဆင်လျက်။ အမိရင်ခွင်၌သာ နိုကာတွဲကာ နေချိန် အရွယ်ဖြင့်။ အမိ ရင်အုပ်မကွာသေး သော သတ္တိသွီးငယ်။ အဘယ်ကြောင့် သင်၏ လက် တဘက်ကားမြည်သနည်း။ တဘက်ကားအဘယ်ကြောင့်မမြည်သနည်းဟုမေးတော်မူ၏။ ဘုရားလောင်းစကားကိုကြားလျှင်။ သတ္တိ သွီးငယ် သည် ပါရမီရှိ မိန်းမ ဖြစ်ခြင်း ကြောင့်။ အမေးနှင့်တန်ရုံသာမဖြေဘဲ။ ထုံးစံရလောက်အောင်။ ကရားရေပိတ်စကားဖြင့်ဖြေလို၍။

ဣမသ္မိံ မေ သမဏာ ဟတ္ထေ။ ပဋိမုက္ကာ ဒုနီဝရာ။ သံဃာတာဇာယတေသဒ္ဒေါ။ဒုတိယာဿဝ သာဂတိ။

ဣမသ္မိံ မေ သမဏာ ဟတ္ထေ။ ပဋိမုက္ကော ဧက နီဝရော။ သောအဒုတိယော နဇနေတိ။မုနိဘူတောဝတိဋ္ဌတိ။

ဝိဝါဒပ္ပတ္တော ဒုတိယော။ ကေနေကော ဝိဝဒိဿတိ။တဿတေ သဂ္ဂကာမဿ။ဧကတ္တမုပရောစိတံ။ ။ဟူသောသုံးဂါထာဖြင့်ဆို၏။

သမဏာ။ ရှင်ရဟန်း။ မေ။ အကျွန်ုပ်၏။ ဣမသ္မိံဟတ္ထေ။ ဤလက် တဘက်၌။ ပဋိ မုက္ကာ။ ဝတ် ကုန် သော။ ဒုနီဝရာ။ လက်ကောက် နှစ်ခြည့် တို့ သည်။ သံ ဃာတာ။ ထိကြ သော ကြောင့်။ သဒ္ဒေါ။ အသံသည်။ ဇာယတေ။ ဖြစ်၏။ သာဂတိ။ ထိုသို့အသံ

ဖြစ်ခြင်းသည်ကား။ ဒုတိယသောဝ။ နှစ်ချမြောက်သော လက်ကောက်အားသာလျှင်။ဟောတိ။ဖြစ်၏။

သမတ္ထာ။ ရှင်ရဟန်း။ မေ။ အကျွန်ုပ်၏။ ဒုမဘဗ္ဗိဟတ္ထေ။ ဤလက်တဘက်၌ကား။ ကေနိဝရော။လက်ကောက်တခြည်သာ။ ပဋိမုက္ကော။ ဝတ်၏။ သော။ ထို လက်ကောက် သည်။ အဒုတိယော။ အဘော် မရှိ သော ကြောင့်။ န ဇနေတိ။ အသံ မဖြစ် သတည်း။ရုနိဘူတော ဝ။ရဟန်းသဘွယ်ဖြစ်၍သာလျှင်။တိဋ္ဌတိ။ တည်၏။

သမတ္ထာ။ ရှင်ရဟန်း။ ဒုတိယော။ နှစ်ယောက်ရှိမှုကား။ ဝိဝါဒပတ္တော။ ငြင်းခုံခြင်းသို့ရောက်တတ်၏။ ကော။ တယောက်တည်းသည်။ ကေန။ အသူနှင့်။ ဝိဝဒိဿတိ။ ငြင်းခုံလတ္တံ့နည်း။ သဂ္ဂ ကာမဿ။ နတ်ပြည်ကိုအလိုရှိသော။ တဿ တေ။ ထိုရှင်ရဟန်းအား။ ကေတ္တံ့။ တယောက်တည်းသော အဖြစ်ကို။ ဥပရောစိတံ ဥပရောစိတု။ နှစ်သက်တော်မူလော့။ ။ဤကားအနက်။

အဓိပ္ပာယ်ကား။ ရှင်ရဟန်း။ အကျွန်ုပ် ၏ ဤ လက်၌ ကား လက်ကောက် နှစ်ဆင့် ဖြစ်၍။ အချင်းချင်း ခတ်မိသဖြင့် အသံဖြစ်၏။ ဤသို့ဖြစ်ခြင်းသည်ကား။ အဘော်အဘက်ရှိခြင်း၏ ခလေ့ဖြစ်တော့သည်။ ဤလက်၌ကားလက်ကောက်တခြည်သာဖြစ်၍။ အချင်းချင်း ထိခတ်စရာ မရှိသောကြောင့် အသံမဖြစ်။ ထိုသို့ မဖြစ်ခြင်း သည်ကား။ ကိလေ သာကို ပယ်ပြီးသော ရဟန်း ကဲ့သို့။ အဘော် မရှိခြင်း၏ ခလေ့ ဖြစ်တော့သည်။ ရှင်ရဟန်း။ ဤလက်ကောက်မှာသာ မဟုတ်။ လောက၌ ခပ်သိမ်းရုံသော အရာမှာပင်။ အဘော်အဘက် ရှိလျှင်။ ငြင်းခုံခြင်းဖြစ်ရခြင်းကားအမြဲတည်း။ အဘော်မရှိ တယောက်တည်းနေသော သူအား။ အဘယ် သူ လာ၍ ငြင်းခုံ ခြင်း ကို ပြု အံ့ နည်း။ နတ်ပြည်ကိုလိုသောကြောင့်။ မုတ်ဆိတ်ဆံကိုဖြတ်၍ရဟန်းပြုလေပြီးသော ရှင် ရဟန်း သည် လည်း။ အဘော် မပါ တ ယောက်

တည်း နေ ခြင်း ကိုသာ နှစ် သက် တော် မူ လေ့။ အ ဘယ် ကြောင့် ဤအရည်အသွေးနှင့်ပြည့်စုံစွာသော မိန်းမကို နောက် လိုက်ပြု၍။ မြို့ထဲရွာထဲ ကျက်စားလှည့်လည်ရသနည်း။ ဤအ မယ်ကား။ ရှင်ရဟန်း၏ ခင်ပွန်းလော။ နှမလော။ ရဟန်းတို့မှာ စင်စစ် နှမပင်ဖြစ်သော်လည်း။ အတူသွားခြင်း။ အတူနေခြင်း ကိုပြု၍ မလျောက်ပတ်တကား။ ရှင်ရဟန်းသည်။ ဤမိန်းမနှင့် အတူ နေဖန်များသဖြင့်။ မိန်းမကိုမှီ၍ဖြစ်သော ရဟန်း၏ အန္တ ရာယ်သည်မကြာမမြင့်မှီပင်ရောက်လတံ့ဟုဆို၏။

ဤအရာ၌ ကုမာရီ သဒ္ဒါဖြင့် ပြသောကြောင့်။ ထိုသတို့သမီး ငယ်ကား။ ရှစ်နှစ်ကိုးနှစ် ဂေါရီအရွယ် နို့ရည်မစင် မာန်မဝင် သေးသော မိန်းမလည်းမဟုတ်။ ဆယ်သုံးနှစ်လေးနှစ်ကညာအ ရွယ်အမိနို့ရည်စင်၍မာန်ဝင်စသောမိန်းမလည်းမဟုတ်။ ဇုတ္ထိ ဟုခေါ်ဝေါ်အပ်သောအိမ်ထောင်ပြီးသောမိန်းမလည်းမဟုတ်။ ဆယ်ငါးနှစ် အရွယ်လည်းရောက်။ အိမ်လည်း မထောင်သေး သောကြောင့်။ ကုမာရီခေါ်ဝေါ်အပ်သော မိန်းမတည်း။ ထိုကု မာရီ ခေါ်ဝေါ် အပ်သော မိန်းမ ကား။ ဆယ် ငါးနှစ် အရွယ် မှ သည့် အိမ်မထောင် သေးလျှင်။ လူတို့အသက်တမ်း၌ ပဉ္စမအ ရွယ်ကုန်အောင်ကုမာရီဟုခေါ်ဝေါ်အပ်၏။ အိမ်ထောင်မှုကား ဆယ်ငါးနှစ်မျှပင် ဖြစ်သော်လည်း။ ကုမာရီ ဟူသော အဝတ္ထာ ပညတ် ကို စွန့်၍။ မဂဓ အားဖြင့် ဇုတ္ထိ။ မြန်မာ အားဖြင့် အိမ် ထောင်သူဟုခေါ်ဝေါ်လေတော့သည်။ ထိုကုမာရီသည်လည်း။ အငယ် အလတ် အကြီး အားဖြင့် သုံးပါး ရှိသည်တွင်။ ဤရွှေ လက် ကောက် ရှင် သတို့ သမီး ကား။ အလတ် အကြီး မ ဟုတ်။ ဆယ်ငါးနှစ် အရွယ်ရောက်စ။ အငယ်သာတည်းဟု ပြတော်မူ လို၍။ ကုမာရီဟုသာမညသာမဆိုဘဲ။ ကုမာရိကာဟုကအက္ခ ရာနှင့် ဆိုတော် မူသတည်း။ နာမ် ပုဒ် နောက် ကျသော ကအာ ဂုံသည်။ ပိုင်းခြားခြင်းအနက်။ အတိုင်းအရှည်အနက်။ အငယ် ဟူသော အနက်စသည်ဖြင့် ဟောရာတွင်။ ဤကုမာရိကာ၌က

သဒ္ဒါကား မာဏဝကဉ္စ ကသဒ္ဒါ။ ပေါတကဉ္စ ကသဒ္ဒါ တို့ကဲ့သို့။ အငယ်ဟူသော အနက်ကိုဟော၏။ ဤသို့အထွေထွာအက္ခရသညာ တောဟု ဟောတော်မူသည်နှင့်အညီ။ အနက်ကိုအက္ခရာသာလျှင် မှတ်ခြင်းရှိသောကြောင့်။ သဒ္ဒါကိုသိမြင်သဖြင့်အနက်စည်ကို သိရသည်ဟုမှတ်အပ်၏။ ထိုအရွယ်ရှိပြီးမှ။ ဘန်းငယ် စံကော ငယ်ဖြင့် ကစားလေ သည်ကား။ အသက် ရှည်သော ကာလ ဖြစ်၍ လည်းကောင်း။ ရွှေငွေဖြင့် ပြီးသော လက်ကောက် ခြေ ချင်း စ သည် တန် ဆာ ဆင် ယင် ကုန် သော သူကောင်းသူမြတ်သား ဖြစ်၍လည်းကောင်း။ ငယ်ကိုယ် ငယ်စိတ်နှင့်သာ နေရခြင်း များသောကြောင့် ကစားလေသတည်း။ ဤကား သဒ္ဒါ လက္ခဏာ ဥ္စ ယူနည်း ကို မှတ်စေ လို၍ စကား ချပ်လိုက်သည်။

ထိုသတို့သမီး စကားကိုကြားလျှင်။ ဘုရားလောင်းသည် ဤသတို့သမီးငယ်ကားငါ့ကိုကောင်းစွာဆုံးမပေ၏။ ဤသတို့သမီးစကားဖြင့် သိဝလိ ဒေဝီ လည်း နှလုံး ချပ်မိ ကောင်းပြီ။ ငါ အားထောက်ပံ့ ကူမ ခြင်းကို ထိုသတို့ သမီးငယ် ပြုပေ သည်ဟု ကြံလျက်။ သိဝလိဒေဝီနှင့် စကားပြောဟောတော်မူလို၍။ ။သုဏာသိ သိဝလိ ကထာ။ အစ ရှိသော နှစ်ဂါထာ ခွဲဖြင့် ဆို တော်မူ၏။

အဓိပ္ပာယ်ကား။ သိဝလိ၊ ဤသတို့သမီးငယ်ဆိုသော စကားကို သင် နားချပ် မိပါ ၏ လော။ ဤသတို့သမီးငယ်သည် အရွယ်အားဖြင့် ထောက်သော်သည်း။ ငါ့သမီး ငါ့မြေး လောက်သာ ရှိသည်။ အမျိုးစည်းစိမ်ဂုဏ်အားဖြင့် ထောက်သော်လည်း။ ငါ့အစေအပါ ကျွန်အမှုလုပ် မျှလောက်သာ ရှိသည်။ အဆင်း အရည်အားဖြင့် ထောက်သော်လည်း။ ငါ့ခြေရင်းအလုပ်အကျွေးမျှလောက်သာရှိသည်။ သို့ကိုစင်လျက်။ ထိုသတို့သမီးငယ်၏ ကဲ့ရဲ့ခြင်းကို ငါခံရ သည်မှာ။ သင့်ကြောင့်သာငါခံရသည်။ ဤကိုဆင်ခြင်သဖြင့်။ ငါ့ကိုသနားချစ်ခင်ပါလျှင်။ ပြည်ထဲရှင်မ မိန်း

မကောင်း။ ဤခရီး နှစ်ကြောင်းတွင်။ သင် နှစ်သက်ရာ ခရီးကို ငါနှင့်ခွဲ၍ သွားပါလေ။ သင်မသွားသော ခရီးကို ငါလည်းသွားပါလေအံ့။ ယနေ့မှစ၍။ ငါ့ကို လင်ပါဟူ၍ သင် မပြောမဆိုပါလေနှင့်။ ငါ လည်း သင့်ကို မယား ဟူ၍ မဆို မပြော ရပါ စေ နှင့်တော့။သင့်ကိုမှီ၍ပင်။ ငါ့ကိုဆုံးမရမည့်သူ။ငါနှင့်အဘက်တန်သူမဟုတ်။ ငါ့အစေအပါမျှလောက်မရှိသဲလျက်။ ဤသတို့သမီးငယ် သည် မိမိ အစေ အပါ ကဲ့သို့။ ငါ့ကို ကဲ့ရဲ့ ဘိ၏။ ငါ့ နှမကောင်း။ ယခုငါဆိုသောစကားကိုနားထောင်၍။ကုသိုလ်ပွားရာ သင်တခြား သွားပါ လေတော့ဟု ဆိုတော်မူ၏။ ထို စကားကိုကြားလျှင်။ အိမ်ရှေ့မင်းမယ်တော်သည် နှလုံးသားကို ရဲလှစွာသော သံတွေဖြင့် မွှေဘိ သကဲ့သို့။ ပြင်းစွာသော စိတ်၏ ပူပန်ခြင်း ရှိသော်လည်း။ သတို့သမီးငယ်၏ ရှေ့တွင် ဖြစ်၍လည်းကောင်း။ ဘုရား လောင်း ၏ စကား ကို မလွန် ဝံ့ဖြစ် ၍ လည်းကောင်း။ အရှင်မင်းကြီး။ အရွယ် ရောက်ဦးကစ၍။ အနှစ်ခုနှစ်ထောင်ပတ်လုံး အတူတကွ ထီးနန်းစိုးစံကြပါသည်ကို။ ယနေ့တွင်မှသာ ကျွန်မလင် မဟုတ်ဟု အဘယ် သို့ ပြော ရက်နိုင် ပါအံ့နည်း။ ကိုယ် တော် အတူ မလိုက် စေ လိုလျှင်။ ကိုယ် တော်ကား ယောက်ျားမြတ် ဖြစ်ပေ သောကြောင့်။ ဤ လက်ျာ ဘက်ခရီးဖြင့် ကြွတော်မူပါလော့။ အကျွန်ုပ်ကား ဤလက်ဝဲခရီးဖြင့်သွားပါလေအံ့ဟု ဆို၍။ လက်ဝဲဘက် ခရီးဖြင့် အတန်ငယ်သွားပြီးလျှင်။ ကိုယ်ကွဲသော်လည်း။ စိတ်မကွဲသဲတွဲဆိုင်းလျက်သာရှိသောကြောင့်။ မခွာရက်နိုင်သည်ဖြစ်၍။ ထိုခရီးမှတဖန်ပြန်လည့် ခဲ့ပြန်သဖြင့်။ ဘုရား လောင်းနှင့် အတူ ပင်လျှင်။ နောက်တော်က စကား ပြော ကာ လိုက် ပြန် လေ ၏။ ဘုရား လောင်းလည်း မိဖုရားကို မပစ် မခွာနိုင်သည်ဖြစ်၍။ မင်းနှစ်ပါး အတူပင်လျှင်။ ထုန မြို့တွင်းသို့ ဆွမ်းခံ ဝင်တော် မူရ လေ ၏။ ဘုရားလောင်းသည် ထိုမြို့၌အိမ်စဉ်ဆွမ်းရပ်လေသော်။ တယောက်သော လေးသမား၏ အိမ်တံခါးဝသို့ရောက်၍ ရပ်တော်မူ၏။ သိ

ဝလိဒေဝီလည်း သင့်ရာကရပ်နေလေ၏။ ထိုအခါထိုလေးသွား
သည်။ မိမိ အိမ်ဝ တွင် မီး မယ်ပျူး တခု နှင့် မြှားကို မီးကင်ပြီး
လျှင်။ မျက်စိတဘက်ကို မှိတ်စေလျက်။ တဘက်သောမျက်စိ
ဖြင့်ကြည့်၍။ မြှားတံကို ပဒုံးရည် ဆွတ်ကာ ဖြောင့်လျက်နေ
၏။ ဘုရား လောင်း သည် ထို လေးသွားကို မြင်လျှင်။ ဤ လေး
သွားကား အကယ် ၍ ပညာရှိသည် ဖြစ်မူ။ ငါ့အား တရံ တခု
သော အကြောင်းကို ဆိုလတံ့။ ထို လေးသွားအား ယခု ငါမေး
အံ့ဟုကြံ၍။ လေးသွားအနီးသို့ ကပ်လေပြီးသော်။ ။ဧဝံနေသ
သာဓုပဿသိ။ အစရှိသောဂါထာဖြင့်မေးတော်မူ၏။

အဓိပ္ပာယ်ကား။ မြှားသွား။ ငါဆိုအံ့သော စကားကို သင်
နာလော့။ ယခုသင့်မျက်စိတဘက်ကိုမှိတ်လျက်။ တဘက်ဖြင့်
သာကြည့်၍။ မြှားကိုဖြောင့်အံ့၏။ ဆီမီးနှစ်တိုင် ပြိုင်၍ ထွန်း
သကဲ့သို့။ မျက်စိ နှစ်ဘက်ဖြင့်ကြည့်လျက် ဖြောင့်လျှင်။ သာ၍
ဖြောင့်လွယ် ပါမည် မဟုတ်လော။ အဘယ်ကြောင့် မျက်စိတ
ဘက်ကိုမှိတ်ရသနည်း။ မျက်စိတဘက်တည်းဖြင့်ကြည့်ခြင်းနှင့်
သာ၍ မြင်လေသလောဟုမေးတော်မူ၏။ ဘုရားလောင်းစကား
ကိုကြားလျှင်။ လေးသွားသည်ဖြည့်ဆည်းဘူးအပ်သောပါရမီ
ရှင်ဖြစ်၍ ပညာရှိခြင်းကြောင့်။ အတင်ပြေရုံမျှသာ မချေဆိုဘဲ။
စကားလမ်းသင့်တိုင်းဖြေဆိုလို၍။ ။ဒွိဟိသမဏစက္ခူဟိ။
ဝိသာလံ ဝိယ ခါယတိ။ အသမ္ပတွာ ပရမံ လိင်္ဂံ။ နုဇုဘာဝါယ
ကပ္ပတိ။

ဧကဉ္စစက္ခုံ နိဂ္ဂယှ။ ဝိမှမေကေနပေက္ခတော။ သမ္ပတွာ ပရ
မံ လိင်္ဂံ။ ဥဇုဘာဝါယ ကပ္ပတိ။

ဝိဝါဒပတ္တော ဒုတိယော။ ကေနေကော ဝိ ဝဒိဿ တိ။
တဿတေသ ဂ္ဂကာမဿ။ ဧကတ္တမုပရောစိတံ။ ။ဟူသော
သုံးဂါထာဖြင့်ဆို၏။

သမဏ။ ရှင်ရဟန်း။ ဒွိ ဟိ စက္ခူ ဟိ။ မျက်စိ နှစ် ဘက်တို့
ဖြင့်။ ပေက္ခတော။ ကြည့်သောသူအား။ ဝိသာလံဝိယ။ အပြင်

ဖြင့်။ ဝါ။ ရိ ဗိန် မှန်း မ သိ။ ခါယတိ။ အပြောမွဲ ထင် ၍။ ပရမံ။ သိမ်မွေ့သော။ လိင်္ဂံ။ အသွင်သဏ္ဍာန်ကို။ အသမ္ဗုဇ္ဈာ။ မဆင်ခြင်နိုင်သောကြောင့်။ ဥဇုဘာဝါယ။ ဖြောင့်တန်း စေခြင်းငှာ။ နကပ္ပတိ။ မအပ်။

သမဏ။ ရှင်ရဟန်း။ ဧကဉ္စစက္ခုံ။ မျက်စိတဘက်ကိုလျှင်။ နိဂ္ဂယှ။ မှိတ်၍။ ဧကေန။ မျက်စိ တဘက် တည်းဖြင့်။ ဇိမှံ။ အကောက်ကို။ ပေက္ခတော။ ကြည့်သောသူအား။ ပရမံ။ သိမ်မွေ့သော။ လိင်္ဂံ။ သဏ္ဍာန်ကို။ သမ္ဗုဇ္ဈာ။ မြင် သောကြောင့်။ ဥဇုဘာဝါယ။ ဖြောင့်စွာဖြစ်ခြင်းငှာ။ ကပ္ပတိ။ အပ်၏။

သမဏ။ ရှင်ရဟန်း။ ဒုတိယော။ နှစ်ယောက်မြောက်မှုကား။ ဝိဝါဒပေဇ္ဇော။ အငြင်းအခုံ ဖြစ်တတ်၏။ ဧကော။ တယောက်တည်းမှုကား။ ကေန။ အသူနှင့်။ ဝိဝဒိဿတိ။ ငြင်းခုံလတ္တံ့နည်း။ သဂ္ဂကာမဿ။ နတ်ပြည်ကိုအလိုရှိသော။ တဿ တေ။ ထိုရှင်ရဟန်းအား။ ဧကတ္တံ ဧကောဒိဘာဝေါ။ တယောက်တည်း နေသော အဖြစ် ကို။ ဥပရောစိတံ ဥပရောစိတု။ နှစ် သက် လေလော့။ ။ဤကားအနက်။

အဓိပ္ပါယ်ကား။ ရှင်ရဟန်း။ အဘော် များ တိုင်း အရာ ခပ်သိမ်းမှာ ကောင်းသည် မဟုတ်။ ဤမြှားဖြောင့်ခြင်း မည်သည်လည်း။ မျက်စိ နှစ်ဘက်ဖြင့်ကြည့်၍ ဖြောင့်ချေလျှင်။ စိတ်များခြင်းကြောင့် အာရုံ ပြားသည်ဖြစ်၍။ မြှား၏ အသိမ်အမွေ့ဖြစ်သော အဖို။ အရမ်း။ အဝှမ်း။ အလိမ်။ အဝိန်။ အထောင့်။ အဖြောင့်။ အကောက်ကိုမမြင်ဘဲ။ တပြင်တည်းသာထင်သဖြင့်။ အလွန် ဖြောင့် နိုင် ခဲ၏။ မျက်စိ တဘက် တည်း ဖြင့် ကြည့် ၍ ဖြောင့်ရမှုကား။ စိတ်တခုတည်းဖြစ်ခြင်းကြောင့် သမာဓိကိုရသဖြင့်။ အသိမ်အမွေ့ ဖြစ်သော မြှား၏အကောက်။ အဖြောင့်။ အထောင့်။အလိမ်။အဝိန်။ အဖိုကိုပြက်ပြက်ထင်ထင်မြင်သည်ဖြစ်၍။ ပြင်လွယ်ဖြောင့်လွယ်ရှိသတည်း။ ရှင်ရဟန်း။ ဤမြှားဖြောင့်ခြင်းမှာသာ မဟုတ်။ အလုံးစုံအဖြောင့်ပြုအပ်သည် ဟူ

သမ္မာအမှုမှာပင်။ နှစ်ကိုယ်နှစ်စိတ်နှစ်ပညာဖြင့်သာပြုချေက။ အ
နှောင့်အရှက် အဖြင်းအခုံ များသည်ဖြစ်၍။ သမာဓိကိုမရခြင်း
ကြောင့်။ အလွန် ဖြောင့်မှန် ရာသို့ ကျခဲ့၏။ မိမိ သတိပညာကို
ရင့်စေပြီး၍။ တကိုယ်တစိတ် တပညာ တည်းဖြင့်ပြုရမှုကား။
အာရုံ၌ သမာဓိကို ရခြင်းကြောင့်။ အလွန် ဖြောင့်မှန်ရာသို့ ကျ
လွယ်၏။ နတ်ပြည့်ကိုလို၍။ ဖန်ရည်စွန်းသောအဝတ်ကို ဝတ်
လေ ပြီးသော ရှင်ရဟန်း သည်လည်း။ အဘယ်ကြောင့် ကိစ္စ
များအောင် မိန်းမကိုခေါ်၍ လာဘိ သနည်း။ ဤမိန်းမကား အ
ရောင် အသွေးလည်း မပျက်။ အသွင် အပြင်လည်း မင်းသို့ အ
သွင် အပြင်ရှိ၏။ ရှင်ရဟန်း၏ နှမ လော။ ခင်ပွန်းလော စင်စစ်
နှမပင်ဖြစ်စေ။ ရဟန်းတို့နှင့် အတူသွားခြင်း။ နေခြင်းကိုပြု၍
မတင့် အပ် တ ကား။ ရဟန်း မည် သည် လည်း။ တ ယောက်
တည်းသာနေ၍ တရားအကျင့်ကိုရှာမှ။ ကောင်းသော အာရုံ၌
သမာဓိ ကို ရသဖြင့်။ တောင့် တသော အကျိုး ပြည့်စုံ မည် မ
ဟုတ်လော။ ဤမိန်းမနှင့်သာ ရှင်ရဟန်း နေလျှင်။ မကြာ မြင့်မီ
ပင် ရဟန်းသီလ၏ အန္တရာယ် ဖြစ်လတံ့။ ထိုကြောင့် ဤမိန်းမ
ကိုစွန့်ပစ်၍။ တယောက် တည်းချည်းသာနေလျက်။ ရဟန်းတ
ရားကို ဖြောင့်ဖြောင့် ကျင့်တော်မူလေ့ဟုဆို၏။ ဤသို့ ဘုရား
လောင်း အား အဆုံး အမ စကား ကို ဆို ပြီး လျှင်။ လေး သွား
သည်။ မိမိအိမ်၌ ဘုရားလောင်း ဆွမ်းရပ်သော အဖြစ်ကိုကား
နှလုံး မမူမိ သဖြင့်။ မေးမြန်း ခြင်းကိုမျှ မပြုဘဲ။ မြှားကို ဖြောင့်
ကာသာနေလေ၏။ ဘုရားလောင်းသည်လည်း လေးသွားနှင့် စ
ကားပြောဆိုပြီးလျှင်။ အိမ်စည်အတိုင်း လှည့်လည်၍ ဆွမ်းခံ
တော် မူသဖြင့်။ ဖွန်းစာ။ စလောင်းစာ။ အနုအကြမ်း ရောပြွမ်း
သော ဆွမ်းစမဲကို။ မျှလောက်အောင် ရပြီးသော်။ မြို့မှ ထွက်
တော်မူခဲ့၍။ ရေကောင်းရာ အရပ်၌ ဆွမ်းဘုန်းပေးတော်မူလေ
၏။ သိ ဝ လိ ဒေ ဝီ သည် လည်း။ ဘု ရား လောင်း ကြွ တိုင်း။
နောက် မနီးမဝေးက လိုက်လျက်။ ထိုဆွမ်း ဘုန်းပေး တော်မူ

သောအခါ၌လည်း။ အနီးအပါးသင့်ရာက ရှုကြည့်ကာ စောင့်နေလေ၏။ ဘုရားလောင်းသည် ဆွမ်းဘုန်းပေးပြီးသော်။ နှုတ်တော် လက်တော် သပိတ် တော် တို့ကို ဆေး ကြော ပြီး မှ။ သပိတ်အိတ်ကိုထုတ်၍သပိတ်တော်ကိုသွတ်လျက်။သီဝလီဒေဝီကို ခေါ်တော်မူပြီးလျှင်။ ။သုတ္တာသီသီဝလိကထာ။ အစရှိသောနှစ်ဂါထာခွဲဖြင့်။သတို့သမီးမှာကဲ့သို့ပင်ဆိုတော်မူပြန်၏။

အဓိပ္ပာယ်ကား။ သီဝလီ။ လေးသွားဆိုသောစကားကိုသင်ကြား၏လော။ ငါ့အစေအပါ ကျွန်အမှုလုပ်လောက်မျှမရှိသောဤ လေးသွား သည်။ ငါသို့သော သူကိုပင်။ မိမိ ကျွန် အမှုလုပ်လောက်မျှ မရှိအောင်ကဲ့ရဲ့ဖြစ်တင်ပြုဘိ၏။ ထိုလေးသွား၏ ကဲ့ရဲ့ခြင်းကို ခံရခြင်းသည်လည်း။ ငါ၌အပြစ်ရှိသောကြောင့် ခံရသည်မဟုတ်။ သင်ငါ့နောက်သို့ တဝါ ခြေထပ်။ ကပ်၍လိုက်သောကြောင့်သာခံရ၏။ ပြည့်ထဲရှင်မ မိန်းမကောင်း။ သင်ငါ့ကိုသနားချစ်ခင်ပါလျှင်။ ရဟန်းတရားကို လွတ်လွတ်ငါကျင့်ပါရစေ။ ငါ့နောက်သို့သင်မလိုက်ပါနှင့်။ ဤခရီးနှစ်ကြောင်းတို့တွင် လိုရာခရီးဖြင့်သင်သွားပါလေ။ သင်မသွားသော ခရီးဖြင့်ငါသွားပါလေအံ့။ ငါ့နှမကောင်း။ ယနေ့မှစ၍ ငါ့ကို လင်ဟူ၍မပြောဘဲ။ ကုသိုလ်ပွားရာအရပ်၌။ သုဂတိသို့ လားရကြောင်းကောင်း စွာ သင်လည်း ကျင့်လေ လော့။ ငါ လည်း သင့်ကို မယားဟုမပြောဘဲ။ ကုသိုလ်ပွားရာအရပ်၌။ တယောက်အထီးတည်း ရဟန်းတရားကိုကျင့်ပါလေအံ့ဟုဆို၏။ ဘုရားလောင်းစကားကိုကြားလျှင်။ သီဝလီဒေဝီသည် အပြစ်ကိုပြ၍တောင်းပန်သော ဘုရားလောင်းစကားကိုလည်း အားနာ။ ခွါ၍သွားရမည့်ကိုလည်း အလွန်ပူပန်ခြင်းဖြင့်။ စကားအထူးပြန်ထွန်၍ မလျှောက် ဘဲ။ အရှင် မင်း ကြီး။ ကိုယ်တော် ကား ယောကျ်ားမြတ် ဖြစ် သော ကြောင့်။ လက်ျာ ဘက် လမ်း ကို ကြွ တော် မူလော့။ အကျွန်ုပ်လည်း လက်ဝဲဘက်လမ်းဖြင့် သွားပါလေအံ့ဟုဆို၍။ လက်ဝဲလမ်းဖြင့်အတန်ငယ်သွားပြီးလျှင်။ သခင်။ ကိုယ်

တော်ကိုခွါ၍ကျွန်မ မသွားတတ်ပါဟုဆိုလျက် ပြန်လည်ခဲ့ပြန်
သဖြင့်။ ဘုရားလောင်း နောက်တော်သို့ပင်။ တောင်ကပ်ဖါးရား
လိုက်ပြန်လေ၏။ ဘုရားလောင်းသည် မိဖုရားကို မခွါမပစ် နိုင်
သည်ဖြစ်၍။ မိဖုရားနှင့် အဘူ ပင်လျှင်။ မြောက်ဟိမဝန္တာ သို့
ရှေ့ရှု ကြွတော်မူပြန်လေ၏။ မှူးမတ်ဗိုလ်ပါ အပေါင်းတို့ သည်
လည်း မိုလာလတ်၍။ ဘုရားလောင်း နောက်တော်သို့ ပင်လျှင်
လိုက်ကြပြန်လေ၏။ထိုသို့မင်းနှစ်ပါးသွားကြပြန်လေသော်။ရှေ့
မနီးမဝေး၌။ သစ်ကြီးဝါးကြီး။ဗိတ်ဆီးအုပ်ဆိုင်း။မှိုင်းမှိုင်းညို့
ညို့ရှိသော တောကြီး ပုံမြိုင်ကိုမြင်လျှင်။ ဘုရားလောင်းသည်
ထိုတောဝသို့ ရောက်သော အခါ။ မိဖုရားကို ပြန်စေ အံ့ဟု ကြံ
လျက်။ လမ်းနား၌ ရှိသော ပြွှဆံ မြက်ပင်မှ။ အညွန့်အမြိတ် စ
ကိုလက်တော်ဖြင့် ဖြတ်ယူပြီးသော်။ မိဖုရားကိုခေါ်၍။ သီဝလိ
သင်ရှုလော့။ ဤမြက်ညွန့်ကို ထိုအပင်၌ တဖန် ဆက်ပြန်လျှင်။
စပ်မိ နိုင်ပါ ဦးမည် လော။ ဤ မြက်ညွန့်နှင့် ဥပမာ တူစွာ။ ငါ
သည်လည်း ရဟန်းတရားကို ကျင့်လို သောကြောင့်။ သင်တို့
ကိုစွန့်ပြီးမှ တဖန်သင်တို့နှင့် ပေါင်းခြင်း ဘော်ခြင်း မည်သည်
ကိုမပြုလိုပြီ။ သီဝလိ။ အပင်မှဖြတ်ကင်းသော ပြွှဆံမြက်ညွန့်
ကဲ့သို့။ ငါတယောက် အထီးတည်း ဟိမဝန္တာ၌ ရဟန်းတရား
ကိုပွားစေ၍နေလေအံ့။ သင်သည်လည်း။ စည်းစိမ်ချမ်းသာ၌
ငြီးငွေ့ လောက်သော အရွယ်ရှိပြီ။ ငါနှင့်ကင်း၍ စည်းစိမ်ချမ်း
သာကိုခံစားခြင်းဖြင့်အဘယ်ပြုတော့အံ့နည်း။ ငါကဲ့သို့ပင်တ
ယောက် အထီးတည်း ရဟန်းပြု၍ နေရစ်လေလော့ဟု အဆုံး
အမပေးတော်မူ၏။ ထိုစကားကိုကြားလျှင်သီဝလိဒေဝီမိဖုရား
သည်ငါ့ကိုပစ်၍။ ကျေးဇူးရှင် ဤတောအုပ်သို့ဝင်မည် ကြံခဲ့ပြီ
တကား။ စိမ်းကားသောစကားကိုယခုဆိုတော်မူခဲ့၏ဟု။ ကိုး
ကွယ်ရာမရ ပူပန်ခြင်း ရှိသည် ဖြစ်၍။ မသေ နိုင်မှသာ ရှင်စေ
တော့ဟူသကဲ့သို့။ လက်ဆုပ် နှစ်ဘက်ဖြင့် ပြင်းစွာရင်ကို ခတ်
တီးလျက်။ ခရီးမ၌ မတ်တတ်ပင်လျှင် မိန်းမောခြင်းသို့ ရောက်

သဖြင့်။ အရင်း ပြတ်သော ငှက်ပျောတိုင် ကဲ့သို့ ယိုင် ကာ လဲ လေ၏။

ထိုအခါ ဘုရားလောင်းသည်။ မိဖုရားမိန်းမော၍ရှိကြောင်း ကိုသိလေလျှင်။ ခြေရာကိုဖျက်၍ တောအုပ်သို့ ပြေးဝင်တော်မူ လေ၏။အမတ်တို့သည်လည်းစိတ်ပျော့ကြ သဖြင့်။ဘုရားလောင်း သိသို့မလိုက်ဘဲ။ မိဖုရားမိန်းမော၍ ရှိသည်ကို သာ ရရုံးဝန်းအုံ ကြလျက်။ ရေဖြင့်သွန်းခြင်း။ ခြေလက်ဆုပ်နယ်ခြင်းတို့ဖြင့်ပြုရ ကုမကြ၏။ အိမ်ရှေ့မင်း မယ်တော်လည်း သတိရပြီးသော်။ အ မတ်တို့ကို။ အမောင်တို့။ မင်းကြီး အဘယ်မှာနည်းဟု မေး၏။ အမတ်တို့လည်း။ အကျွန်ုပ်တို့ကား ဝေးရာက ဖြစ်၍။ မင်းကြီး အဘယ်သို့ သွားသည် မသိ လိုက် ပါဟု လျှောက် ကြ ကုန် ၏။ အိမ်ရှေ့မင်း မယ်တော်လည်း။ အမောင်တို့။ ထိုသို့တပြီးကာ။ ယခု ပင် မင်း ကြီး ကို တွေ့အောင် ရှာကြဟု ဆို၏။ အမတ် တို့ လည်း။ ပြည်ထဲရှင်မ စကားကို မလွန်ဝံ့ သဖြင့်။ အသီးအသီး ခန့်ခွဲ၍။ ထိုတောရုံမြိုင်ထဲ၌။ ထိုမှဤမှ လှည့်လည်ရှာဖွေကြပြီး လျှင် ပြန်ခဲ့ ကြ ၏။ ခြေရာမျှ မထင်။ မတွေ့ မမြင် ကြောင်း ကို လျှောက်ကြကုန်၏။ ထိုအခါ အိမ်ရှေ့မင်းမယ်တော်သည်ပြင်း စွာ ငိုကြွေး ခြင်းဖြင့် ငိုကြွေး၍။ ဘုရားလောင်း ရပ်နေ တော် မူ လျက်။ မြူဆံ မြက်ကို ပြရာ အရပ်၌ စေတီ တည်ထား စေ ပြီး လျှင်။ ပန်းနံ့သာစသည်တို့ဖြင့်စေတီကိုရှိခိုးပူဇော်၍။ ထိုတော ဝမှ ဗိုလ်ထု နှင့် တကွ ပြန် လည် သေ၏။ ဘုရား လောင်း သည် လည်း။ ထိုဟိမ ဝန္တာ ၌ ကသိုဏ်း ပရိကံ တို့ကို ပွား စေ လတ် သော်။ ကြောင့်ကြကြီး ကြောင့်ကြ ငယ် တို့ ကို ဖြတ်ပြီး လျှင်။ စင်ကြယ်သောသီလသမာဓိရှိသောကြောင့်။ ခုနစ်ရက်တွင်း၌ ပင်လျှင်အဘိညာဉ်သမာပတ်ကိုရတော်မူသည်ဖြစ်၍။ အနှစ် သုံးထောင် ပတ်လုံး။ လူတို့သွားသော ခရီးသို့ တခါတဆစ်မျှမ လာဘဲ။ ဟိမ ဝန္တာ ၌ သာ လျှင် ဈာန်၏ မွေ့လျော်ခြင်းဖြင့် နေ တော်မူလေ၏။

ဒိဃ်ရွှေမင်းမယ်တော်သည်လည်း။ ထိုတောဝမှပြန်လည်၍ လာခဲ့သော်။ ခရီးအစည် အတိုင်း ပြန်သွား သဖြင့်။ ဂုန မြို့သို့ရောက်သော အခါ။ လေး သွားနှင့် ဘုရားလောင်း စကားပြောရာအရပ်၌ စေတီတဆူ။ သတို့သမီးနှင့် ဘုရား လောင်း စကားပြောရာ အရပ်၌ စေတီတဆူ။ ပံသုကူ အမဲကင်ကို ဘုန်းပေးတော်မူရာ၌စေတီတဆူ။ ထိုဂုနမြို့၌ စေတီသုံးဆူတည်၍။ ပန်းနံ့သာစသည်တို့ဖြင့် ရှိခိုးပူဇော်လျက် လာပြန်လတ်သော်။ ခရီးအစည်အတိုင်း။ မိဂါဇိန်ရှင်ရသေ့နှင့် စကားပြောတော်မူရာ၌စေတီတဆူ။ နာရဒ ရှင်ရသေ့နှင့် စကား ပြောတော်မူရာ၌ စေတီတဆူ။ ထိုစေတီတို့ကို တံခွန်ကုပ်ကားပန်းနံ့သာစသည်တို့ဖြင့် ပူဇော်၍ လာခဲ့ပြန်သော်။ ဘုရားလောင်း တောင်ဝေးတော်ဖြင့်ခရီးမတွင်။ ဗိလာဖြတ် အရေးသားတော် မူရာ၌ စေတီ တဆူ။ ငိမိလာပြည်သို့ရောက်လုနီး။ လူဆိုးလူပျက်ခိုးသူထားပြထကြောင်းကို အထက်ကမိဖုရားလျှောက်ထားရာ၌ စေတီတဆူ။ မီးလောင် ကြောင်းကို လျှောက်ရာ မြို့တွင်း၌ စေတီတဆူတည်ထားစေ၍။ ပန်းနံ့သာစသည်တို့ဖြင့်ပူဇော်လျက်။ ငိမိလာပြည်သို့ ရောက်လေ၏။ ထိုသို့ စေတီတော် များကို ပူဇော် ကိုးကွယ်ခြင်း ပွဲသဘင် ပြုပြီး သော်။ ဒိဃ်ရွှေမင်း မယ်တော်သည်။ မြို့ကို တန်ဆာဆင်စေလျက်။ မှူးမတ် ဗိုလ်ပါ စစ်အင်္ဂါ အပေါင်းခြံရံ၍။ ဒိဃ်ရွှေ မင်းနှင့်တကွ ဥယျာဉ်သို့ ထွက်ပြီးလျှင်။ ထိုဥယျာဉ် မင်္ဂလာ ကျောက်ဖျာ အပြင်၌ ဒိဃ် ရွှေ မင်း ကို နေစေ လျက်။ ရာဇာဘိသေက အဘိသိက် ဖြင့် အဘိသိက် သွန်း၍။ မှူးမတ်စစ်သည်ဗိုလ်ပါအလုံးအရင်းနှင့်တကွ။ ပြည်စည်းစိမ်ကို ဒိဃ်ရွှေမင်းအား အပ်နှင်းပြီးသော်။ ချစ်သား။ မောင့်ခမည်းတော် အုပ်ချုပ်သည် အတိုင်း။ ပြည်ထဲရေး လေးမျက်နှာသာယာငြိမ်ဝပ်အောင် တရားသဖြင့်မင်းပြုလေ။ မမေ့မလျော့စေနှင့်။ မိခင်မှုကား။ မောင့်ခမည်းတော် ဆုံးမခဲ့သည်အတိုင်း။ ဤဥယျာဉ်တွင် ရဟန်းပြု၍ နေရစ်အံ့ဟုဆိုလျက်။ အလုံးစုံကို

မှာ ထား၍ လွှတ်လိုက်၏။ သားတော် ဒီဃာဝု မင်း ကြီး သည် လည်း။ မှူးမတ်ဗိုလ်ပါအပေါင်းခြံရံလျက် မြို့တွင်းသို့ဝင်၍ထီး နန်း ကို သိမ်းမြန်း စိုးစံ လေ၏။ ဒီဃာဝု မင်း ကြီး မယ် တော် လည်း။ သားတော်မြို့သို့ ဝင်ပြီးသည့်နောက် ဆတ္တာ သည့်ကို ခေါ်၍။ ပရိက္ခရာ ကောင်းသော ဈေး၌ သင်္ကန်း သပိတ်ဝယ်စေ လျက်။ဆံချပြီးလျှင်ရဟန်းပြု၍။ထိုဥယျာဉ်၌နေလျက်။ကြောင့် ကြကြီး ကြောင့်ကြငယ်တို့ကိုဖြတ်သဖြင့်။ ကသိုဏ်းပရိကံကို ပွားစေလျက်။ မကြာမြင့်မှီပင်လျှင်။ ပဉ္စမဈာန်သမာပတ်ကိုရ လေ၏။

ဤ၌။ အဘိညာသမာပတ္တိယောနိဗ္ဗတ္တေတွာဟုမဆိုဘဲ။ဈာ နံနိဗ္ဗတ္တေတွာ ဟူ၍သာ ဆိုတော် မူခြင်း သည်ကား။ ပဋိသမ္ဘိ ဒါ ပတ္တ မဟုတ် သေး သော မိန်း မ တို့ မည် သည်။ ဈာန်ရ တို့ သော်လည်း။ အဘိညာသည့်၏အခြေဖြစ်သော စတုတ္ထဈာန်ကိုမ ရနိုင်။ စတုတ္ထ ဈာန်ကို မရ သဖြင့်လည်း အဘိညာသည်ကို မရ။ ပဉ္စမ ဈာန် သမာ ပတ်ကို သာ ရထွမ်း နိုင်သော ကြောင့်။ ဈာနံ နိဗ္ဗတ္တေတွာဟူ၍ဆိုတော်မူသည်ဟုသိအပ်၏။

ဤသို့ ဒီဃာဝုမင်းကြီးမယ်တော်သည်။ ထိုဥယျာဉ်၌ဈာန် သမာပတ် စည်းစိမ်ကို ခံစားလျက်။ အနှစ် သုံးထောင်ပတ်လုံး နေ၍ရတေလတ်သော်။ ရပြီးသောဈာန်မပျက်သဖြင့်။ ဗြဟ္မပါ ရိသဇ္ဇာဘုံသို့ပြောင်းလဲ တက်စံတော် မူလေ၏။ ဘုရားလောင်း သည်လည်း။ အဘိညာသည့်သမာပတ်စည်းစိမ်ကို ခံစားလျက်။ ဟိမဝန္တာ၌ အနှစ် သုံးထောင်ပတ်လုံးနေ၍ ရတေ လတ်သော်။ ရ ပြီးသော ဈာန် မပျက် သဖြင့်။ ဝေဟပ္ဖိုလ် ဘုံသို့ ပြောင်းလဲ တက်စံ တော်မူ လေ၏။ ဤသို့ မြတ် စွာ ဘုရား သည်။ တ ပည့် သား တော် တို့ အား အ ကျယ် အား ဖြင့်။ ရှေး ဖြစ် တော် မူ ဟောင်းကို ဟော တော် မူပြီးလျှင်။ အကြောင်းရင်း ဍပ်ဆုံ စိုး တော် မူ သော ကြောင့်။ နတိ ဘွဲ့ဝေ ဒွာဒါနေ ဝ ပုဗ္ဗေဝ တထာဂ

တော မဟာ ဘိ နိက္ခ မနံ နိက္ခမန္တော ယေဝ။ ဟု ဟောတော်မူပြန်၏။

အဓိပ္ပာယ်ကား။ တပည့်သားတော်အပေါင်းတို့။ လာခြင်းကောင်းသော ငါဘုရားသည်။ ယခု သာလျှင် နိမိတ် လေးပါး ထင်သဖြင့်။ ပြည်စည်းစိမ်ကိုစွန့်၍ တောထွက်တော်မူသည်မဟုတ်။ ရှေးပါရမီဖြည့်စဉ်ကပင်လည်းနိမိတ်ထင်သဖြင့်။ ယခုထက် မက။ ငြိတွယ် စရာ များသော မင်း စည်းစိမ်ကို စွန့်၍။ မြတ်သော တောထွက်ခြင်းဖြင့်။ တောထွက်တော် မူဘူးပြီဟု။ ဒေသနာတော်အဆုံးကို ဆက်စပ်တော်မူပြီးလျှင်။ ။တဒါသမုဒ္ဒရက္ခိကာ။ အစရှိသည်ဖြင့်ဇာတ်ကိုပေါင်းတော်မူ၏။

အဓိပ္ပာယ်ကား။ ထို မဟာ ဇနကမင်း ငါဖြစ်တော် မူသော အခါ။ ငါ့ကို သမုဒ္ဒရာထဲမှ ချီပိုက်၍။ မိထိလာပြည် ဥယျာဉ်မင်္ဂလာ ကျောက် ဖျာ အ ပြင် ၌ သိပ် ထား ပေ သော သ မု ဒ္ဒ ရာ စောင့် မဏိမေခလာ နတ်သမီးသည်။ ယခု အခါ သာဝတ္ထိပြည် ၌ သူဌေး သမီးဖြစ်၍။ ငါ၏ သာ သနာ တော်၌ ရဟန်း ပြုသဖြင့်။ ကမ္ဘာ တ သိန်း ပတ် လုံး ဖြည့် ဆည်းဘူး အပ်သော ပါရမီ နှင့် လျော်စွာ။ လက်ဝဲရံတပည့်တော်အပေါင်းတို့တွင်။ အမြတ်ဆုံး ဒုတိယအဂ္ဂသာဝိကာဖြစ်သောဥပ္ပလဝဏ်ထေရီဖြစ်လာ၏။ ။

ထို အခါ။ ငါ့ကို ရဟန်း အဖြစ် ၌ မြဲမြံ စေ ခြင်း ငှာ။ အဆုံး အမ ပေးပေသော ရနံ့မြို့သူ ရွှေလက်ကောက်ရှင် သတို့သမီးသည်။ ယခုအခါ ရာဇဂြိုဟ် ပြည်ကို အစိုးရ သော ဗိမ္ဗိသာရ မင်းကြီး၏မိဖုရားဖြစ်၍။ ငါရှိရာဝေဠုဝန်ကျောင်းတော်သို့ ရောက်လာသောကြောင့်။ ကိုယ်အဆင်းကို မှီ၍။ နန္ဒီရာဂပြောသူ ဖြစ်သဖြင့်။ ထိုသူ၏စရိုက်အားလျော်စွာ။ အသုဘနိမိတ်ကို ငါထင်စေတော်မူလျက်။ တရား ဟောတော်မူလျှင်။ တရားနာစဉ်လျှ ဝတ်နှင့်ပင်။ မဂ်လေးတန် ဘဝင်မခြား။ တန့်နားခြင်းမရှိ။ သုခပဋိပဒါခိပ္ပာဘိညာဖြင့် ရဟန္တာအဖြစ်သို့ ရောက်ပြီးမှ။ ငါ့သာသနာတော် ၌ ရဟန်းပြုသဖြင့်။ ကမ္ဘာ တသိန်း ပတ် လုံး ဖြည့်

ဆည်းဘူးအပ်သောပါရမီနှင့်လျော်စွာ။လက်ျာရံတပည့်တော်
အပေါင်း တို့တွင် အမြတ်ဆုံး ပဌမ အဂ္ဂ သာဝိကာ ဖြစ်သော ခေ
မာထေရီ ဖြစ်လာ၏။ ။ထိုအခါ။ ငါ့ကို ရဟန်း အဖြစ် ၌ မြဲမြဲ
စေခြင်းငှာ စောင်မပေသော ဓိဂါဇိန် ရှင်ရသေ့သည်။ ယခု အ
ခါရာဇဂြိုဟ်ပြည်၏အနီး။ ကောလိတရွာသူကြီးသားဖြစ်၍။ ငါ့
သာသနာတော်၌ ရဟန်း ပြုလာသဖြင့်။ တသန်္ချေနှင့် ကမ္ဘာတ
သိန်း ပတ်လုံး ဖြည့်ဆည်းဘူး အပ်သော ပါရမီနှင့် လျော်စွာ။
လက်ဝဲရံ တပည့်တော် အပေါင်း တို့တွင်။ အမြတ်ဆုံး ဒုတိယ
အဂ္ဂသာဝကဖြစ်သော မဟာမောဂ္ဂလာန်ထေရ်ဖြစ်လာ၏။ ။
ထိုအခါ။ ငါ့ကိုရဟန်းအဖြစ်၌ ခိုင်ခံ့စေခြင်းငှာ အဆုံးအမပေး
လာ်လေသောနာရဒရှင်ရသေ့သည်။ ယခုအခါရာဇဂြိုဟ်ပြည်၏
အနီး။ ဥပတိဿရွာသူကြီးဝက်န္တပုဏ္ဏားသားဖြစ်၍။ ငါ့ထံသို့
ရဟန်း ပြုလာသဖြင့်။ တသန်္ချေနှင့် ကမ္ဘာ တသိန်း ဖြည့်ဆည်း
ဘူး အပ်သော ပါရမီနှင့် လျော်စွာ။ လက်ျာရံ တပည့်တော်အ
ပေါင်းတို့တွင်။ ငါမှတပါး။ ဤသူထက်သာ၍မြတ်သူမရှိသော
ပဌမ အဂ္ဂ သာဝက အရာနေ။ ငါ၏ တပည့်ကြီး သာရိပုတ္တရာ
ထေရ် ဖြစ်လာ၏။ ။ထို အခါ။ ငါ့ကို ရဟန်း အဖြစ်၌ မငဲ့မ
စောင်း ဖြောင့်မတ်စွာ တည်စေခြင်းငှာ ဆုံးမပေသော ရနံ့မြို့
သား လေးသွားသည်။ ယခုအခါ ကပိလဝတ်ပြည်၌ ငါ၏ ဘ
ထွေးတော် သားဖြစ်၍။ ငါ့ သာသနာတော်၌ ရဟန်းပြုသဖြင့်။
ကမ္ဘာ တသိန်း ပတ်လုံး ဖြည့် ဆည်း ဘူး အပ် သော ပါရမီ နှင့်
လျော်စွာ။ ငါဘုရား၏ အလုပ်အကျွေး။ နှုတ်လျှာကောင်းခြင်း
၌။ ငါမှတပါးတူသူမရှိသော ငါ့ညီ ဝမ္ပဘဏ္ဍာဂါရိက အာနန္ဒာ
ထေရ်ဖြစ်လာ၏။ ။ထိုအခါ။ မဟာဇနက မင်း၏ မိဖုရားကြီး
သီဝလိဒေဝီသည်။ ယခုအခါ ငါ့ဦးရီးတော် ဒေဝဒဟမင်းကြီး
၏သို့းဖြစ်၍။ ကပိလဝတ်ပြည်၌ ငါနှင့်ထိမ်းနှန်းစံဘက်ဖြစ်သော
ရာဟုလာမိခင် ဗိမ္ဗာထေရီဖြစ်လာ၏။ ။ထိုအခါ။ ဒီဃာဝုမင်း
သားသည်။ ယခုအခါကပိလဝတ်ပြည်၌ ငါ့ကိုစွဲ၍ရအပ်သော

ဗိမ္ဗာဒေဝီ၏ သားဖြစ်၍။ ရှနှစ်နှစ် အရွယ်ကပင်။ ငါ့ အထံဝယ် အမွေ တောင်းလာ သောကြောင့်။ ငါ့ သားကြီး သာရိပုတ္တရာ ကိုအပ်၍။ ရှင်ရဟန်းပြုစေပြီးလျှင်။ သိက္ခာသုံးပါးကို လွန်စွာ ကျင့်ခြင်း၌။ ငါ၏ ဘဒဂ်ထားအပ်သော သာရိပုတ္တရာ၏တပည့် ရာဟုလာထေရ် ဖြစ်လာ၏။ ။ထိုအခါ။ မဟာဇနက မင်း၏ မယ်တော် ခမည်းတော်တို့သည်။ ယခု အခါကပိလဝတ် ပြည် ကို အစိုးရသော သာကီဝင် မင်းမျိုး၌။ မြတ်သော မင်း။ မြတ် သောမိဖုရားဖြစ်ကြကုန်၏။ ။ထိုအခါ။ မဟာဇနကမင်းကြီး သည်ကား။ ယခုအခါ ခပ်သိမ်းသော တရားတို့ကို သိတော်မူ ပြီးသော လူနတ်တို့၏ဆရာ ငါဘုရား ဖြစ်တော်မူ၏ဟု။ ဇာတ် ကိုပေါင်းတော်မူ၏။

မဟာဇနကဇာတတ်နိဋ္ဌိတံ။

## ဂါထာပေါင်း။

မဟာသရုဒ္ဒရာထဲ၌ မဏိမေခလာနတ်သမီးနှင့် စကားပြောကြသော ဂါထာ ဆယ် ဂါထာခွဲ။ ဘထွေးတော် ပေါလဇနကမင်း ရွှေအိုးကြီး တဆယ်ခြောက် လုံးကို အမြွက် ပြခဲ့သော ဂါထာသုံးဂါထာ။ မင်း၏အဖြစ်သို့ရောက်သောအခါမဟာဇနကမင်းကြီး ဥဒါန်းကျူးရင့်သောဂါထာခြောက်ဂါထာ။ အထက်ပြာသာဒ်၌ ဘုရားလောင်း နေသောအခါ။ အမတ်တို့မြည်တမ်းသော စကားမှာ နှစ်ဂါထာ။ အရှင်ပစ္စေကဗုဒ္ဓါတို့၏ ကျေးဇူးဂုဏ်ကို အောက်မေ့၍။ ဝမ်းမြောက်ဝမ်းသာ ဆိုတော်မူသောစကားဥဒါန်းသုံးဂါထာ။မိထိလာပြည်စည်းစိမ်ကိုချီးမွမ်းတော်မူသော ဂါထာ ကိုးဆယ် နှစ် ဂါထာ။ တောထွက်တော် မူသောအခါ။ ချနစ်ရာသော မိဖုရားတို့ ငိုခြင်းကိုပြသော ဂါထာခြောက် ဂါထာ။ သီဝလိဒေဝီ မိဖုရားနှင့် အရပ်ရ စကားပြောဟောတော်မူသောဂါထာ တဆယ်ကိုးဂါထာခွဲ။ နာရဒရှင်ရသေ့နှင့် စကား ပြောဟောတော်မူသောဂါထာ ကိုးဂါထာ။ မိဂါဇိန်ရှင်ရသေ့နှင့် စကားပြောဟောတော် မူသောဂါထာ တဆယ် လေး ဂါထာ။ ရုန့မြို့၌ သတို့သမီး ငယ်နှင့် စကား ပြောဟော တော်မူသော ဂါထာ လေးဂါထာ။ လေးသမားနှင့် စကားပြော ဟောတော် မူသော ဂါထာ လေးဂါထာ။ ဤသို့အရပ်ရ ဂါထာပေါင်း တရာ ချနစ်ဆယ် သုံး ဂါထာ တို့ဖြင့် တန်ဆာဆင်အပ်သောမဟာဇနကဇာတ်တော်အပြီးရောက်၏။

# ဇာတကဝိဂ္ဂဟာ။

မဟာနွံသကဏ္ဍပရတ္ထံဇနေတိတိမဟာဇနကော။ ။ယော ရာဇာ။ အကြင်မင်းသည်။ မဟန္တံ။ ကြီးမြတ်သော။ သကဏ္ဍပ ရတ္ထံ။ကိုယ်စီးပွားသူ့စီးပွားကို။ဇနေတိ။ဖြစ်စေတတ်၏။ ဣတိ တသ္မာ။ ထိုကြောင့်။ သော ရာဇာ။ ထိုမင်းသည်။ မဟာဇန ကော။ မဟာဇနကမည်၏။ ။မဟန္တသဒ္ဒူပ ပဒဇနခေတ်။ ဏွုပစ္စည်း။ပေါတုကဏ္ဍုသာဓန။ကိတ်ဝိဂ္ဂြိုဟ်။ ။ဇနခေတ် အရ သုဒ္ဒ ကတ္တုဏ္ဍ ကြိယာ ကား။ မင်း စည်းစိမ် ပြည် တိုင်း ကား စည်းပင် ပျံ့ပွားခြင်း။ တိုင်းသားပြည်သူတို့ ငြိမ်းချမ်းဝ ပြောခြင်း။အလှူသီတင်းအကျင့်နှင့်ပြည့်စုံခြင်းတည်းဟူသော အကျိုးတို့၏ ဥပ္ပာဒ သတ္တိ သည် မုချ။ ကာရိုက် ပစ္စည်း ၏ ပေါတုက တ္တုဏ္ဍ ကြိယာ ကား။ ထိုအကျိုးအား တပ်သော သင်္ဂဟလေးပါး။ ရာဇဓမ္မ ဆယ်ပါးစသည်တို့ဖြင့် ကောင်းစွာ ကျင့်ခြင်းဟု ဆိုအပ်သော မင်းကျင့်တရား၏ ပကတျူပ နိဿ ယသတ္တိသည် ဖလူပစာရ။ ဏွုပစ္စည်း၏ အရကား။ ထိုမုချဖ လူပစာရဏ္ဍတို့ဖြင့် မှတ်အပ်သော မဟာဇနကမင်းရ၏။ ။ မဟာဇနံ တိဟိ ဗလေ ဟိ ကမတိ အတိက္ကမ တီတိ မဟာဇန ကော။ ။ယောရာဇာ။ အကြင်မင်းသည်။ တိဟိဗလေဟိ။အာ ဏာဗလ။ ဘောဂဗလ။ ဉာဏသရိယ ဗလဟု ဆို အပ်သော သုံး ပါးသော ဗလ တို့ဖြင့်။ မဟာ ဇနံ။ တိုင်း သား ပြည် သူ လူ အ ပေါင်းကို။ ကမတိ အတိက္ကမတိ။ လွှမ်းမြောက် တတ်၏။ ဣတိ တသ္မာ။ ထိုကြောင့်။ သော ရာဇာ။ ထို မင်းသည်။ မဟာ ဇန ကော။ မဟာဇနကမည်၏။ ။ကိတ်ဝိဂ္ဂြိုဟ်။ ကတ္တုသာဓန။ မဟာဇန သဒ္ဒူပ ပဒ ကမုခေတ်။ ဏွုပစ္စည်း။ ။ကမုခေတ် ၏

အရ ကား။ မင်း၏ သဏ္ဍာန သတ္တိသည် ရှေ့။ ကရဏာဋ္ဌ ကြိ
ယာကား။ ထိုသတ္တိအား တပ်သော အာဏာလက်ရုံးစည်းစိမ်
အမြဲအရံ အစိုးရခြင်း။ အသဒိ သဘော ဖြစ်သော ဘုန်း အာနု
ဘော်၏ ပကတ္ယ ပနိဿယသတ္တိသည် ဖလူပစာ ရဋ္ဌ အားဖြင့်
ရ၏။ ကွိပစ္စည်း၏အရကား။ ထိုရှေ့ဖလူပစာ ရဋ္ဌတ္ထ်ဖြင့် မှတ်
အပ်သော သတ္တိ ၏ တည်ရာ သတ္တိမန် ဖြစ်သော မဟာ ဇနက
မင်းရ၏။ ။တနည်းလည်း။ ။မဟာဠ္ဌောစသော အာဇာ
နကောစာတိမဟာဇနကော။ ။ဇာဋ္ဌအာကိုအရသာပြု။ ။
မဟာဠ္ဌောစ။ မြတ်သည်လည်း။ဟောတိ။ဖြစ်၏။ သော။ ထိုမြတ်
သောသူသည်။ အာဇာနကောစ။ အာဇာနည်သုံးပါးထက်လွန်
ကဲ သော လူ အာဇာနည်သည်လည်း။ ဟောတိ။ ဖြစ်၏။ ဣတိ
တသ္မာ။ ထိုနှစ်ပါးသောသတ္တိကြောင့်။ မဟာဇနကော။မဟာဇ
နကမည်၏။ ။ကမ္မဓာရည်းသမာသ်ဝိဂြိုဟ်။ ။မဟန္တပုဒ်။အာ
ဇာနကပုဒ်။ ။မဟန္တဟူသောရှေ့ပုဒ်၏အရကား။ထီးစည်နန်း
ရိုး မင်းမျိုးစိုးနွယ်ဖြစ်သော ဇာတိမဟတ္တ။ ဣဿရိယမဟတ္တ။
ဘောဂမဟတ္တဂုဏ်။ အာဇာနကောဟူသောနောက်ပုဒ်၏အရ
ကား။ အဆင်းပညာအာဏာလက်ရုံး။ဘုန်းကြက်သရေတည်း
ဟူသောဥပဓိသမ္ပတ္တိဂုဏ်သည် အပဋ္ဌာန အားဖြင့်ရ၏။ မဟာ
ဇနက ဟူသောသမာသ်ပုဒ်လုံး၏ အရကား။ ထိုဂုဏ်နှစ်ပါး၏
တည်ရာ ဂုဏီ ဖြစ်သော မဟာဇနက မင်းသည် သာလျှင် ပ
ဋ္ဌာနအားဖြင့်ရ၏။ ။မဟာဇနကဿ ဇာတော မဟာဇနက
ဇာတော။ ။တပ္ပုရိသ်သမာသ်ဝိဂြိုဟ်။ ။မဟာဇနကဿ။ မ
ဟာဇနကမင်း၏။ ဇာတော။ အဖြစ်တော်တည်း။ မဟာဇနက
ဇာတော။မဟာဇနကမင်း၏အဖြစ်။ ။မဟာဇနကပုဒ်။ ဇာ
တပုဒ်။ ။မဟာဇနကဟူသောရှေ့ပုဒ်၏အရကား။ မဟာဇန
ကမင်းရ၏။ ဇာတောဟူသောနောက်ပုဒ်၏အရကား။ ခန္ဓာငါး
ပါးတို့၏ ဥပ္ပါဒသဘောရ၏။ သမာသ်ပုဒ်လုံး၏အရကား။ မဟာ
ဇနက မင်းဟု ခေါ်ဝေါ်အပ်သော သဏ္ဍာန ပညတ်၏ တည်ရာ

ခန္ဓာငါးပါးတို့၏ ဖြစ်ခြင်းသဘောသဘာလျှင်ရ၏။ ။မဟာဇ
နကဇာတဿဥပ္ပတ္တိဋ္ဌာနံမဟာဇနကဇာတကံ။ ။ဇာတာဒိ
တဒ္ဓိတ်။ ။မဟာဇနကဇာတဿ။ မဟာဇနကဇာတ်တော်
၏။ ဥပ္ပတ္တိဋ္ဌာနံ။ ဖြစ်ခြင်းအကြောင်း အရာတည်း။ မဟာဇနက
ဇာတကံ။ မဟာဇနက ဇာတ်တော် ၏ ဖြစ်ခြင်း အကြောင်း အ
ရာ။ ။မဟာဇနက ဇာတပုဒ်။ ဣကပစ္စည်း။ ။တဒ္ဓိတ်ပုဒ်
လုံး၏ အရကား။ မဟာ ဇနက မင်း၏ အဖြစ် အပျက် အနေ အ
ထိုင် အသုံးအဆောင် အပေါင်းအဘော် အစရှိသော အလုံးရုံ
အကြောင်းအရာဟူသမျှရှိ၏။ ။မဟာဇနကဇာတဿ ဏှုန်
ပကာသနံမဟာဇနကဇာတကံ။ ။ရာဂါဒိတဒ္ဓိတ်။ ။ဏှုန်။
၏ ပြကြောင်း ဖြစ် သော ကျမ်းသည်။ မဟာဇနက ဇာတဿ။
မဟာဇနကမင်း၏ အဖြစ် အကြောင်းအရာကို။ ပကာသနံ။ ပြ
ကြောင်းဖြစ်သောကျမ်းတည်း။ မဟာဇနကဇာတကံ။မဟာဇ
နကဇာတ်ကျမ်း။ ။တဒ္ဓိတ်ပုဒ်လုံး၏အရကား။ ကောယံမဇ္ဈေ
သမုဒ္ဒသ္မိံ။ အစရှိသောဂါထာဖြင့် တန်ဆာဆင်၍ ဟောတော်
မူခြင်းဒေသနာတော်အစည်ရှိ၏။ ။မဟာဇနကဇာတက
တောဥဒ္ဒိတံဝတ္ထုတိမဟာဇနကဇာတကဝတ္ထု။ ။တပ္ပု
ရိသ်သမာသ်။ ။ယံဏှုန်။ အကြင်ဝတ္ထုသည်။ မဟာဇနက
ဇာတကတော။ မဟာဇနက ဇာတ် ပါဠိ တော်မှ။ ဥဒ္ဒိတံ။ အ
နက်ကိုထုတ်၍မြန်မာဘာသာရေးစီအပ်သော။ ဝတ္ထု။ ထိုဇာတ်
တော်၏ အကြောင်းအရာ ဖြစ်သော ဝတ္ထုတည်း။ ဣတိတသ္မာ။
ထိုကြောင့်။ တံဏှုန်။ ထိုဝတ္ထုသည်။ မဟာဇနကဇာတကဝတ္ထု။
မဟာဇနကဇာတကဝတ္ထုမည်၏။ ။သမာသ်ပုဒ်လုံး၏ အရ
ကား ဤမြန်မာဘာသာထုတ်စီအပ်သောဝတ္ထုရှိ၏။

## ဇာတကဝိနိစ္ဆယ။

ဂါထာဝတ္ထု ပေါင်း၍ဘက် ဇာတ် မရှိသောကြောင့်။ နိပါတ်လွတ် သန့်သန့်သီးသီး ထားအပ်သော ဇာတ်ကြီး ဆယ်စောင်တွင်။ နေမိ။ နာရဒ။ ဝေဿန္တရာ။ ဤသုံးစောင်ဇာတ်မှာ။ စရိယ ပိဋကတ် ကျမ်း၌ လာသောကြောင့် လည်းကောင်း။ တပါး ထောက်ထားရာ ရှိသော ကြောင့် လည်းကောင်း။ ဤကမ္ဘာ ဤအဋ္ဌရကပ်တွင်ပင်ဖြစ်သည်ဟုသိရ၏။ တေမိ။ သုဝဏ္ဏသာမ။ ဘူရိဒတ်။ စန္ဒကုမာရ။ ဤ လေး စောင် ဇာတ် တော် မှာ။ ၎င်း ကျမ်း၌ လာသောကြောင့်ကား ဤ ကမ္ဘာတွင် ဖြစ်သည်ဟု သိရ၏။ တပါး ထောက်ထားရာ မထင်သောကြောင့်။ မည်သည့် အဋ္ဌရ ကပ်တွင် ဖြစ် သည် ဟု မသိရ။ မဟာ ဇနက။ ဝိဓူရ။ မဟောသထ။ ဤ သုံးစောင် ဇာတ်တော်မှာ။ ၎င်း ကျမ်းတွင် လည်းမလာ။ ထောက်ထား ရာလည်းမထင် ဖြစ်သော ကြောင့်။ မည်သည့် ကမ္ဘာတွင် ဖြစ်သည်ဟူ၍ အတပ်မဆိုသာဟု မှတ်အပ်၏။

## အချုပ်လင်္ကာ။

ရှေးသံ့သံ့ယူ။ နေခင်လာသူတို့။ လွယ်ကူသိအင်။ ကမ္ဗည်း
တင်အုံ့။ မြတ်ရှင်စက်ရွေ့။ ရှိရာမြေကာ။ ရစ်ခွေစီးလာ။ နမ္မဒါ
နှင့်။ ဧရာဝတီ။ ရံညီယှည်ပူး။ မြစ်ဆိပ်ဦးတွင်။ မင်းဖူးသညာ။
ဂုဏ်ရှိရွာဒွန်။ ဓာတ်ဌာန်။ သာကောတပုရ။ နဂရသာစည်။ ရပ်
သာပြည်ကာ။ အာသည် ကြီးရိုး။ တရမျိုးလျှင်။ တင်ကိုးကွယ်
ကာ။ မြတ်ဆရာနှင့်။ မကွာ ကပ်ဆည်း။ တအုပ်တည်းဖြင့်။
ပစ္စည်းမည်။ ကုသိုလ်ဆယ်လီ။ နေ့ညမိလျက်။ ဤရွာပျော်မိုက်။
နေကြခိုက်တွင်။ ကောင်းမြိုက်ရသ။ မြတ်ဆန္ဒနှင့်။ သီလလေး
မည်။ လရောင်ခြည်သို့။ ချမ်းကြည်ပြုဆွတ်။ ပရိသတ်လည်း။ ဗိ
ဒုကတ်သုံးဖြာ။ ပဒေသာမှ။ လိုရာငှပေး။ ဆွတ်ယူကျေးသား။
နက်လေး ဂုဏ်အင်။ ကျေးဇူးရှင်၏။ ထံတွင်လက်ပါး။ မြဲဝပ်
တွား၍။ ဘဝါး တော်အောက်။ နည်းနာ သောက် လျက်။ ရွှေ
နောက်ရေးပြု။ နှစ်လုံးသနှင့်။ ဘမှာအာကပ်။ အလယ်ထပ်၍။ ရွှေ
ရပ်သာဝယ်။ အရစ်တွယ်သား။ ထုန်းကြွယ်ပေးဆင်။ ဤဆွဲ့ရှင်
လျှင်။ များဖြင်ညာတကာ။ ခိုမှီရာသား။ ကျောင်းတကာ မောင်
ဩ။ တွင်ထသညာ။ တို့ဆရာ၏။ တကာရင်းသား။ ပျို့ထွားရွှယ်
ပေါက်။ နည်းနာ သောက်လျက်။ မောင်ထောက် တွင်မည်။ ဤ
သူသည်လျှင်။ ကြည်ညိုလေးမြတ်။ ဆယ်စောင်ဓာတ်ကို။ မွှေး
ဆွတ်ဆွတ်ကြူ။ နာခံသူတို့။ အယူမခဲ။ ရွှေကြုတ်ထဲမှ။ ပုလဲငေါ်
မှတ်။ စိ၍ထုတ်သို့။ ကောင်းဟုတ်မင်္ဂလာ။ ရေးစီပါဟု။ သံသ
ရာကျို့ရည်။ တောင်းပန် သည်တွင်။ ရေကြည်ဆွတ်ဖျန်း။ ပျိုး
စပန်းသို့။ လန်းလန်းဂုဏ်သွေး။ မရှင်သေး၍။ နက်လေးကျမ်း
ဂန်။ သင်ကြားဝန်နှင့်။ အားသွန်နေ့ည။ ကိုယ်ဆန္ဒလျှင်။ တောင့်

တလိုရင်း။ မပြည့်ခြင်းဖြင့်။ သိတင်းဖွက်သို။ နည်းနာခိုလျှက်။ ငယ်ကိုယ်ငယ်စိတ်။ ဥာဏ်အမြိတ်လည်း။ ဖိတ်ဖိတ်ညွန့်သန်း။ မထွက်ဟန်ကြောင့်။ ဝန်မခံလို။ ငြင်းပယ်ဆိုလည်း။ ခိုမှီဆည်းကပ်။ထပ်ထပ်ကြိုးအား။ လျှောက်ဖန်များသော်။အားနာခလေ့။ စိတ်ငြီးငွေ့လျှက်၊ ငြီးရွေ့ငြီးစေ။ ထုတ်စီပေသား။ ဝေသန္တရာ။ စန္ဒကုမာ။ ရာဇာမင်းပျို။ ဝိဓုရ်မဟော်။ မတ်ကျော်နှစ်ဦး။ ကျေးဖူးပညာ။ ထင်ရှားစွာနှင့်။ ဗြဟ္မာနာရဒ။ မည်ရသီးသီး။ ဇာတ်တော်ကြီးဟု။ အံ့ချီးငါးရ။ ဝဏ္ဏငါးထောက်။ အပြီးမြောက်၍။ နောက်တဖန်သာ။ ဤအခါ၌။ မဟာဇနက။ နုရထိပ်ပန်း။ ဇာတ်တော်ခဏ်းကို။ ထူးဆန်းကျစ်လစ်။ပြေပြစ်လျှောက်ပတ်။ နှုံး ပျောင်း ညွတ်အောင်။ လောက ဝတ် ရရ။ ခမ္ဘ သွယ်သွယ်။ ထုတ် စီ ချယ် ၍။ ဓိ ပ္ပါ ယ် လတ် လတ်။ သင် ဆုံး ဖြတ်သည်။ ။သူမြတ်သူတော်ရှုမျှော်ချီးမြှင့်ဆင်စေသောင်။

ဖွေး ဖွံ့ဖွံ့ ဖြူ။ သိ တဂူသို့။ ရောင် လူ လန်းဖြာ။ သာ သနာ၌။ ပညာ အဖေဂ္ဂူ။ အနှစ်ရတည့်။ အမြိုတေမြတ်။ ပိဋကတ်ဝယ်။ ပရမတ်ညဝါ။ ပုဗ္ဗာသို့ရှိ။ ဝိဘင်းသို့ထွက်။ အနက်သို့ရ။ ယမကအရုံ။ အနုလုံပဋ္ဌာန်။ ခတ်ကျိတ်ဖွေဖွေ။ သဒ္ဒေပဝတ္တိ။ ဘုမ္မိပုဂ္ဂလ။ ဝါရ နာမ်ရုပ်။ နက်တိမ် မြုပ် သား။ ပဋ္ဌ ယုပ် ပဋ္ဌည်း။ နည်းအနန္တ။ စွမ်းသမျှလျှင်။ သိရလိုငှာ။ ကြိုးအား ဖြာလျှက်။ သဒ္ဒါအနက်။ ပုဒ်ထွက်ပုဒ်လာ။ ဤဝါစက။ ဤဝစ္စဟု။ ပဒဆုံးဖြတ်။ အန္တတ်ဗာဟီ။ သင့်ညီဝေဖန်။ လိင်အန်ပိဘာတ်။ ဓာတ်ရပစ္စည်း။ ဥာသ်နည်းမြော်ဆ။ မချဥပစာ။ သညာသညီ။ ဘာဝိဘာဝ။ သဒ္ဒဝေဝုစ်။ရဒ်ကားသို့မြော်။အာဘော်သို့ရှိ။ပရိဟာရ။ သို့လျှင်ဖြ၍။ ဂရုဟာသမ္ဗဝါ။ ဝိတ်ဖြာနိယံ။ သင်ကြံမှတ်ဘွယ်။ အသွယ်သွယ်ကို။ ဥာဏ်စွယ် ဥာဏ်သွား။ အလျှောက်အားဖြင့်။ သင်ကြား လေ့ကျက်။ စိတ်ပိတက်နှင့်။ ပျို သက်ရွယ်လူ။ ဥာဏ်ကျေးဖူးလည်း။ ညွန့်ဖူးထွက်စ။ ရွှရွှလွင်လွင်။ ရွှင်သည်ဘကြောင်း။ အပေါင်းငယ်လိုက်။ ယာရကြိုက်၍။ မထိုက်ရာ

များ။ ဆိုမိမှားသော်။ တရားလိမ္မာ။ပညာ၀ါတို့။ အက္ခရာ၀ါကျ။ တပိုဒ်မျှလျှင်။ ဇုဋ္ဌတဆုံ။နှုံလုံးမူဖြင့်။ နှုတ်ယူသွတ်သွင်း။ဒေါသကင်းအောင်။ ရှင်းလင်းဤစာ။ ပြင်လိုက်ပါလော့။ ပေတနာသပ္ပုရိသာကြည်။ ကျွန်ုပ်သည်လျှင်။ ဦးတည်စိတ်ထား။ မျိုးလေးပါးတို့။ မှတ်သားစေမှု။ ရေးစီပြုသား။ဝဋ္ဋပြီးသော်။ သက္ကရာဇ်မှု။ငေကနှင့်ငေက။စာရသတ္တာ။နှစ်ကောဇာဒွ။ရာသီဂိမှန်။၀သဿန်ပြောင်းလု။ ရတုလန်းလန်း။ ပန်းလည်းချိန်သင့်။ ပွင့်စတချို။ ဖူးရှိတသွယ်။ ပင်နွယ်ဆိုင်းဆိုင်း။ ခက်ကိုင်းထွား ထွား။ ဖား ဖားဝေဝေ။ ရုံခြေရှိမ်းရှိမ်း။ မြရည်လိမ်းသို့။ ရွက်စိမ်းလတ်လတ်။ ဖတ်ဖတ်ဝွေးဝွေး။ ကျေးငှက် သံကြော်။ မိတ်ဘော်ရုံလင်။ တပင်ပျံကူး။ တပင်မြူး၍။ ရင့်ကျူး သံချော။ စာငှ ဝေလျှက်။ မိတ်ဆွေ ကျမ်းဝင်။ ကွဲသူ မြင်က။ မရွှင် ကြောင်း သွယ်။ ဝမ်းနွှဲ ဘွယ်နှင့်။ မြစ်ဝယ်ကမ်းခြေ။ ရေမငုံတတ်။ ပန္နန်နတ်လည်း။ မြဝတ်တိမ်ခဲ။ လျှပ်ပန်းကြဲလျှက်။ ရင့်ရွှဲထစ်ကြိုး။မိုးယံ်နှင့်လေဆိုင်း။ ရှိမှိုင်း ထခါ။ ပဉ္စမာသဉ္ဇိ။ တိထိ ဆယ်ငါး။ ပြည့်ဖြား ပြီးနောက်။ သုံးရက်မြောက်တွင်။ သောက်ကြာနေ့မြတ်။နက္ခတ် ဘဒ္ဒရပိုဒ်။ ကောင်းမြိုက်ဘိသိက်။ အောင်နိမိတ်ဖြင့်။ ဗြိန္ဒာရာသိ။ လက်သို့ညီသော်။ ဤစာကမ္ဗတ်။ အပြီးသတ်သည်။ ။လူနတ်ပူဇော်နှုံမော်ထီးဆင့်တင်စေသောဝ်။

မွှေးပျံ့ပျံ့ကြူ။ မြတ်မှန်ကျူ၏။ သုံးဆူနှုတ်နက်။ မိန့်တော်စက်လျှင်။ အနက်တပါး။ ဝင်ငြားမဆံ။ မလျှံဂုဏ်လျော်။ ရှုမျှော်မခဲ။ လွဲမဆန့်ကျင်။ တင်ရာပြဆောင်။ ထိုက်အောင် ဂုဏ်မြှင့်။ ဂုဏ်ဖြင့်မယုတ်။ အားထုတ်သမျှ။ အနက်ရချည်း။ ဤသို့နည်းဖြင့်။ လုံးစည်းပဒ။ ဒေါသရှစ်ချက်။ မနှောင့်ရှက်တည့်။ ၀ါကျပြစ်ရှု။ ခြောက်ရ လည်းကောင်း။ လွတ်ရှောင်းသန့်သက်။ အနက်ဒေါသ။ ကိုးချမှလည်း။ မရပြစ်ရှာ။ လွတ်ရှင်းကွာ၍။ သြဇာပသာဒ။ စသည်သတ္တိ။ ဂုဏ်မျိုးကိုလျှက်။ အာဒိမဏ္ဍ။ အန္တကလျာ။ ကောင်းညီဖွာသား။ ဂါထာရဏ္ဍိယ။ ဇာတကမှ။အရ

အနက်။ထွက်သည့်ဂုဏ်အင်။မကြွင်းမြင်အောင်။ကောင်းကင်စက်ဝန်း။ လကိုညွှန်းသို့။ ငြိစွန်းမရှ။ တင်ပြပြဖြင့်။ မြန်မဥ္ဘာသာ။ ပျူငှါကျစ်လစ်။ ချော ပြေပြစ်သား။ ဖွေထုတ်စိစိဆို။ ဤကုသိုလ်ဖြင့်။ လိုရာအကျိုး။ဆုပန်ပျိုးအံ့။ အမျိုးလေးဖြာ။သူတကာတို့။ ဤစာစကား။ နာရှိကြားမူ။ တရားယူရှု။ မကောင်းမှုကို။ မပြုကြည်ဖဲ။ မြဲသားသီလ။ အာစာရနှင့်။ ဇီဝသန့်ရှင်း။ သားချင်းမိတ်ဆွေ။ တူနေပေါင်းဘက်။ နှစ်သက်ကြည်ညို။ ဝန်တိုမဟူ။ ငြူစူမပျိုး။ အငြိုးမသို။ ဂုဏ်ကိုမဖျက်။ အမျက်ဆိပ်တောက်။ ရန်မျိုးပျောက်၍။ တယောက်ကောင်းစား။ တယောက်သားလျှင်။ အားရရှုစိတ်။ မေတ္တာဖိတ်လျက်။ နှမ်းနိတ်စောင်းယိမ်း။ တငြိုးတိမ်းလည်း။ ထိမ်းထိမ်းယယ။ စောင်မညီညွတ်။ဖြောင့်ကြောင်းမတ်၍။ သူမြတ်သူကောင်း။ အပေါင်းပြိုပြို။ ညီသားကိုယ်စိတ်။ မဖိတ်မလည်း။ မေတ္တာတည်းလျက်။ တစည်းတရွေ့။ ကြာနှင့်ရေသို့။ ဖြစ်စေသတည်း။ ထုံးနည်းလိမ္မာ။ ပညာရှိမို့။ ထိုထိုကိစ္စ။ ဆောင်သမျှလည်း။ ခဏလျှင်လျှင်။ အောင်မြင်ပြီးစီး။ မြေကြီးသြဇာ။ ရသာကောင်းမြတ်။ အနာလွတ်၍။ ဥပဒ်မလိမ်း။ ပြည့်ထဲငြိမ်းလျက်။ ခပ်သိမ်းချမ်းသာ။ ငြိမ်ဝပ်စွာဖြင့်။ ငါလည်းထိုသို့။ ကျေးဇူးတို့နှင့်။ မချိုကုံင။ လိုသမျှလျှင်။ လှုံ့လအလျောက်။ လွယ်ကာမြောက်၍။ ရောက်တုံသိးသိး။ကြီးတိုင်းပြီးလျက်။ ထီးနှယ်တန်ခိုး။ မေတ္တာရိုး၍။ အမျိုးတကာ။မိုဒိုရာဖြင့်။ ပညာအရှက်။ ရတုံမညို။ဆက်တိုင်းကိုလျှင်။ ကုသိုလ်ရုံညီ။ ပါရမီဆယ်ပါး။ ဆင့်ကာပွားရ်။ အများသတ္တဝါ။ ပက်ဇာကို။ ပညာနေသင့်။ ပွင့်စေလိုငှာ။ ဤစာကောင်းမှု။ ပြုရလတ်လတ်။ ဆုပန်ညွတ်သည်။ ။ဖြူဘွတ်မြူလျှော်ဆုလျှော်သီးပွင့်ရှင်စေသောဝ်။

အချုပ်လင်္ကာ။ ။မဟာဇနကဝတ္ထုပြီး၏။

## ဆတ္တပါဏိဝတ္ထု။

အစ ၏ ကောင်းခြင်း၊ အလယ် ၏ ကောင်းခြင်း၊ အဆုံး ၏ ကောင်းခြင်း၊ ထက်ဝန်းကျင်ပြူစင်သန့်ရှင်းခြင်းစသော ဂုဏ်တို့နှင့် ပြည့်စုံသည်ဖြစ်၍၊ ကောင်းစွာဟောတော်မူအပ်သော မြတ်စွာ ဘုရား ဒေသနာ တော်သည်၊ လေးလေး မြတ်မြတ် နာယူ ဆောင်ရွက်၊ လေ့ကျက် မှတ်သား ကုန်သော သူတို့အား၊ ပစ္စုပ္ပန်သံသရာ နှစ်ဖြာသော အကျိုးစီးပွားကို ဖြစ်စေသဖြင့်၊ အရောင်အဆင်းအနံ့၊ သင်းပျံ့မွှေးကြိုင်သောပန်းနှင့်တူ၏၊ အလေးအမြတ်ပြု၍၊ နာယူဆောင်ရွက် လေ့ကျက် မှတ်သားခြင်းကို မပြု ကုန်သော သူတို့ အားကား၊ ပစ္စုပ္ပန် သံ သရာ နှစ် ဖြာသော အကျိုးစီးပွားမရှိသဖြင့်၊ အရောင်အဆင်းသာရှိ၍၊ အနံ့မရှိသော ပန်းနှင့် တူသည်ဟု ဟောတော် မူလေ၏၊ ထိုအလေးအမြတ် မပြု ကုန်သော သူတို့ သည်၊ မိမိတို့ ကိုယ် ကိုသာ အကျိုး ယုတ်အောင် ပြုသည် မဟုတ်၊ ဘုရား ဒေသနာ တော်ကိုလည်း၊ တန်ခိုး ဆုတ်အောင် ပြုယောင်ကဲ့သို့ ဖြစ်လေ၏၊ ဤအကြောင်းကို ဓမ္မပဒပါဠိတော်၌၊ ဆတ္တပါဏိ ဝတ္ထုကို ထောက်၍ သိအပ်၏၊ အဘယ်သို့ သိအပ် သနည်းဟူမူကား၊ သာဝတ္ထိပြည် ၌ ဆတ္တ ပါဏိ အမည် ရှိသော တကာ သည်၊ အနာဂါမ်ပုဂ္ဂိုလ်တည်း၊ ပိဋကတ်သုံးပုံကိုလည်း အစွမ်းအား လျော်စွာ၊ အာဂုံနှုတ်တက်၊ လေ့ကျက်ဆောင်ရွက်၏၊ ထိုတကာဆတ္တပါဏိ သည် တနေ့ သ၌ ဥပုသ် ဆောက် တည် လျက်၊ ဇေတဝန်ကျောင်းတော်သို့သွား၍၊ မြတ်စွာဘုရားထံတရားတော်ကိုနာလျက် နေလေ ၏၊ ထိုအခါ၊ ပသေနဒီ ကောသလ မင်း သည်လည်း၊ မြတ်စွာ ဘုရားထံ ဆည်းကပ် အံ့သောငှာ၊ ဇေတဝန်

ကျောင်းတော်သို့ လာလတ်၍။ ဆဍ္ဍပါဏိ သိတင်း သည်လည်း။ ကောသလမင်းလာသည်ကိုမြင်လျှင်။ ငါကားမင်းလာသည့်ကို နေရာမှထ၍ ရှောင်လွှဲရသော် သင့်အံ့လော မသင့်အံ့လောဟုကြံလျက်။ ယခုငါ့ဆည်းကပ်သောအရှင်ကား။ တနိုင်ငံကို အစိုးရသော ပဒေသရာဇ်မင်း။ ထိုမင်းကိုအစိုးရသော ဧကရာဇ်မင်း။ ထိုမင်းကိုအစိုးရသော စကြာမင်း။ ထိုမင်းထက်လွန်ကဲသော စတုမဟာရာဇ် နတ်မင်း။ ထို မင်းထက် လွန်ကဲသောသိကြားမင်း။ သုယာမနတ်မင်း။ သန္တုသိတ။ သုနိမ္မိတ ဝသဝတ္တိနတ်မင်း။ ထိုထက်လွန်ကဲသောဗြဟ္မာမင်း။ ထိုထက်လွန်ကဲသော အရိယာသံဃာ။ ထိုထက် လွန်ကဲသောပစ္စေကဗုဒ္ဓါ။ ထိုထက် လွန်ကဲ မြင့်မြတ်လျက်။ လောက သုံးပါး၌ တရုံတယောက်မျှ နှိုင်းရှည်ဘက် မရှိ ဖြစ်၍။ မင်း တကာ တို့၏ အထွဋ် ဖြစ်သော အဂ္ဂရာဇ် မင်းတည်း။ ဤမင်း တကာ တို့၏ အထွဋ် ဖြစ်သော မြတ်စွာဘုရားထံ ခစား၍ ယခု ငါ နေသည် ဖြစ်လျက်။ ပဒေသရာဇ်မျှလာသည့်ကို ငါထချေသော်။ အဂ္ဂရာဇ်မင်းအား မခန့်ညားရာ ရောက်အံ့သတည်း။ နေရာမှ မထဘဲနေသော်။ ငါ့အား ကောသလ မင်း သည် အမျက် ထွက်လိမ့် သတည်း။ ထိုမင်းအမျက်ထွက်သော်လည်း ထွက်ပစေ။ မြတ်စွာဘုရား အား ရှိခိုး လျက် နေ သော ဆုမြဲကို ငါ မဖျက်ပြီဟု ကြံလျက်။ နေရာမှ မထ မရှောင် နေလေ၏။ ပသေနဒီ ကောသလ မင်းသည်။ နေရာမှ မထမဆုတ် မတုန်မလှုပ်သော ရှုလုံးဖြင့်နေသော ဆဍ္ဍ ပါဏိကို မြင် လျှင်။ ရာဇ မာန်ဖြင့် ရှုလုံး မသာ ရှိလျက်။ မြတ်စွာဘုရားကိုရှိခိုးလျက် တပါးသင့်ရာအရပ်က နေလေ၏။

ဤအရာ၌။ ဆဍ္ဍပါဏိ တည်း အနေ လွန်မည် လော။ မင်းတည်းအမျက်ထွက် လွန်မည်လောဟူမူကား။ ။ပဏ္ဍိတဝုရိ သောနာမဂုရုဌာနာနံသန္တိကေအနုဋ္ဌဟာနံ့ ဗိသ္သာနကုဇ္ဇာန္တိ။ ။ ဟု ကျမ်း လာသောကြောင့်။ ကိုယ်ထက် မြတ်သူတို့ထံ ဆည်း

ကပ် ခစား လာ သော အခါ၌။ ကိုယ် အောက် ယုတ် သူ တို့ မရှောင် မရှား နေသော်လည်း။ အမျက် မထွက်ခြင်း။ နှလုံး မသာ မရှိ ခြင်းသာလျှင် ပညာရှိ တို့၏ ဓလေ့ တည်း။ နှလုံး မသာ ရှိ သော သူတို့အားကား။ ပညာရှိသင့်ဘော မသက်ဖြစ်၍။ နှလုံးမသာ မရှိထိုက် သည်ကို ရှိသော ကြောင့်။ မင်း သာ လျှင် လွန် သည်ဟုသိအပ်၏။

ထိုအခါမြတ်စွာဘုရားသည်။ ဆဒ္ဒပါဏိအားမင်းကြီးအမျက် ရှိကြောင်းကို သိ၍။ ဤသို့ အမိန့်တော်ရှိ၏။ မင်းကြီး။ တကာ ဆဒ္ဒပါဏိကား။ ပစ္စုပ္ပန် သံသရာ အကျိုး စီးပွားကိုမြင်မြော် တတ် သော ပညာ လည်း ရှိ၏။ မျက် မှောက် ပြု အပ် ပြီး သော မဂ်တရားလည်းရှိ၏။ ပိဋကတ်သုံးပုံကိုလည်းဆောင်၏။ အကျိုးရှိသည် မရှိသည်၌လည်း လိမ္မာ၏ဟု တကာဂုဏ်ကိုချီးမွမ်း၍ အမိန့်တော်ရှိ၏။ မင်းကြီး သည်လည်း။ ထို ဆဒ္ဒပါဏိ၏ဂုဏ်ကျေးဇူးစကားကိုကြားလျှင်။ ထိုခဏအမျက်ပြေငြိမ်းသဖြင့်။ မြတ်စွာဘုရား တရား တော်ကို နာ၍။ မိမိ နန်းတော်သို့ ပြန်လေ ၏။ တနေ့သ၌။ ပသေနဒီ ကောသလ မင်းသည်။ နန်းပြာသာဒ် အထက်ဘုံဆင့်၌။ အရှေ့ လေသာ ပြတင်း ဖြင့် မျှော် ကြည့်ကာ နေစဉ်။ ဘိနပ်စီးလျက် မင်းရင်ပြင် ခရီးဖြင့် သွား သော ဆဒ္ဒပါဏိကို မြင်လေသော်။ မင်းချင်းတို့ကိုစေ၍ ခေါ် စေ၏။ ဆဒ္ဒပါဏိလည်း။ ထီးဘိနပ်ကိုလွှတ်ရာချွတ်ထားခဲ့ပြီး လျှင်။ မင်းကြီးထံဝင်၍ တင့်အပ်သော အရပ်၌ ရှိခိုးလျက် နေလေ၏။ မင်းကြီး လည်း အချင်း သိတင်း သည်။ သင် အဘယ် ကြောင့် ထီး ဘိနပ်ကို ချွတ်၍ ထားခဲ့ သနည်းဟု မေး၏။ ဆဒ္ဒပါဏိ လည်း။ အရှင် မင်း ကြီး ခေါ်တော် မူ သည် ဆို သော ကြောင့်။ ထီး ဘိနပ်ကို လွှတ်ရာ ချွတ်ထား၍။ အထံ တော်သို့ ရောက်ပါ သည်ဟု လျှောက် ၏။ ပသေ နဒီ ကောသလ မင်း လည်း။ သိတင်း သည် ဆဒ္ဒ ပါဏိ။ ယနေ့ မှပင် ငါ မင်း ဖြစ် ကြောင်းကို သင် သိသလောဟု ဆို၏။ ဆဒ္ဒ ပါဏိ လည်း အ

ရှင်မင်းကြီး။ အခါ ခပ်သိမ်းပင် ကိုယ်တော် မင်း ဖြစ်ကြောင်းကိုအကျွန်ုပ်သိပါ၏ဟုလျှောက်၏။မင်းကြီးလည်းသိတင်းသည်။ အခါ ခပ်သိမ်းပင် သင်ငါ့ကိုမင်းမှတ်၏ ဆိုသော်။ ယမန်တွင် မြတ်စွာ ဘုရား ထံ ဆည်းကပ်၍ သင်ရှိစဉ်။ ငါ လာသည်ကို သင်သိလျက်။ အဘယ်ကြောင့် နေရာမှ မထသနည်းဟု ဆို၏။ ဆဒ္ဒပါဇာလည်း။ အရှင်မင်းကြီးအမိန့်တော်ရှိတိုင်းမှန်ပေ၏။ အကျွန်ုပ် အရှင်မင်းကြီး လာသည်ကို မြင်လျက်။ မထမရှောင် နေသည်မှာ။ အရှင်မင်းကြီး၏ အရှင်ဖြစ်သော မြတ်စွာ ဘုရား ထံ ခစား လျက် ဖြစ်၍။ မြတ်စွာ ဘုရား၌ မလေး ရာ ကျအံ့ စိုး သောကြောင့်။ အကျွန်ုပ် မထပါသည်ဟုလျှောက်၏။ မင်းကြီး လည်း ရတနာသုံးပါး၌ ကြည်ညိုခြင်းရှိသည်ဖြစ်၍။ ထိုစကား ကိုကြားလျှင်။ နှလုံး အရအခံ ပြေငြိမ်း သဖြင့်။ သိတင်းသည်။ ထိုသို့တပြီးကား ရှိစေတော့။ သင့်အားငါနှလုံးမသာမရှိ။ သင့် ကို ငါကြားဘူးသည်ကား။ သင်သည်ပစ္စုပ္ပန်သံသရာဝယ် အ ကျိုး ရှိသည် မရှိ သည် ၌ လည်း လိမ္မာ ၏။ ပိဋကတ် သုံးပုံ ကို လည်း ဆောင်နိုင် ၏ဟု ငါ ကြားဘူး၏။ ယခု ငါ၏ နန်း တော် တွင်း၌ မပြတ်ဝင်၍ သင် တရား ဟောလော့ဟု ဆို၏။ ဆဒ္ဒပါ ဇာလည်း အရှင် မင်းကြီး။ အကျွန်ုပ် မဝံ့ပါဟု လျှောက်၏။ အ ဘယ်ကြောင့်နည်းဟု မင်းကြီးမေးလျှင်။ အရှင် မင်းကြီး။ နန်း တော် မည်သည်ကား။ မသင့် လျှင်လည်း အဆိုး ဖြစ်လွယ်၏။ သင့်လျှင်လည်း အကောင်း ဖြစ်လွယ်၏။ ထိုသို့ဖြစ်၍။ မင်းနှင့် ဆက်ဆံ ရသော သူ တို့အား ထိတ် လန့်ဘွယ် များစွာ ရှိ၏။ ဤ နန်း တော်၌ အကျွန်ုပ် သို့သော မထင် မရှား သူကို။ နန်းသူနန်း သား တို့သည် အလေး အမြတ် ပြုမည်ကား အလွန် ခဲလှ ၏ဟု လျှောက်၏။ ထိုစကားကိုကြားလျှင် မင်းကြီးလည်း။ သိတင်း သည်။ ဤစကားကိုမဆိုလင့်။ ယမန်တွင် ငါ့ကိုမြင်၍ သင်မထ မရှောင် နေမိသည့်အမှုကို။ ငါနှလုံး ထားလိမ့်မည်ထင်၍ သင် စိုးရှာ တို့သလော။ မစိုး ရိမ်လင့်။ တရား တော်ကို ကြည်ညို သ

ဖြင့်။ သင့်ကိုငါအလေးအမြတ်ပြုပါမည်ဟုဆို၏။ ဆတ္တပါဏိ လည်း အရှင်မင်းကြီး။ နန်းတော် မည်သည်ကား လူတို့၌ ရာဇဝတ် နိုးသည် ဖြစ်၍ အပြစ်များ၏။ တရား တော်ကို မပြတ် နာလိုလျှင်။ ပိဋကတ်တော်ကိုဆောင်ရွက်သော ရဟန်းရှားသည် မဟုတ်။ ရဟန်း တပါး ပါးကို ပင့်၍ နာတော် မူစေချင်၏။ နန်းတော် ၌ တရား ဟောခြင်း မည်သည် ရဟန်း သာလျှင် အလွန် လျောက် ပတ် သည်ဟု လျှောက် ၏။ မင်းကြီး လည်း သိ တင်း သည်ကောင်းပြီ။ သင်မဟောလိုလျှင် သွားလေတော့။ သင်ဆိုတိုင်း ရဟန်း တပါးပါးကိုပင် ပင့်၍ ဟောစေ ရတော့ မည်ဟု ဆိုလျက်။ ဆတ္တပါဏိကိုလွှတ်လိုက်ပြီးသော်၊ ပသေနဒီကောသလ မင်း သည် မြတ်စွာ ဘုရား ထံ သွား ၍။ ဤ သို့ လျှောက် တောင်းပန်၏။ အရှင်ဘုရား၊ အကျွန်ုပ်၏ မိဖုရားကြီး မလ္လိကာ ဒေဝီ သည် လည်း ကောင်း။ အရှင်ဘုရား ဆွေတော် မျိုးတော် သမီးဖြစ်သော ဝါသဘ ခတ္တိယာ ဒေဝီ သည်လည်းကောင်း။ ထို မင်းမိဖုရားတို့သည်။ ပိဋကတ်တော်ကို သင်ကြားလိုပါသည် ဟု အကျွန်ုပ်ကို တိုက်တွန်းသောကြောင့်။ ယခုအထံတော်သို့ ရောက်ရ ပါသည်။ ထိုမိဖုရားတို့အား သင်္ဂြိုဟ်တော် မူခြင်းငှာ သင်္ဃာ တော် ငါးရာနှင့် တကွ အကျွန်ုပ် နန်းတော်သို့ တနေ့ မ ပြတ်ကြွ၍။ တရား ဟောစေချင် ပါသည်ဟု လျှောက်တောင်း ပန်၏။ မြတ်စွာ ဘုရား လည်း မင်းကြီး။ ဘုရား တို့ မည်သည် ကား။ တဦးသောအရပ်သို့သာ အမြဲသွားလာခြင်းမရှိဟု ပယ် တော်မူ၏။ မင်းကြီး လည်း အရှင် ဘုရား။ ထိုသို့ တပြီး ကား။ ကိုယ်တော်မကြွလျှင်။ တပည့်တော်တပါးကို လွှတ်တော်မူပါ ဟုလျှောက်၏။ မြတ်စွာဘုရားလည်းမင်းကြီး။ ကောင်းပြီ။ အာ နန္ဒာကိုပင် လွှတ်ရ တော့ မည်ဟု အမိန့် တော် ရှိလိုက် သ ဖြင့်။ မင်းကြီးလည်း နန်းတော်သို့ ပြန်လေ၏။ မြတ်စွာ ဘုရားလည်း အရှင်အာနန္ဒာကိုခေါ်တော်မူ၍။ မင်းကြီးနန်းတော်သို့ နေ့တိုင်း မပြတ် တရားဟောချေဟု စေခန့်တော်မူ၏။ ရှင်အာနန္ဒာလည်း

အခါမိန့်တော် ရှိတိုင်း ဝန်ခံ၍။ နေ့တိုင်း မပြတ် နန်းတော် သို့ ဝင်လျက်။ အကျည်းအားဖြင့် ဝိဋကတ် တော်ကို မိဖုရား တို့အား သင် ချ တော် မူ၏။ သင် ကုန် သော မိ ဖုရား ကြီး နှစ် ယောက်တို့တွင်။ မလ္လိကာဒေဝီသည်ကား အလေးအမြတ်ပြုလျက်။ နေ့တိုင်း မပြတ် ဥာဏ်နှင့် တန်ရုံ သင်၍။ အခေါက် ခေါက် အပြန်ပြန်။ ရွတ်အံသရဇ္ဈာယ်လျက်။ နှုတ်တက်အာဂုံဆောင်သဖြင့်။ ဆရာ ထံ၌ ပြန်နိုင် ၏။ ဝါသဘ ခတ္တိယာ ဒေဝီ ကား ပေါ့ ပေါ့လျော့လျော့ ရွတ်အံသရဇ္ဈာယ်ခြင်းကိုပြု၍။ နှုတ်တက်အာဂုံမပါသဖြင့်။ ဆရာထံ၌ မပြန်နိုင်ဘဲ။ သင်ချသည့်အခိုက် အံရွတ်လိုက်ရုံမျှသာဖြစ်၏။ တနေ့သ၌မြတ်စွာဘုရားသည်ရှင်အာနန္ဒာကိုခေါ်တော်မူ၍။ အာနန္ဒာ။ မင်း၏မိဖုရားတကာတို့သည်ငါ၏တရားတော်ကို သင်ကြား ကြပါ၏လောဟု မေးတော်မူ၏။ ရှင်အာနန္ဒာ လည်း အရှင်ဘုရား။ သင်ကြား ကြပါ ၏ဟု လျှောက်လျှင်။ မြတ်စွာ ဘုရား သည်။ သင် အာနန္ဒာ။ သင်ကြား ၏ ဟူသော်။ အလေး အမြတ် ပြု၍ သင်ကြား ကြပါ ၏ လော ဟု မေးတော်မူပြန်၏။ ရှင်အာနန္ဒာလည်း အရှင်ဘုရား။ မလ္လိကာဒေဝီကား။ အလေး အမြတ် ပြု၍ သင်ကြား လေ့ ကျက် နှုတ် တက်အာဂုံ ဆောင်ပါသည်ဟုလျှောက်၏။ ထိုစကားကိုကြားလျှင်။ မြတ်စွာဘုရားသည် အရှင်အာနန္ဒာအား။ အာနန္ဒာ။ ငါဘုရားဟောတော်မူအပ်သော တရားတော်သည် အလေးအမြတ်ပြု၍ မသင်ကြားသောသူ။ အလေးအမြတ်ပြု၍ မရွတ်မအံသောသူ။ အလေးအမြတ်ပြု၍ ဆောင်ရွက် မှတ်သားခြင်း မရှိသောသူတို့အား။ အရောင် အဆင်းသာ ရှိ၍ အနံ့ မရှိသောပန်းနှင့် တူလေ၏။ အလေး အမြတ်ပြု၍ သင်ကြား မှတ်သားကုန်သော သူတို့အားကား။ ငါဟောတော် မူအပ်သော တရားတော်သည်။ အရောင် အဆင်း အနံ့နှင့် ပြည့်စုံ သော ပန်းနှင့် တူလေ ၏ဟု မိန့်တော်မူပြီးလျှင်။ ။ယထာပိရုစိရံပုပ္ဖံ။ ဝဏ္ဏဝန္တံ အဂန္ဓကံ။ ဧဝံ သုဘာသိတာဝါစာ။ အဖလာဟောတိအကုဗ္ဗတော။ ။ယ

ထာပိရှစိရံပုပ္ဖံ။ဝဏ္ဏဝန္တံ။သုဂန္ဓကံ။ဧဝံသုဘာသိတာဝါစာ။သဖလာပေါတိကုဗ္ဗတော။ ။ဟူသော နှစ်ဂါထာကို ဟောတော်မူ၏။ ။အခါနန္ဒ။ အခါနန္ဒာ။ ရှစိရံ။ တင့်တယ်သော။ ဝဏ္ဏဝန္တံ။အဆင်းလှသော။ အဂန္ဓကံ။အနံ့မရှိသော။ ပုပ္ဖံယထာ။ သခွတ်ပွင့်။ လယ်ခေါင်ရန်းပွင့် အစ ရှိသော ပန်း ကဲ့သို့။ ဧဝံ တထာ။ ထိုအတူ။ သုဘာသိတာ။ ကောင်းစွာ ဟောတော် မူအပ်သော။ ဝါစာ။ ငါ၏ တရား တော်သည်။ အကုဗ္ဗတော။ ပြုအပ်သည်ကိုမပြုသောသူအား၊ အဖလော။ အကျိုးမရှိသည်။ ဟောတိ။ဖြစ်၏။ ။အခါနန္ဒ။အခါနန္ဒာ။ရှစိရံ။တင့်တယ်သော။ဝဏ္ဏဝန္တံ။အဆင်းလှသော။ သုဂန္ဓကံ။ မွှေးသင်းစွာအနံ့ရှိသော။ ပုပ္ဖံယထာ။ စံကားပွင့်။ကြာညိုပွင့်အစရှိသောပန်းကဲ့သို့။ ဧဝံတထာ။ ထိုအတူ။ သုဘာသိတာ။ ကောင်းစွာဟောတော်မူအပ်သော။ ဝါစာ။ ငါဘုရားတရားတော်သည်။ ကုဗ္ဗတော။အလေးအမြတ်ပြု၍ သင်ကြားဆောင်ရွက်သောသူအား။ သဖလော။ အကျိုးရှိသည်။ဟောတိ။ဖြစ်၏။ ။ဤကားအနက်။

အဓိပ္ပါယ်ကား။ အခါနန္ဒာ။ ကောင်းစွာ ဟောတော် မူ အပ်သော ငါဘုရား၏တရားတော်သည်။ အလေးအမြတ်ပြု၍ သင်ကြားဆောင်ရွက်ခြင်းမရှိကုန်သောသူတို့အား။သုံးပါးသောအမွှေးအနံ့ မလိုင်သည်ဖြစ်၍။ အရောင်အဆင်းသာရှိလျက်။ အနံ့မရှိသော သခွတ် ပွင့်။ လယ် ခေါင် ရန်း ပွင့် စသည် တို့နှင့် တူလေ၏။ အဘယ် သို့ တူလေ သနည်း ဟူမူကား။ အရောင် အဆင်းသာ ရှိ၍ အနံ့ မရှိသော သခွတ်ပွင့်။ လယ် ခေါင်ရန်း ပွင့် စသည်ကို ပန်သောသူအား။ ထိုမိမိ ပန်သောပန်းမှရနံ့သည်မိမိကိုယ်၌ မထုံမလိုင် သကဲ့သို့။ ငါ့ တရား တော်ကို အလေး အမြတ်ပြု၍ မသင် မဆောင် ကုန်သော သူတို့အား။ အကြား။ အမြင်။ ကျင့်ဝတ်ရနံ့။ ဤ သုံးပါးသော အမွှေး အနံ့တို့သည် မထုံမလိုင် သဖြင့်။ အကြားအမြင် ဆိတ်ခြင်း။ နှုတ် ဆိတ်ခြင်း။ အကျင့် ချွတ် ယွင်းခြင်း တည်း ဟူသော အကျိုးမဲ့သာ ဖြစ်လေ၏။

အလေး အမြတ် ပြု၍ သင်ကြား ဆောင်ရွက် ကုန်သော သူတို့ အားကား။ ကောင်းစွာ ဟောတော် မူအပ်သော ငါ၏ တရားတော် သည်။ သုံးပါး သော အမွေး ရနံ့ လှိုင် သည် ဖြစ် ၍။ အဆင်းအနံ့အရောင်အသွေးနှင့် ပြည့်စုံသောစံကားပွင့်။ ကြာညိုပွင့် စ သည်နှင့် တူလေ ၏။ အဘယ် သို့ တူလေ သနည်း ဟူ မူကား။ ထိုစံကားပွင့်။ ကြာညိုပွင့် စသည်ကို ပန်သောသူအား။ ပန်းပွင့်မှ ဖြစ်သော အမွေး အထုံ ရနံ့ တို့သည် မိမိကိုယ်၌ ထုံ လှိုင်လေ သကဲ့သို့။ ငါ၏တရားတော်မှ ဖြစ်၍။ သုံးပါးသော အမွေး ရနံ့ တို့ သည် တ သင်း သင်း တ ကြိုင် ကြိုင် လှိုင် သဖြင့်။ ပစ္စုပ္ပန်၌ အကြွားအမြင် များသောသူဟု လူခပ်သိမ်းတို့ မှိုရိုရာ ပဒေသာ ပင်သဘွယ်ဖြစ်ခြင်း။ ပရိသတ်တို့၏အလယ်၌အမေး ပြဿနာ ပိဋကဝါဒ စသည် တို့ကို သုတ်သင် ခြင်း။ သန့် ရှင်း ခြင်း။တင်းမာရဲရင့်ခြင်း။များးစွာပြည့်ဆုံးမနိုင်ခြင်း။ကျင့်အပ် မကျင့်အပ်သည်ကို သိသည်နှင့်အညီ။ ကိုယ်ကို ဖြောင့်မှန်စွာ ကျင့်နိုင်ခြင်း တည်းဟူသော အကျိုးတို့နှင့်ပြည့်စုံသည် ဖြစ်၍။ တမလွန် သံသရာ၌လည်း။ ခရီးလမ်းမဝယ် ခပ်သိမ်းကုန်သော မြေရာအပေါင်းတို့တွင်။ ဆင်၏မြေရာသည်သာလျှင် ထင်ထင် ပြက်ပြက် တွင် သကဲ့သို့။ ခပ်သိမ်း ကုန်သော တရားအပေါင်း တို့တွင်လည်း။ မမေ့မလျော့ ပြုအပ်သော အပ္ပမာဒ တရားသာ လျှင် ထင်ထင် ပြက်ပြက် တွင်သည် ဖြစ်၍။ ဤဘဝက မမေ့မ လျော့ မှတ်နာ သင် ကြား ခြင်း။ ကျင့် ဆောင် ခြင်း တည်း ဟူ သောအပ္ပမာဒ၏အစွမ်းဖြင့်။ စက်လေးပါးကိုရ သည် ရှိသော်။ ပင်ပန်းစွာ အား မထုတ်ရဘဲ။ တရား အကျင့် တို့ကို သုတ်သင် ကာ အလွယ် တကူ ယူဆောင် နိုင်လျက်။ ပညာ ပါရ မီကို အ ဆက်ဆက် သင်၍ ရင့်စေသဖြင့်။ အမြိုက်တရား ရလွယ်ခြင်း ၏အကြောင်းဖြစ်လေ၏ဟုဟောတော်မူလေ၏။

အထူး ထူးသော နည်း ဥပဒေသ တို့ကို သင်ကြား လေ့လာ မှတ်နာ ဆောင် ရွက်ခြင်း။ ကျင့်ဝတ် တရားတို့ကို ကျင့်ခြင်း စ

သည့် ကုသိုလ်တရားတို့၌။ မမေ့မလျော့ပြုခြင်း တည်းဟူသော အပ္ပမာဒတရားကိုချီးမွမ်းတော်မူလို၍။ ရဟန်းတို့။ခြေဖြင့်သွားကုန်သော သတ္တဝါ တို့၏ အလုံးရုံ ကုန်သော ခြေရာတို့သည် ရှိကုန်၏။ ထိုအလုံးရုံသော ခြေရာ တို့သည် ဆင် ခြေရာ၌ ပေါင်းခြင်း သို့ ရောက် ကုန် ၏။ ထို ခြေရာ အပေါင်း တို့ တွင် အကြင် ဆင်ခြေရာသည်ရှိ၏။ ထိုဆင်ခြေရာကို ကြီးစွာသောသဘောအား ဖြင့် မြတ် ၏ ဟူ၍ ပောာ အပ် သကဲ့ သို့။ ဤအတူ လည်းကောင်း။ ရဟန်းတို့။စင်စစ်သဖြင့်။ခပ်သိမ်းကုန်သောကုသိုလ်တရားတို့သည်ရှိကုန်၏။ ခပ်သိမ်းကုန်သော ထိုကုသိုလ်တရားတို့သည် မမေ့မလျော့ ခြင်းလျှင် အရင်းရှိကုန်၏။ မမေ့မလျော့ခြင်းလျှင် လည်းလျောင်းရာ ရှိကုန် ၏။ ထို ကုသိုလ် တရား တို့တွင်။ အပ္ပမာဒ တရားတို့ကို အထွဋ် အမြတ် ဟူ၍ ပောာအပ်၏။ ဤသို့ ပောာတော် မူသည်နှင့် လျော်စွာ။ တရား ကျမ်း ဂန်တို့မှ ထွက်လာ အပ်သော နည်းနာ ဥပဒေသ တို့ဖြင့် အလေးအမြတ်ပြု၍။ အားနှင့်လျော်စွာ။ သင်ကြားမှတ်နာ။လေ့လာနှီးနှော။ ပောာပြောမေးမြန်းခြင်းရှိမှ။ ကျင့်အပ်သည်။မကျင့်အပ်သည်။ အပြစ် နည်းသည်။ အပြစ် များသည်။ အကျိုး နည်းသည်။ အကျိုးကြီးသည်။ အကြောင်းဟုတ်သည်။ မဟုတ်သည်တို့ကိုသိနိုင်ရာ၏။ ထိုသို့သိသဖြင့်။ အပြစ်ကိုထင်မြင်မှ။ အကျိုးကိုခင်မင်စွာကုသိုလ်ဓမ္မ၌။ မမေ့မလျော့ခြင်း အပ္ပမာဒတရားဖြစ်ရာ၏။ အပ္ပမာဒတရားပွားများဆောင်နိုးခြင်းရှိမှ။ ကျင့်ဝတ်တရား၌ ဆောက်တည် နိုင်ရာ၏။ ကျင့်ဝတ် တရားရှိမှ။ သဂ္ဂ မောက္ခအကျိုးရှိနိုင်ရာ၏ဟု အမြဲနှလုံးထား၍။ ကုသိုလ်တရားတို့၏ အကြီးဖြစ်သော အပ္ပမာဒတရားလျှင် တိုက်တွန်းခြင်းဖြင့်။ ကျင့်ဝတ်တရား၏ အကြောင်းမူလတရားဖြစ်သော တရားကျမ်းဂန်။ ပုံစံသက်သေ။ ဥပဒေနည်းနာတို့ကို အားနှင့်လျော်စွာ အလေးအမြတ်ပြု၍။ မှတ်သားလေ့ကျက်အပ်ဖွပေသည်ဟုဆိအပ်၏။ တော်တော် ငြားငြား။ လူ၏ အဖြစ်ကို ရ၍။ ကြိမ်ခဲ ဖွစွာသော

ဗုဒ္ဓုပ္ပါဒ ခဏာ၌ ကြိမ်လျက်။ ထိုထက် ခဲစွာသော တရားတော်ကိုကြားနာရ၍မျှ သဒ္ဓါတရားကို မဖြစ်စေဘဲ။ တရားကျွန်းဂန်။ ပုံစံနည်းနာ။ အဖြာဖြာသော သုတတို့ကို အလေးအမြတ် မပြု။ ကြည့်ရှု သင်ကြား မှတ်သား ခြင်း မရှိ ကုန်သော သူတို့သည်။ နွား တိရစ္ဆာန်နှင့် အလားတူခြင်းသို့ ရောက် လေ၏။ ။ဤအကြောင်းကို ဓမ္မပဒ ပါဠိ တော်၌ လာဠုဒါယိဝတ္ထုကိုမြင်၍ သိအပ်၏။

## လာဠုဒါယိဝတ္ထု။

အဘယ်သို့ သိအပ် သနည်း ဟူမူကား။ သာဝတ္ထိ ပြည်၌ လာဠုဒါယိ အမည်ရှိသော ရဟန်းသည်။ ပရိယတ်ပဋိပတ်တို့၌ အလေး အမြတ် သင်ကြား ခြင်း။ ဆောင်ရွက် ခြင်းကို မပြု။ ကိုယ်စကားမတည်မှုရပ်။ လျှပ်ပေါ် ခြင်းရှိ၏။ ထိုအရှင်လာဠုဒါယိ ထေရ် သည်။ လူ တို့၌ မင်္ဂလာ ပြုသည် ရှိသော်။ ထိုမင်္ဂလာပြုရာ လူအစုအဝေးသို့သွား၍။ အမင်္ဂလာစကားကိုပြော၏။ လူတို့ အမင်္ဂလာ ပြုသည်ရှိသော်။ ထို အမင်္ဂလာ ပြုရာ အစု အဝေးသို့သွား၍။ ယံကိဉ္စိ ဝိတ္တံ ဣဓ ဝါ။ စသည်ဖြင့်။ရတနသုတ်စသော မင်္ဂလာ စကားကို ပြောဟော၏။ မိမိ စကားကို ထိုလူအပေါင်းတို့လည်း အလေးအမြတ် မပြုဘဲ။ ဤရဟန်းကား။ အရာမဟုတ်သော စကားကို ပြောဆိုဘိ၏ဟု ကဲ့ရဲ့ကြကုန်၏။ ထိုစကား ကို ရ ဟန်း တို့ ကြား လေ သော်။ မြတ် စွာ ဘုရား ထံ အကြောင်းကို လျှောက်ကြား ကြကုန်၏။ မြတ်စွာဘုရားသည် ထိုစကား ကို ကြား လျှင်။ ရဟန်း တို့။ ဤ လာဠုဒါယိ ကား။ ယခုသာ အမှု ကို မမြင်။ အလျော် ကို မစာ။ အခါ ကို မ မှတ်။ ပရိသတ်တို့ကို မချင့်။ တဖြင့်တပါး။ တိမ်းမှား ယွင်းချွတ်သော စကားကို ပြောသည် မဟုတ်။ ရှေး သံသရာကလည်း ပြောဘူးပြီဟု အမိန့်တော်ရှိ၏။ ထို ရဟန်း တို့သည် ရှေး၌ အကြောင်း ကို တောင်းပန် လတ်သော်။ အတိတ်ကိုဆောင်လို၍။ သောမဒတ္တဇာတ်ကိုဟောတော်မူ၏။

လွန်လေ ပြီးသော အခါ။ ဗာရာဏသီ ပြည်၌ အဂ္ဂိဒတ္တ အမည်ရှိသော ပုဏ္ဏားသည် လယ်လုပ်၍အသက်မွေး၏။ ထိုအဂ္ဂိဒတ္တပုဏ္ဏား၏သားကားသောမဒတ္တမည်၏။ ထိုသောမဒတ္တသ

တို့ သား သည် အရွယ် ရောက် လတ် သော အခါ။ ဗာရာဏသီ
မင်းကြီးထံ ခစား လေ၏။ မင်းကြီး လည်း သောမဒတ္တ လုလင်
ကို အလွန်ချစ်ခင် မြတ်နိုးခြင်း ရှိ၏။ အဘ ဖြစ်သော အဂ္ဂိဒတ္တ
ပုဏ္ဏား ဆင်းရဲသည် ဖြစ်၍။ နွား တရှည်းသာရတတ်၏။ တရံ
ရောအခါ။ အဂ္ဂိဒတ္တ ပုဏ္ဏား၌ နွား တဘက် သေသွဲ့၏။ ထိုအခါ
အဂ္ဂိဒတ္တ ပုဏ္ဏားသည်။ သားဖြစ်သော သောမဒတ္တ လုလင်ကို။
ချစ်သားသောမဒတ်။ ငါ့မှာနွားတဘက် သေသည်ဖြစ်၍လယ်
ထွန် စရာ မရှိပြီ။ အရှင် မင်းကြီး မှာ နွား တဘက်ကို လျှောက်
တောင်း ၍ သင် ပေး လော့ ဟု ဆို၏။ သား သောမဒတ် လုလင်
လည်း။ အရှင်မင်းကြီးအား နွားတခုမျှကိုလို၍ လျှောက်ရမည်
ဟူသော်။ အလွန်ရှက်ဘွယ်ရှိ၏ဟု။ ဖျို့ရွယ်သူတို့ခလေ့ရှက်နိုး
သဖြင့်။ ဘခင်။ ဤနွားတဘက်မျှနှင့် ကျွန်ုပ်လျှောက်ရမည်ကား
အလွန်ခက်၏။ အပန်းမကြီးသော အရာကို ဘခင်ပင် လျှောက်
တောင်း ပါ တော့ဟု ဆို၏။ အဂ္ဂိဒတ္တ ပုဏ္ဏား လည်း။ ယင်းသို့
သင်မတောင်းလိုလျှင်။ ငါပင် တောင်းလျှောက်မည်။ မင်းကြီး
ထံ ငါ့ကို ဆောင် လော့ဟု ဆို၏။ ထိုအခါ သောမဒတ် လုလင်
သည် ဤသို့ကြံ၏။ ငါ့အဘကား။ ထိုင်းမှုည်းသောပညာလည်း
ရှိ၏။ ဆုတ်တန် တက်တန် ရှေ့ နောက် စကား ကိုလည်း မသိ။
မင်းကြီးထံ အချွတ်ချွတ် အလွဲလွဲ လျှောက်ထား ချေသော်။ ငါ့
အား ရှက်ဘွယ်ဖြစ်ရာ၏။ ယင်းသို့ဖြစ်သောကြောင့်။ မင်းကြီး
ထံ လျှောက်ရန် စကားကို ဤ အိမ်က ငါ သင်ဦး အံ့ဟု ကြံပြီး
သော်။ ဘခင်။ မင်းကြီးအား လျှောက်ထား မည် ဟူသော သူ
ကား အလွန် ခဲ၏။ မင်းကြီး ထံ နေဟန်။ ခစား ဟန်။ လျှောက်
ထားရဟန်များကို။ အလေ့အကျက် ဖြစ်အောင် ကျွန်ုပ်သင်ဦး
အံ့။ လာ လှည့် ဟု အဘ ပုဏ္ဏား ကို ခေါ်၍။ သင်္ချိုင်း ကုန်း သို့
သွားပြီးသော်။ မြက်ပင်ကိုဖြတ်ရိတ်၍ အထုံးအထုံး ပြုလျက်။
ဘခင်။ ဤ မြက်ထုံးကို မင်းကြီးဟု မှတ်။ ဤ မြက်ထုံးကို အိမ်
ရှေ့မင်းဟုမှတ်။ ဤမြက်ထုံးကိုစစ်သူကြီးဟုမှတ်။ ဤမြက်ထုံး

ကို အမတ်ကြီးဟု မှတ်ဟု အသီးသီး မှတ်စေပြီးလျှင်။ အိမ်ရှေ့မင်း။ စစ်သူကြီး။ မှူးမတ်တို့။ မင်းကြီးထံခစား၍ နေဟန်။ မြက်ထုံးများကို နေရာ ချထားပြီးမှ။ နန်းတော်သို့ဝင်သည့် အခါ။ ဤသို့ဝင်ခဲ့ရမည်။ မင်းကြီးအနီးသို့ရောက်သော အခါ ဤသို့ဆုခြွေနှင့်ပြည့်ရုံ့စွာလာ၍။ ဤသို့သောနေရာက ဤသို့နေပြီးလျှင်။ ဘုန်းတော် ကြီး လှ သော အရှင် မင်းကြီး အား အောင်မြင်း မင်္ဂလာ ဖြစ်ပါစေသတည်းဟုရှေးဦးစွာဆိုရမည်။ ထိုသို့ဆိုပြီးမှ။ အိမ်ရှေ့မင်းကို ရှိခိုး၍။ ၎င်း စကားကိုပင် ဆိုရမည်။ ဤ မင်္ဂလာ စကားကိုလျှောက်ထားပြီးမှ။ မင်းကြီးအား ဤသို့ရှိခိုးလျှက်။ ။ ဒွေ မေ ဂေါ ဏာ မ ဟာ ရာ ဇ။ ယေ ဟိ ခေ တ္တံ က သာ မသေ။ တေသု ဧကော မတော ဒေဝ။ ဒုတိယံ ဒေဟိ ခတ္တိယ။ ။ဟူသော ဂါထာဖြင့် နွား တဘက်ကို တောင်း လျှောက် ရမည်ဟု သင်၏။ ။မဟာရာဇ။မြတ်သောမင်းကြီး။မေ။အကျွန်ုပ်အား။ ဒွေဂေါဏာ။ နွား နှစ်ခုတို့သည်။ သန္တိ။ ရှိကုန်၏။ ယေဟိ။ အကြင်နွားတို့ဖြင့်။ ခေတ္တံ။ လယ်ကို။ ကသာမသေ။ ထွန်ရ၏။ ဒေဝ။ အရှင်မင်းကြီး။ တေသု။ ထိုနွား နှစ်ခုတို့တွင်။ ဧကော။ တခုသော နွားသည်။ မတော။ သေခဲ့၏။ ခတ္တိယ။ အရှင်မင်းကြီး။ ဒုတိယံ။ နွား တခုကို။ ဒေဟိ။ ပေးတော် မူပါလော့။ ။ဤကား အနက်။

အဓိပ္ပာယ်ကား။ အရှင် မင်း ကြီး။ အကျွန်ုပ် ၌ နွား တရှည်း သာ ရတတ်သည် ဖြစ်၍။ ထိုနွား တရှည်းဖြင့် လယ် ထွန်လျက် အသက်မွေးရပါသည်ကို။ ယခုနွားတဘက်သေခဲ့၏။ ရှိသည့် နွားတခုနှင့် ဘက်ရန်နွားတဘက်။ ကိုယ်တော်က သနားတော် မူပါဟုလျှောက်တောင်းရမည်ဆိုလိုသည်။

အဂ္ဂိဒတ္တ ပုဏ္ဏားလည်း သားသောမဒတ်သင်တိုင်း။ ထိုအလုံးစုံ ကို လေ့ကျက်၍ကျွမ်းကျင်ပြီးသော်။ သားသောမဒတ်လုလင်အားအကြောင်းကိုပြော၏။ သောမဒတ်လုလင်လည်း။ ဘခင်။ ထိုသို့တပြီးကားကောင်းပြီ။ မင်းကြီးထံ ကျွန်ုပ်ရှေးဦးစွာ

သွား၍ခစားနှင့်အံ့။ ကိုယ်နှင့်တန်ရုံ ဆက်သရန် ပဏ္ဏာများကို ယူ၍။ နောက်မှ မင်းကြီးထံ ဘခင် လာခဲ့ တော့ဟု ဆို ၍။ နန်းတော်သို့ ဝင်လျက် မင်းကြီးထံ ခစား လေ၏။ အဘ အဂ္ဂိဒတ္တ ပုဏ္ဏားလည်း။ ဆက်သရန် ပဏ္ဏာများကို ယူလျက်။ နောက်မှ နန်းတော်သို့ သွား၍။ သား သောမဒတ်လုလင် သင်ထားသော အတိုင်း မင်းကြီးထံ ဝင်ပြီးသော်။ ရိုသေစွာ ရှိခိုးလျက် ခစား လေ၏။ မင်းကြီးလည်း။သောမဒတ်၏အဘပုဏ္ဏား။အဘယ်အလိုရှိ၍ ဤနန်းတော်သို့ လာသနည်း။ ဤနေရာ၌ နေ လော့ဟု နှစ်လိုဖွယ်လန်းစွာ နှုတ်ဆက် မေးမြန်းခြင်းကို ပြု၏။ ထိုအခါ အဂ္ဂိဒတ္တပုဏ္ဏားသည်။ နွားတဘက်ကိုတောင်းအံ့သောငှာ။ ။ဒွေမေဂေါဏာ မဟာရာဇ။ ယေဟိခေတ္တံ ကသာမသေ။ တေသုဧကောမတောဒေဝ။ ဒုတိယံဂဏှ ခတ္တိယ။ ။ဟူသောဂါထာဖြင့်အချွတ်ချွတ်အလွဲလွဲလျှောက်လေ၏။ ။မဟာရာဇ။မြတ်သောအရှင်မင်းကြီး။ မေ။ အကျွန်ုပ်အား။ ဒွေဂေါဏာ။ နွားနှစ်ခတို့သည်။ သန္တိ။ ရှိကုန်၏။ ယေဟိ။ အကြင်နွားတို့ဖြင့်။ ခေတ္တံ။ လယ်ကို။ကသာမသေ။ထွန်ရ၏။ ဒေဝ။အရှင်မင်းကြီး။တေသု။ ထိုနွားနှစ်ခတို့တွင်။ ဧကော။တခုသောနွားသည်။ မတော။သေခဲ့၏။ ခတ္တိယ။ အရှင် မင်းကြီး။ ဒုတိယံ။ ရှိသော နွား တခု ကို။ ဂဏှ။ ယူတော်မူပါလော့။ ။ဤကားအနက်။

အဓိပ္ပါယ်ကား။ အ ရှင် မင်းကြီး။ အ ကျွန်ုပ် အား နွား တရှည်းသာ ရတတ်သည် ဖြစ်၍။ ထိုနွား တရှည်းဖြင့် လယ်ထွန်လျက် အသက်မွေးရပါသည်ကို။ ယခုနွားတဘက်သေခဲ့၏။ ရှိသည့် နွားတဘက်ကို အရှင်မင်းကြီးယူတော်မူပါဟု လျှောက်၏။

မင်းကြီး လည်း ပုဏ္ဏား စကားကို ကြားလျှင်။ အလျှောက်လွဲသော အကြောင်း ကို သိ၍ ပြုံး လျက်။ အချင်း သောမဒတ်။ သင်တို့အိမ်မှာ နွားများစွာ ရတတ်ဟန် ရှိ၏တကား။ သင်ပေးသည် ဖြစ်တော့မည်ဟု ကျီစယ်၏။ သောမဒတ် လုလင်လည်း

အရှင် မင်းကြီး။ အကျွန်ုပ်တို့အိမ်၌ အဘယ်မှာ နွား ရတတ်ပါ အံ့နည်း။ ယခု ကိုယ်တော်ကို ဆက်သော နွား တချပြင် မရှိဟု လျှောက်၏။ မင်းကြီး လည်း သောမဒတ် လုလင်အား ချစ်မြတ် နိုး ခြင်းဖြင့်။ ကျေးစားရွာ တရွာ။ အဝတ် တန်ဆာရုံ။ နွား တ ဆယ် ခြောက်ရှင့် တကွ ပုဏ္ဏားအား ပေးလျက်။ များစွာ အ ချီးအမြှောက်ဖြင့် ချီးမြှောက်၍လွှတ်လိုက်၏။ ဤသို့အတိတ်ကို ဆောင် ပြီးလျှင်။ ရဟန်းတို့။ ယခု မှသာ လာဠုဒါယိ သည် အ ချွတ်ချွတ် အလွဲလွဲ ပြောတတ်သည်မဟုတ်။ ရှေးကလည်းပြော ဘူး၏ဟု စကားရင်းကို ဘော်တော်မူပြီး၍။ ရဟန်းတို့။ ထိုအ ခါ ဗာရာဏသီ မင်းကြီး သည်။ ယခုအခါ အာနန္ဒာ ဖြစ်လာ၏။ ထိုအခါ အဂ္ဂိဒတ္တ ပုဏ္ဏားသည်။ ယခုအခါ လာဠုဒါယိဖြစ်လာ ၏။ ထိုအခါ သောမဒတ်လုလင်သည်။ ယခုအခါ ငါဘုရားဖြစ် လာ၏ဟု ဇာတ်ကို ပေါင်းတော်မူပြီး သော်။ ရဟန်းတို့။ လာဠု ဒါယိ သည် အကြားအမြင် မရှိ ခြင်းကြောင့်။ ဆိုရမည်စကား ကိုမသိ။ ဤ စကားကို ဆိုလျှင်။ ထိုစကားကို ဆိုမိ လေ၏။ ထို ကြောင့်။ ရဟန်းတို့။ အကြားအမြင် နည်းသော သူသည်။ နွား တိ ရစ္ဆာန် နှင့် တူ သည် သာ လျှင် ဖြစ် ၏ ဟု မိန့် တော် မူ ပြီး လျှင်။ ॥အပ္ပဿုတာယံပုရိသော။ ဗလိဗဒ္ဒေါဝဇိရတိ။ မံသာ နိတဿ ဝဍ္ဍန္တိ။ ပညာတဿနဝဍ္ဍတိ။ ॥ဟူသောဂါထာကို ဟောတော်မူ၏။ ॥အယံပုရိသော။ ဤယောကျ်ားသည်။ အပ္ပ သုတော။ အကြားအမြင်နည်းသည်ဖြစ်၏။ သောပုရိသော။ ထို အကြား အမြင် နည်း သော သူ သည်။ ဗလိ ဗဒ္ဒေါဝ။ နွား လား ကဲ့ သို့ လျှင်။ ဇိ ရ တိ။ အိုရ ၏။ တ ဿ။ ထို အကြား အ မြင် နည်း သော သူအား။ မံသာနိ။ အသား တို့သည်။ ဝဍ္ဍန္တိ။ ပွား ကုန်၏။ တဿ။ ထိုအကြားအမြင်နည်းသောသူအား။ ပညာ။ ပညာသည်။ နဝဍ္ဍတိ။ မပွားရာ။ ॥ဤကားအနက်။

အဓိပ္ပါယ် ကား။ လောကီ လောကုတ္တရာ အားဖြင့် ပြား သော သုတ ပညာ တို့တွင်။ တခုသော သုတကိုမျှ အလေး အ

မြတ် ပြု၍ မှတ် နာ ဆောင် ရွက် လေ့ ကျက် ခြင်း မရှိ သော သူ
သည် ကိုယ်၏ လည်း ကောင်း။ ကိုယ်နှင့် စပ်သော မိဘ ဆွေ
မျိုး စသည်တို့၏လည်းကောင်း။ ပစ္စုပ္ပန်သံသရာ၌ အကျိုးပွား
များ အံ့သည်ကို မဆောင်နိုင်သည် ဖြစ်၍။ ကိုယ်ကို သာလျှင်
အလှမွေးသောနွားလားကဲ့သို့။ မိမိဝမ်းကိုကျောင်းရုံမျှဖြင့်သာ
အသက် မွေးရ၏။ ထိုအကြား အမြင် နည်းသော သူအား။ နေ့
တိုင်း မပြတ် စားခြင်း ကြောင့်ကား။ ကိုယ် အသား တို့ သည်
လည်း ဆူဖြိုးခြင်း ရှိရာ၏။ ကာမဂုဏ် ကိုသာ သက်ဝင် သော
နှလုံးရှိသည်ဖြစ်၍လည်း။ ရာဂ ဒေါသ မောဟ အစရှိသော ကိ
လေသာ တို့သည် တနေ့မပြတ် ပွားများခြင်းသို့ ရောက်လေ၏။
အကြား အမြင် မရှိ ခြင်း ကြောင့်ကား။ လော ကီ ပညာ လော
ကုတ္တရာ ပညာတို့ တပိုး တစိမျှ မပွား လေရာဟု ဟောတော် မူ
၏။ ဤ ဂါထာ၏ အဆုံး၌ များစွာ ကုန်သော သူတို့သည် သော
တာပန် တည်လေကုန်၏။ ဤသို့ဟောတော်မူသည့် ဓမ္မပဒပါဠိ
တော်ကိုမှီ၍။ ဓမ္မနီတိ ဆရာလည်း အစာစားခြင်း သည်လည်း
ကောင်း။ မေထုန် အကျင့်သည်လည်းကောင်း။ အိပ်ခြင်းသည်
လည်းကောင်း။ ဤသုံးပါးသောအလေ့သဘောတို့သည်။ နွား၌
လည်းကောင်း။ လူ၌ လည်းကောင်းရှိ၏။ လူ၏ နွားထက်အထူး
ကား အတတ်ပညာသာလျှင်တည်း။ ထိုအတတ်ပညာယုတ်ခဲ့
မူကား။ ထိုသူသည် နွားနှင့်တူသည်ဖြစ်၏။ ထိုအဂ္ဂိဒတ္တပုဏ္ဏား
ဝတ္ထု ကို ဟောတော် မူသည်မှ စ၍။ သာ သနာ တော်၌ သုတ
နည်းသောသူတို့ စကားအပြောအဆိုချွတ်လွဲလျှင်။ ပုဏ္ဏားနွား
တဘက် သာရှိ၍ နွားတဘက် တောင်းသည်ကို အဆက် မှား
လေသကဲ့သို့ဟု။ ယခုတိုင်အောင်လူတို့ဥပမာပြု၍။ပြောစည်ပြု
ကြကုန်၏။ ဤကိုထောက်၍။ ပစ္စုပ္ပန်သံသရာ၌စီးပွားချမ်းသာ
ကို အလိုရှိကုန်သောသူတို့သည်။ ကျမ်းဂန်၌လာသော ဝတ္ထုပုံ
စံ နည်းနာ ဥပဒေသ တို့ကို။ အစွမ်းအား လျော်စွာ သင်ကြား
လေ့ကျက် ဆောင်ရွက်မှတ်သား ကုန်ရာ၏။ အရွယ်အခါမရှိ၍

များစွာ မမှတ် မသား မသင် ကြား နိုင် သော် လည်း။ ဒါန အပြား။ သီလ အပြား။ ဘာဝနာ အပြား။ ခန္ဓာ အာယတန စသည် ပရမတ္ထ အပြားတို့တွင်။ တခုခုမျှကိုပင်လည်း အစွဲအလမ်းပြု၍။ မေးမြန်းနှီးနှော ပြောဆိုမှတ်နာ လေ့လာခြင်းရှိလျှင်။ ဗဟုသုတ ပုဂ္ဂိုလ်ရမှာပင်ပါသေး၏။ အန္ဓပုထုဇဉ်။ ကလျာဏပုထုဇဉ် နှစ်ပါးတွင်။ ကလျာဏ ပုထုဇဉ် ဟူသော အရေ အတွက် သို့ ပါဝင်၏။ သုတပညာနည်းနာနယ၌။ ဆန္ဒဝါသနာ ဤဘာဝကရှိ ပါလျှင်။ နောင် သံသရာ၌လည်း လောကီ စည်းစိမ် လောကုတ္တ ရာစည်းစိမ်တို့၏ အခြေအမြစ် ဖြစ်ပါ၏။ ခပ်သိမ်းသော စည်း စိမ်တို့၏ မျိုးစေ့ကား ပညာ သာလျှင်တည်း။ ဤသို့လှူသော် ညံ့ ၏။ ဤသို့လှူသော်မြတ်၏ စသည်ဖြင့် ဒါနအပြားကိုသိရမှ။ တ ခုသော ဒါနဝတ္ထုကို လှူသည်ရှိသော်။ တရာ မကသော ဒါနအ ပြားကို ဖြစ်စေလျက် လှူနိုင် ရာ၏။ ထိုကုသိုလ် နောင်အခါ အ ကျိုးပေးသည်ရှိသော်။ မဟောသဓာ စသောသူတို့ကဲ့သို့။ အ မျိုးမြတ်ခြင်း။ စည်းစိမ်ကြီးခြင်း။ အဆင်းလှခြင်း။ ပညာကြီး ခြင်းစသော ကောင်းကျိုးနှင့်အညီ ပေးလေရာ၏။ သုတ ပညာ နည်းသောသူတို့၏ ဒါနကား အယုတ်အမြတ် အထူး အပြားကို မသိဘဲပေးရခြင်းကြောင့်။ ထိုနှင့်လျော်စွာသော အကျိုးကိုပေး သည်ဖြစ်၍ အလုံးစုံမရုံမညီနိုင်။ သီလစသည်မှာလည်း။ ထိုကဲ့ သို့ပင် သုတပညာရှိမှ။ အပြားကိုသိမည်။ အပြားကိုသိမှ။ ကု သိုလ် အခက်အလက် များမည်။ အခက်အလက် များမှ။ အသီး အပွင့်ထွားစက်ပျံ့ပွားမည်ဟုမှတ်ကုန်ရာ၏။

နိဋ္ဌိတံ။ ပြီးပြီ။